**ပုံနှိပ်မှတ်တမ်း**

စာမူခွင့်ပြုချက်အမှတ် [၁၆၂/၂၀၀၁(၂)]
မျက်နှာဖုံးခွင့်ပြုချက်အမှတ် [၄၁၈/၂၀၀၁(၇)]
ဒုတိယအကြိမ်၊ အုပ်ရေ - ၁၀၀၀၊
၂၀၀၂ ခုနှစ်၊ မေလ။

**တန်ဖိုး**

၇၀၀ - ကျပ်

**မျက်နှာဖုံးပုံနှိပ်သူ**

ဦးထွန်းထွန်း (၀၂၇၂၆)၊ အောင်မြင့်ထွန်း ပုံနှိပ်တိုက်၊
အမှတ်(၂၂၄)၊ လမ်း-၄၀၊ ရန်ကုန်။

**အတွင်းပုံနှိပ်သူ**

ဦးတင်မောင်ဝင်း (၀၅၉၄၆)၊ သင်းလဲ့ဝင်း ပုံနှိပ်တိုက်။
အမှတ်(၁)၊ ဗိုလ်ရာညွန့်လမ်း၊ ယောမင်းကြီးရပ်ကွက်
ဒဂုံမြို့နယ်၊ ရန်ကုန်။

**ထုတ်ဝေသူ**

ဦးအောင်ကြီး (၀၉၆၈)
ရွှေပုရပိုဒ်စာပေ
အမှတ်-၅၊ တင့်ဆန်းလမ်း၊ ဝွတ္တလစ်၊ ရန်ကုန်မြို့။

**မျက်နှာဖုံးသရုပ်ဖော်**

ကျော်မင်းမောင်

**ကွန်ပျူတာစာစီ**

Future Computer Bureau

**အတွင်းဖလင်** - ကိုဇင်ဦးနှင့်ညီများ
**စာအုပ်ချုပ်** - 'လှိုင်' ကိုတင်အေး

# ရှေးတာဝ နောက်တာဝ

# ဗုဒ္ဓ မဝေဖန်

နှင့်

ဓမ္မစာစုများ

(ဒုတိယအကြိမ်)

## ဝင်းသိန်းဦး

ပထမအကြိမ်ထုတ်ဝေစဉ်က
မပါရှိခဲ့သော
ဆောင်းပါးအသစ်များ
ထပ်မံဖြည့်စွက်ဖော်ပြထားပါသည်။

**FUTURE**
**Publishing House**
No.52(A),Ground Floor, 12th Street
Lanmadaw Twonship, Yangon.
Ph:(01) 224431

# မာတိကာ

# မာတိကာ

# ဆရာဦးလေးမြိုင်၏
# ပဋိညာတဗွ

ကျွန်ုပ်တို့ မြန်မာနိုင်ငံ၌ လွတ်လပ်စွာယုံကြည်ကိုးကွယ်မှု ရှိနေပေသည်။ ဘာသာဝင်အသီးသီးတို့သည် မိမိတို့၏ ဘာသာအယူဝါဒတိုးတက်ပြန့်ပွားရန် ကြိုးပမ်းဆောင်ရွက်နေကြလေသည်။ ၎င်းတို့သည် မိမိတို့၏ ဘာသာအယူဝါဒ ကျယ်ကျယ်ပြန့်ပြန့် ဖြန့်ကျက်နိုင်ရေးနှင့် အရှိန်အဝါသြဇာ မြင့်မားရေးအတွက်ဆောင်ရွက်ရာတွင် အစီအစဉ်ရှိကြသည်။ စနစ်ရှိကြသည်။ စည်းကမ်းရှိကြသည်။ ယင်းအစီအစဉ်-စနစ်-စည်းကမ်းများကို ၎င်းတို့၏ဆန္ဒ၊ ၎င်းတို့၏ရည်ရွယ်ချက်၊ ၎င်းတို့၏ အမြော်အမြင်အရ သတ်မှတ်ပြဋ္ဌာန်းထားကြလေသည်။ သတ်မှတ်ပြဋ္ဌာန်းချက်အတိုင်း လေးလေးစားစား အရေးတယူလိုက်နာ ဆောင်ရွက်နေကြသည်။ ထို့ကြောင့်လည်း အောင်မြင်မှုရရှိနေကြပေ၏။

လူ့လောက လူ့ကမ္ဘာကြီး၌ နယ်ပယ်အမျိုးမျိုးရှိနေသည်။ 'လူမှုရေးနယ်ပယ်များ' ဟုဆိုကြပါစို့။ စီးပွားရေးနယ်ပယ်၊ ယဉ်ကျေးမှုနယ်ပယ်၊ နိုင်ငံရေးနယ်ပယ်၊ ဘာသာရေးနယ်ပယ်စသည်တို့ အကျုံးဝင်ပေသည်။ လူတိုင်းသည်. . .၊ လူမျိုးတိုင်းသည်. . . မိမိတို့၏နယ်ပယ်အရပ်ရပ်ကို ကျယ်ပြန့်အောင်-အရှိန်အဝါသြဇာရှိအောင် ဆောင်ရွက်နေကြ၏။ ဤသည်မှာ အမျိုးသားရေးတာဝန်ဖြစ်၏။ သမိုင်းပေးတာဝန်လည်း ဖြစ်၏။

ကျွန်ုပ်တို့မြန်မာနိုင်ငံ၌ နိုင်ငံတကာမှဘာသာမျိုးစုံတို့ ရောက်ရှိနေသည်မှာ အချိန်ကာလ ကြာမြင့်ခဲ့ပြီဖြစ်သည်။ ဘာသာဝင်အသီးသီးတို့သည် ၎င်းတို့၏ဘာသာ တိုးတက်ပြန့်ပွားရန် အားထုတ်ကြိုးပမ်းဆောင်ရွက်ရာ၌ အောင်မြင်မှုရရှိနေကြသည်။ ပို၍ပို၍ အောင်မြင်မှုရရှိရန်လည်း အလားအလာရှိနေကြသည်။

ယင်းကဲ့သို့ အောင်မြင်မှုရရှိနေသည်မှာ အထက်တွင်ဖော်ပြခဲ့သည့်အတိုင်း ၎င်းတို့သည် ယုံကြည်ကိုးကွယ်ရာဘာသာတရား တိုးတက်ပြန့်ပွားရန်ဆောင်ရွက်ရာ၌ အစီအစဉ်ရှိခြင်း၊ စနစ်ရှိခြင်း၊ စည်းကမ်းရှိခြင်း၊ ရည်ရွယ်ချက်ရှိခြင်း၊ ယုံကြည်ချက်ဖြင့် အလေးအနက်ထားရှိခြင်းတို့ကြောင့်

ဖြစ်သည်။

ထို့ပြင် ၄င်းတို့ယုံကြည်ကိုးကွယ်သည့် ဘာသာတရားကို သိရှိနားလည်ထားကြ၏။ ယင်းသို့ သိရှိနားလည်အောင်လည်း ငယ်ရွယ်စဉ်ကတည်းက လေ့လာ-လေ့ကျင့်ကြရ၏။ ထိုအချက်သည် အထူးအရေးပါ အရာရောက်ပေသည်။

ကျွန်ုပ်တို့ ဗုဒ္ဓဘာသာဝင်အများစုသည် ဗုဒ္ဓဘာသာကို ရေရာသေချာစွာမသိကြပေ။ ထို့ကြောင့်ပင် ယုံကြည်မှု-လိုက်နာမှု-အရေးထားလေးစားမှုများ အားနည်းလျက်ရှိနေကြပေသည်။ ယင်းသည့် အားနည်းချက်ကြောင့်ပင် ဗုဒ္ဓဘာသာဝင်အရေအတွက် စာရင်းဇယားထဲမှ အခြားဘာသာဝင် စာရင်းဇယားထဲသို့ ကူးပြောင်းရောက်ရှိသွားကြသည်မှာ များပြားလှပြီဖြစ်၏။ "အရေအတွက်သည် ပဓာနမဟုတ်" ဟု ဆိုသော်လည်း "အရေအတွက်မှ အရည်အချင်းသို့ကူးပြောင်းခြင်း နိယာမဖြစ်စဉ်" ကို ကျွန်ုပ်တို့မမေ့သင့်ပေ။

ဗုဒ္ဓသာသနာ ဗုဒ္ဓဘာသာ တိုးတက်ထွန်းကားရေးအတွက် အခြေခံလိုအပ်ချက်မှာ (၁) စစ်မှန်သောဗုဒ္ဓဘာသာကို အနည်းဆုံးအခြေခံသဘောလောက် ကျနသေချာသိရှိထားခြင်းနှင့် (၂) ဗုဒ္ဓဘာသာမဟုတ်ပါဘဲလျက် ဗုဒ္ဓဘာသာဟုအထင်မမှားစေရန် ကပ်မြှောင်ရောယှက်နေသည့် အခြားယုံကြည်ကိုးကွယ်မှုများကို ခွဲခွဲခြားခြားသိမြင်ခြင်းတို့ ဖြစ်သည်။

ဓမ္မစာပေကလောင်ရှင် ဆရာဝင်းသိန်းဦး ၏ "*ရှေးဘဝ နောက်ဘဝ ဗုဒ္ဓ မခဝဖန် နှင့် ဓမ္မစာစုများ*" စာအုပ်သည် အထက်ဖော်ပြပါ လိုအပ်ချက်နှစ်ချက်ကို ကောင်းစွာဖြည့်ဆည်းပေးနိုင်ပါ၏။ ***လမ်းမှားကို စမ်းတဝါးလျှောက်ခဲ့မိသူ အများအပြားသည် ဆရာဝင်းသိန်းဦး၏ ဓမ္မစာစုများကို ဖတ်ရှုပြီးသောကြောင့် အမြင်အသိပြောင်းလဲကာ လမ်းမှန်ပေါ်သို့ ရောက်ရှိနေပြီဖြစ်ကြောင်း ကျွန်ုပ်တို့ကိုယ်တိုင် ကြုံတွေ့သိရှိရပေသည်။***

ဤ "*ရှေးဘဝနောက်ဘဝ ဗုဒ္ဓမခဝဖန်နှင့် ဓမ္မစာစုများ*" စာအုပ်သည် အမျိုး၊ ဘာသာ၊ သာသနာအကျိုး သယ်ပိုးလိုသူတို့အတွက် စွမ်းအားကြီးစွာဖြင့် ကူညီပံ့ပိုးပေးလိမ့်မည် ဖြစ်ပါကြောင်း ပဋိညာဉ်ပေးလိုက်ရပေသည်။ ။

**လေးမြိုင်**

# စာရေးသူ၏ ရည်ရွယ်ချက်

လူဟူသည် တစ်ဦးတစ်ယောက်တည်း ရှင်သန်ရပ်တည်နေထိုင်၍ ရသောသတ္တဝါ မဟုတ်ပေ။ အုပ်စု၊ အသင်းအပင်း၊ အဖွဲ့အစည်းနှင့် နေထိုင်ကြရသည့်အလျောက် လူသားတစ်ဦးချင်းစီ၏ကံကြမ္မာကို သူတို့၏ ပတ်ဝန်းကျင် လူ့အဖွဲ့အစည်းက များစွာသြဇာလွှမ်းမိုးလျက် ရှိပေသည်။ ထို့ကြောင့် မိမိကိုယ်တိုင်နှင့် မိမိ၏သားစဉ်မြေးဆက်ကိုပါ ကြီးပွားတိုးတက်စေလိုသူတိုင်း မိမိပတ်ဝန်းကျင်လူ့အဖွဲ့အစည်း၏ အရေးကိစ္စမှန်သမျှကို အလေးထားရန် လိုအပ်လှပေသည်။ ရေမြင့်မှကြာတင့်ရသလို မိမိ ပတ်ဝန်းကျင် လူ့အဖွဲ့အစည်း၏ စိတ်ပိုင်းနှင့်ရုပ်ပိုင်းဆိုင်ရာအဆင့်အတန်း မြင့်မားပါမှ အဖွဲ့အစည်းဝင်လူသားတစ်ဦးချင်းစီ၏ လူနေမှုဘဝအဆင့် အတန်း မြင့်မားလာပေလိမ့်မည်။

ထေရဝါဒ ဗုဒ္ဓဘာသာဝင်အများစု ပါဝင်ဖွဲ့စည်းထားသော လူ့အဖွဲ့အစည်းတစ်ရပ်အတွင်း ပေါက်ဖွားကြီးပြင်းလာခဲ့ရသော စာရေးသူသည် မိမိနှင့်တကွ မိမိ၏သားစဉ် မြေးဆက်တို့၏ အနာဂတ်ဘဝကို လှပတင့်တယ် စေလိုသောဆန္ဒ ပြင်းပြလှပါသည်။ ထိုဆန္ဒ ပြည့်ဝရန်မှာ မိမိ တစ်ဦးကောင်း တစ်ယောက်ကောင်း ကြိုးပမ်းအားထုတ်၍ရသော ကိစ္စ မဟုတ်ဆိုသည့်အချက်ကိုလည်း နားလည်သဘောပေါက်ပါသည်။

လူ့အဖွဲ့အစည်းတစ်ခုအတွင်း နေထိုင်ကြသူတို့အကြား ပျံ့နှံ့တည်ရှိနေသော ရည်မှန်းချက်ပန်းတိုင်များ၊ ယုံကြည်ချက်များ၊ စံသတ်မှတ်ချက်များ၊ ပြောစမှတ်စကားများ၊ တန်ဖိုးထားမှုများနှင့် မှတ်ယူချက်များ ပါဝင်သည့် အဖွဲ့အစည်းဆိုင်ရာ ယဉ်ကျေးမှုအဆင့်အတန်း မြင့်မားပါမှ အဖွဲ့အစည်းဝင် လူသားတစ်ဦးချင်းစီ၏ ကြိုးပမ်းအားထုတ်မှု မှန်သမျှ အရာထင်ကာ မိမိစွမ်းအားရှိသလောက် အကျိုးခံစားခွင့်ရရှိကြမည် ဖြစ်ပါသည်။

---

အဖွဲ့အစည်းဆိုင်ရာ ယဉ်ကျေးမှုအဆင့်အတန်း မြင့်မားလာလေလေ၊ အဖွဲ့အစည်းဝင်လူသားတို့၏ ကာယကံ၊ ဝစီကံ၊ မနောကံ တည်းဟူသော ကံသုံးပါးဖြင့်ပြုသမျှ ကိစ္စအဝဝတို့တွင် သုစရိုက်တရားများ ထွန်းကားလေလေပင် ဖြစ်ပါသည်။ ထိုသို့သော လူ့အဖွဲ့အစည်းမျိုးတွင် ပေါက်ဖွားကြီးပြင်း နေထိုင်ရသူတို့သာလျှင် လူဖြစ်ရကျိုးနပ်သူများ၊ ထိုက်တန်စွာ လူလာဖြစ်ရသောသူများဟု စာရေးသူ ခံစားနားလည်မိပါသည်။

စာရေးသူ ပေါက်ဖွားကြီးပြင်းနေထိုင်ရာ လူ့အဖွဲ့အစည်းတွင် ***ထေရဝါဒဗုဒ္ဓသာသနာ*** တည်းဟူသော မြင့်မြတ်မှန်ကန်၍ စံထားအပ်သည့် ရည်မှန်းချက်ပန်းတိုင်များ၊ ယုံကြည်ချက်များ၊ စံသတ်မှတ်ချက်များ၊ ပြောစမှတ်စကားများ၊ တန်ဖိုးထားမှုများနှင့် မှတ်ယူချက်များ ပါဝင်သော အဖွဲ့အစည်းဆိုင်ရာ ယဉ်ကျေးမှုတစ်ရပ် ပျံ့နှံ့တည်ရှိနေသည်မှာ ဘဝပေးကုသိုလ်ကောင်းလေစွဟု ဆိုနိုင်လောက်ပါသည်။

သို့သော် လက်တွေ့အားဖြင့် လေ့လာသုံးသပ်ကြည့်လိုက်သော အခါတွင်ကား မိမိတို့ကိုယ်ကို ***ထေရဝါဒဗုဒ္ဓဘာသာဝင်ပါ*** ဟု ကြွေးကြော်နေသူ လူအတော်များများ၏ တွေးခေါ်၊ ပြောဆို၊ ပြုမူလုပ်ကိုင်ပုံတို့မှာ ထေရဝါဒဗုဒ္ဓသာသနာတော်လာ အဆုံးအမ၊ လမ်းညွှန်ချက်များမှ သွေဖည်စံလွဲနေသည်ကို တွေ့ရှိရပါသည်။

ယင်းကဲ့သို့ အဖွဲ့အစည်းဆိုင်ရာယဉ်ကျေးမှုနှင့် အဖွဲ့အစည်းဝင်တို့၏ လက်တွေ့ဘဝနယ်ပယ်တွင် တွေးခေါ်၊ ပြောဆို၊ ကျင့်ကြံပုံတို့ အကြားကွာဟချက် ဖြစ်ပေါ်နေခြင်းကို ***ယဉ်ကျေးမှုဟာကွက်*** ပေါ်ထွန်းခြင်းဟု အဖွဲ့အစည်းဆိုင်ရာအပြုအမူကို လေ့လာသည့် သုတေသီပညာရှင်တို့က ခေါ်ဝေါ်သုံးစွဲကြပါသည်။ အဖွဲ့အစည်းဆိုင်ရာ ယဉ်ကျေးမှုအဆင့်အတန်း မည်မျှမြင့်မားနေပါစေ၊ ယဉ်ကျေးမှုဟာကွက် ပမာဏ ကျယ်ပြန့်လျှင် ကျယ်ပြန့်သလောက် လူ့အဖွဲ့အစည်းတစ်ခု၏ တိုးတက်ဖွံ့ဖြိုးမှုအရှိန်အဟုန်ကို နှောင့်နှေးကြန့်ကြာသွားစေတတ်ပါသည်။

ထို့ကြောင့် အဆိုပါယဉ်ကျေးမှုဟာကွက်ပမာဏ ကျဉ်းမြောင်းသည်ထက် ကျဉ်းမြောင်းအောင်လုပ်ဆောင်ရန်မှာ မိမိပတ်ဝန်းကျင် လူ့အဖွဲ့အစည်း တိုးတက်ဖွံ့ဖြိုးခြင်းမှတစ်ဆင့် မိမိနှင့်တကွ မိမိ၏သားစဉ်မြေးဆက်တို့၏ အနာဂတ်ဘဝ သာယာဝပြောမှုကိုလိုလားသူ လူသားတိုင်း မဖြစ်မနေ အကောင်အထည်ဖော်ရမည့် တာဝန်တစ်ရပ်ပင် ဖြစ်ပါသည်။

ထိုသို့သောခံယူချက်ဖြင့် စာရေးသူသည် ဤ 'ရှေးဘဝနောက်ဘဝ ဗုဒ္ဓမဝေဖန်နှင့် ဓမ္မစာစုများ' ကို ရေးသားခဲ့ခြင်း ဖြစ်ပါသည်။

ဤစာစုများသည် ထေရဝါဒဗုဒ္ဓဘာသာဝင်ပါဟု မိမိတို့ကိုယ်ကို ခံယူထားသူ လူသားများဖြင့် ပေါင်းစပ်ဖွဲ့စည်းထားသော၊ လူ့အဖွဲ့အစည်း တစ်ခုအနေဖြင့် 'စံထားအပ်သောယဉ်ကျေးမှု' နှင့် 'လက်တွေ့ဘဝအခြေအနေ' တို့အကြား ဆန့်ကျင်ကွာဟနေသည့် အချက်များကို အပြုသဘောဆောင် ဝေဖန်အကြံပြုရေးသား တင်ပြထားချက်များသာဖြစ်ပါသည်။ ထို့အပြင် ထေရဝါဒဗုဒ္ဓသာသနာတော်၏ အဆုံးအမအစစ်အမှန်ကို တတ်စွမ်းသမျှ မီးမောင်းထိုးပြထားသည်ဖြစ်ရာ အချို့စာစုများတွင် အခြားသောအယူဝါဒများနှင့် နှိုင်းယှဉ်တင်ပြမှုများပါရှိခဲ့ပါသည်။

ယင်းတို့မှာ မိမိတို့ကိုယ်ကို 'ထေရဝါဒဗုဒ္ဓဘာသာဝင်ပါ' ဟု ကြွေးကြော်ပြီး အပြောတခြားအလုပ်တခြားဖြစ်နေသူတို့အား အသွင်သဏ္ဍာန် *(Phenomenon)* နှင့် အနှစ်သာရ *(Essence)* တို့အကြားကွဲပြားမှုကို နားလည် သဘောပေါက်လာစေရန် ပိုင်းခြားစိတ်ဖြာ တင်ပြလိုသည့်ဆန္ဒမှ တစ်ပါး အခြားမည်သည့်ယုံကြည်ကိုးကွယ်ရာ ဘာသာတရားတို့ကိုမျှ ထိပါးစော်ကားလိုသောစေတနာ လုံးဝမပါရှိပါကြောင်း လိပ်ပြာသန့်စွာအစီရင်ခံလိုပါသည်။

ဤစာစုများကို ဆရာ(ဦး)လေးမြိုင်စီစဉ်သော ဓမ္မရံသီဓမ္မမဂ္ဂဇင်းတွင် ၁၉၉၀ပြည့်နှစ်မှ ၁၉၉၈ခုနှစ်အထိ အလျဉ်းသင့်သလို ရေးသားဖော်ပြခဲ့ပြီးလည်း ဖြစ်ပါသည်။ ထိုစဉ်အခါက စာဖတ်ပရိသတ်အတွင်းရှိ ရဟန်းပညာရှိ လူပညာရှိတို့ထံမှ ဝေဖန်အကြံပြုခြင်း၊ အားပေးထောက်ခံခြင်း များစွာ ခံယူရရှိခဲ့သလို ဆန့်ကျင်ဟန့်တား ရှုတ်ချမှုမျိုးစုံနှင့်လည်း ရင်ဆိုင်ကြုံတွေ့ခဲ့ရပါသည်။

အခက်အခဲများစွာကြားမှပင် စာရေးသူ၏ခံယူချက် သဘောထားအမြင်များကို ဓမ္မရံသီဓမ္မမဂ္ဂဇင်းမှတစ်ဆင့် စာဖတ်ပရိသတ်ထံ တင်ပြနိုင်ခဲ့ပါသည်။ ယခုမူ ထိုစာစုများကို တစ်စုတစ်ပေါင်းတည်း စုစည်းထုတ်ဝေ နိုင်ခဲ့ပြီ ဖြစ်ပါသည်။

အလျဉ်းသင့်၍ ပြောလိုသည်မှာ ဤစာစုများရေးသားလာနိုင်စေရန် လိုအပ်သောအတိုင်းအတာတစ်ခုအထိ အသိဉာဏ်ပညာနှင့် ပြည့်စုံလာစေဖို့ စာရေးသူအား မွေးကျွေးပြုစုပျိုးထောင်ပေးခဲ့သော အဖ **ဦးသိန်းထွန်း** (ညောင်ဦးမြို့နယ်-ချောင်းရှည်ရွာ) နှင့် အမိ **ဒေါ်စံမြနိုင်**

(စစ်တွေမြို့) တို့၏ ကြီးမားလှစွာသော ကျေးဇူးတရားကိုလည်း မှတ်တမ်းတင်ခွင့် ပြုစေလိုပါသည်။

နိဂုံးချုပ်အနေနှင့်ကား စာရေးသူအား ဤစာစုများကို အဘယ်ကြောင့် ရေးသားခဲ့ပါသနည်းဟု တစ်စုံတစ်ယောက်က မေးမြန်းခဲ့ပါလျှင် မိမိကိုယ်တိုင်ရော၊ မိမိနှင့်ဘဝတူ လူသားအားလုံးပါ လူဖြစ်ရကျိုးနပ်စေလိုသည့်ဆန္ဒဖြင့် ရေးသားခဲ့ပါသည်ဟု ရိုးသားစွာဝန်ခံဖြေကြားမည်သာဖြစ်ပါကြောင်း။ ။

ဝင်းသိန်းဦး
(၁၉. ၇. ၁၉၉၈)

# မနေ့တနေ့ကတော့ မတူလေပြီ

"ဟေး ကိုဝင်း၊ စာရေးစားပွဲမှာတကုပ်ကုပ်နဲ့ ဘာတွေရေးနေပြန်တာတုံး"

"ဪ. . ကိုလင်းပါလား၊ ထုံးစံအတိုင်းပေါ့ဗျာ"

"သိပါတယ်ဗျာ၊ ဂါထာမန္တန်တွေ၊ ဗေဒင်ယတြာ၊ နတ်ဝိဇ္ဇာတွေ မယုံကြနဲ့၊ အားမကိုးကြနဲ့၊ ထေရဝါဒ ဗုဒ္ဓဘာသာဝင်တွေပီပီ ဗုဒ္ဓမြတ်စွာရဲ့ 'အတ္တာဟိ အတ္တနော နာထော' ဆိုတဲ့ ဓမ္မဒေသနာတော်နဲ့အညီ ကိုယ့်အားကိုယ်ကိုးကြပါ၊ ဒါတွေပဲမဟုတ်လား"

"ခင်ဗျားသိရင်လည်း ပြီးရောပေါ့ကိုလင်းရာ"

"သိလွန်းလို့ခက်နေတယ် ကိုဝင်းရေ့၊ ခင်ဗျားတို့ရေးနေတာတွေ ဖတ်ရဖန်များတော့ အမျိုးသားပညာဝန်ဦးဖိုးကျားရဲ့ ကိုယ်တွေ့ဝတ္ထုတိုတစ်ပုဒ်ကို သတိသွားရမိတယ်ဗျာ"

"ဆိုစမ်းပါဦးဗျာ၊ ဝတ္ထုနာမည်ကရောဘယ်လိုပါလိမ့်"

"အင်း. . . ဖတ်ရတာကြာပြီဆိုတော့ နည်းနည်းအတိမ်း အစောင်းတော့ရှိချင်ရှိမယ်၊ မှတ်မိသလောက်ပြောရရင် ဝတ္ထုနာမည်က *ကျွန်ုပ် အသိမ္မာ တိုးသောနေ့တစ်နေ့* တဲ့ဗျ၊ ကျွန်တော်တို့ နောင်တော်များခေတ်က ကျောင်းသုံးအဖြစ်တောင် ပြဋ္ဌာန်းခဲ့ဖူးတယ်"

"ကျွန်တော်တော့ မဖတ်ဖူးဘူး၊ ဆရာကြီးဟာ သူ့ခေတ်သူ့အခါက ဆိုရင် အလွန်ခေတ်မီပြီး ဗုဒ္ဓဘာသာစာပေနှံ့စပ်တဲ့ ပုဂ္ဂိုလ်ကြီးတစ်ဦးပဲ၊ ကဲကဲ . . ဇာတ်ကြောင်းလေး မှတ်မိသလောက် ပြောပြစမ်းပါဦးဗျာ"

"ဒီလိုဗျ၊ တစ်ခါတုန်းက ဆရာကြီးဟာ ကိစ္စတစ်ခုနဲ့ မီးရထားစီးပြီး ခရီးထွက်ခဲ့တယ်ဆိုပဲ၊ ရထားပေါ်မှာ ကျေးလက်သားတစ်ယောက်နဲ့ မျက်နှာချင်းဆိုင်ထိုင်မိကြတယ်၊ ဒီတော့ဆရာကြီးက အဲဒီလူရဲ့လက်မှာ မဲကြိုးပတ်ထားထာကို တွေ့လိုက်ရသတဲ့"

"ဪ. . . ဟိုတုန်းက ကျေးလက်သားတွေရဲ့ ရိုးရာယုံကြည်မှုတစ်ရပ်အနေနဲ့ အန္တရာယ်ကင်းဘေးရှင်းအောင်ဆိုပြီး အဆောင်လက်ဖွဲ့

အဖြစ် ပတ်ထားဟန်တူပါရဲ့”

“ဟုတ်ပ့ါဗျာ၊ ဒါနဲ့ ဆရာကြီးဦးဖိုးကျားက အဲဒီကျေးလက်သားကို ‘ဒီမဲကြိုးက ဘာအတွက်ဆောင်ထားရတာလဲ’ လို့မေးသဗျ၊ ဒီအခါမှာ ကျေးလက်သားက သူတို့ရွာကဘုန်းကြီးရဲ့အိပ်မက်အရ လပြည့်နေ့ တစ်နေ့မှာ ရွာကိုဘီလူးတွေဝင်ပြီး လူတွေကိုသတ်ဖြတ်စားသောက်ကြ လိမ့်မယ်၊ ဒါပေမယ့် သရဏဂုံတည်တဲ့လူကိုတော့ ဘီလူးကမစားနိုင်ဘူး၊ ဒါကြောင့် သရဏဂုံတည်သူနဲ့ မတည်တဲ့သူကို ဘီလူးတွေကခွဲခြားသိနိုင် အောင်ဆိုပြီး သရဏဂုံတည်သူတိုင်း မဲကြိုးဆောင်ထားရမယ်လို့ ဆရာတော် အမိန့်ရှိတာမို့ ဘီလူးအန္တရာယ်ကကင်းဝေးအောင် ဆောင်ထားရတာပါလို့ ဖြေသတဲ့ဗျ”

“မဟုတ်တာဘဲ ကိုလင်းရာ၊ ဒီမဲကြိုးဆောင်ထားရုံနဲ့ သရဏဂုံ တည်ပါပြီလို့ ဘယ်လိုလုပ်ပြောနိုင်မှာလဲ”

“ဟဲ့ . . ဟဲ့ . . ကိုဝင်း မေးခွန်းထုတ်သလိုပါပဲ၊ ဆရာကြီးကလည်း အဲဒီ ကျေးလက်သားကိုပြောတာပေ့ါဗျာ၊ ‘ဒီအယူအဆဟာ ယုတ္တိယုတ္တာ မရှိကြောင်း၊ သရဏဂုံဆိုတာ စိတ်ထဲကရတနာသုံးပါးကို ကိုးကွယ်ဆည်း ကပ်ရာအဖြစ် အမှန်တကယ်ယုံကြည်ဖို့သာ လိုအပ်ကြောင်း’ စသဖြင့် ဒီကျေးလက်သားကို ငါချွတ်မှကျွတ်တော့မဟဲ့ဆိုပြီး ဆရာလုပ်တော့ တာပေ့ါ”

“ဒီတော့ ကျေးလက်သားက ဘာပြန်ပြောသတဲ့တုံး”

“သူ့ခမျာမှာ စာတောင်ကောင်းကောင်း တတ်ရှာသူမဟုတ်လေ တော့ ဘာပြန်ပြောနိုင်ပ့ါမလဲ၊ ပါးစပ်အဟောင်းသားနဲ့ ငြိမ်နေရရှာတာပေ့ါ၊ အဲ . . . ဒါပေမဲ့”

“ဒါပေမဲ့ဘာဖြစ်သတုံး”

“အဲဒီလိုဦးဖိုးကျားက ကျေးလက်သားကို ချွတ်နေတာကြားရတဲ့ နောက်လူတစ်ယောက်ကမနေနိုင်လို့ စကားဝိုင်းထဲဝင်လာသတဲ့”

“သူကကော ဘယ်ဘက်ကလဲ၊ ဆရာကြီးဘက်ကလား၊ ကျေး လက်သားဘက်ကလား”

“သူက ဘယ်ဘက်ကမှ မဟုတ်ပါဘူး၊ ဒါပေမဲ့ ဆရာကြီးက အဲဒီအခါက ကျောင်းသားလူရွယ်တစ်ဦးဆိုတော့ တစ်ဖက်သားအတွက် ထည့်မစဉ်းစားဘဲ မှန်တယ်ထင်ရင်ထင်တဲ့အတိုင်း ပြောတတ်တာကို လက်တွေ့မှာ အကျိုးရှိ-မရှိသုံးသပ်နိုင်ဖို့ အပြုသဘောနဲ့ဝင်ပြီး ဝေဖန်

ပေးတယ်ပေါ့ဗျာ”

“သူက ဘယ်လိုများ ဝေဖန်ဆုံးဖြတ်ချက် ချပေးလိုက်သလဲဗျာ”

“အကျဉ်းချုံး ပြောရရင်တော့ဗျာ၊ သူက ဦးဖိုးကျားကို ‘မောင်ရင် ပြောတာ မှန်ပါတယ်’ တဲ့၊ ‘ဒါပေမယ့် ဒီကျေးလက်သားတစ်ယောက်အဖို့ မောင်ရင်တို့လို သိပ်ပြီးစဉ်းစားတွေးခေါ်တတ်ရှာတာ မဟုတ်လေတော့ ဒီမဲကြိုး ပတ်ထားခြင်းအားဖြင့် သူ့အတွက်အကျိုးမရှိချင်သာ နေပေမယ့် အကျိုးမယုတ်တန်ပါဘူး’ တဲ့၊ ‘ဘာကြောင့်လဲဆိုတော့ ဒီမဲကြိုးပတ်ထားလို့ သူ့မှာဘာမှထူးမလာပေမဲ့ ဒီမဲကြိုးသာမရှိခဲ့ရင် ဘီလူးတွေရှာထဲဝင်ပြီး လူတွေကိုသတ်ဖြတ် စားသောက်လိမ့်မယ်လို့ သူယုံကြည်ထားတဲ့ ညကျ သူ့ခမျာ အိပ်လို့တောင်ပျော်မှာမဟုတ်ဘူး၊ ဘယ်အချိန်မှာများ ငါ့ကိုဘီလူး တွေ အူဖောက် စားသွားမလဲဆိုပြီး ချွတ်ချွတ်သံကြားတိုင်း ဘီလူးတွေလား လို့ အမြဲတထိတ်ထိတ်တလန့်လန့် ဖြစ်နေရှာမယ်၊ အခုလို မဲကြိုးနဲ့ဆိုတော့ ဘယ်သွားသွားဘယ်လာလာ ဘယ်မှာပဲအိပ်အိပ် သူ့ယုံကြည်မှုနဲ့သူ အေးအေးလူလူ ပေါ့ပေါ့ပါးပါးသွားလာနိုင်တယ်၊ အိပ်ကောင်းချင်းနဲ့ အိပ်စက်နိုင်တယ်၊ ဒါကြောင့် သူ့အတွက် အကျိုးရှိတယ်ပေါ့ဗျာ”

“ဒီတော့ ဆရာကြီးကဘယ်လိုများ မှတ်ချက်ချခဲ့လဲဗျ”

“ဆရာကြီးလဲ အဲဒီအခါကျမှ ဒီလူပြောသလိုဆိုတော့လည်း ဟုတ်မှန်နေတာပါပဲလားလို့ သဘောပေါက်သွားခဲ့တယ်တဲ့ဗျာ”

“ဩော်. . . ဒါ့ကြောင့် ဒီဝတ္ထုကို ‘ကျွန်ုပ်အလိမ္မာတိုးသော နေ့တစ်နေ့’ လို့ အမည်မှည့်ခဲ့တာကိုး”

“မှန်ပါတယ်၊ နောက်ပြီးတဆက်တည်းမှာပဲ ယုံကြည်မှုရဲ့အစွမ်း သတ္တိထက်မြက်ပုံကို အနောက်တိုင်းဆေးပညာရှင်တွေ စမ်းသပ်ခဲ့ဖူးတဲ့ အကြောင်း၊ လူတစ်ဦးရဲ့လည်ပင်းကို လှီးဖြတ်ပြီးသတ်ခဲ့လို့ သေဒဏ်ချမှတ် ခံရသူ အကျဉ်းသားတစ်ယောက်ရဲ့ လည်ပင်းကသွေးကြောကို တကယ် မဟုတ်ဘဲ ဖြတ်ဟန်ပြုပြီး သွေးတွေစီးထွက်လာပုံ အတုလုပ်ပြလိုက်တော့ မိနစ်နှစ်ဆယ်လောက်အတွင်း အမှန်တကယ် သေဆုံးသွားတဲ့အကြောင်း၊ နောက်ပြီး တခြားရွာကဘုန်းကြီးရဲ့ ရေမန်းကိုခတ်ရမှ မျက်စိနာပျောက်မယ် လို့ ယုံကြည်သူတစ်ဦးကို ရိုးရိုးရေယူပြီး ဘုန်းကြီးရေမန်းအဖြစ် ညာခတ် ပေးလိုက်တော့ ချက်ချင်းဝေဒနာ သက်သာသွားတဲ့အကြောင်း၊ ဒါကြောင့်မို့ လူတွေရဲ့ယုံကြည်မှုကို အရယူလှည့်ဖြားကုသနေကြတဲ့ ပယောဂဆရာတွေ၊ နတ်ကတော်၊ ဘိုးတော်တွေအဖို့လည်း ဘယ်တော့မှ အလုပ်ရှားပါးမှာ

မဟုတ်တဲ့အကြောင်းရေးရင်း နိဂုံးချုပ်ထားတယ်ဗျ၊ ဒါကြောင့် ခင်ဗျားတို့က အမှန်တရားကို ညွှန်ပြတယ်ဆိုတိုင်း ပရိသတ်ရဲ့အဆင့်ကို ကြည့်ပြီးရေး ကြဖို့ သတိပေးချင်တယ်"

"အင်း . . . အမျိုးသားပညာဝန် ဦးဖိုးကျားဆိုတာ သူ့ခေတ် သူ့အခါမှာ အရွယ်နဲ့မလိုက်အောင် ထူးချွန်ပြောင်မြောက်တဲ့ ပညာရှင် တစ်ဦးပါ၊ သူ့ရဲ့မူရင်းရော မြန်မာမှုပြုတဲ့စာပေတွေမှာပါ အလေးဂရုပြု မှတ် သားသင့်တာတွေ အများကြီးပဲဗျ၊ သူ့ခေတ်သူ့အခါနဲ့ သူ့အတွေးအမြင်ကို ထင်ဟပ်ထားတဲ့ အခုနဝတ္ထုလေးကို ကျွန်တော်ဘာမှဝေဖန်သမှု မပြုလို ပေမယ့် အဲဒီဝတ္ထုနဲ့ပတ်သက်ပြီး ခင်ဗျားခံယူပုံကိုတော့ ကျွန်တော် စောဒက တက်ချင်တယ်ဗျာ"

"တက်ပါဗျာတက်ပါ၊ ခင်ဗျားနဲ့ကျွန်တော်နဲ့က ဒီလိုပဲငြင်းခုံရင်း အဖြေရှာနေကျပဲဥစ္စာ၊ အခုမှအဆန်းလုပ်ပြီး ခွင့်တောင်းနေစရာမလိုပါဘူး"

"ဒီလိုလေဗျာ၊ ကိုလင်းသတိပြုသင့်တာက ဆရာကြီးဦးဖိုးကျား အဲဒီဝတ္ထုကိုရေးသားခဲ့တဲ့ခေတ်ကာလနဲ့ အခုမျက်မှောက်ခေတ်ကာလတို့ အကြား လူသားတွေရဲ့အသိပညာ အဆင့်အတန်းချင်း မတူကြတော့ဘူး ဆိုတဲ့အချက်ပဲဗျ၊ အဲဒီခေတ်အခါတုန်းက ကျေးလက်သားအတော် များများ ဟာ ကိုလိုနီလက်အောက်ခံဘဝမှာ စာမတတ်ပေမတတ်နဲ့ အသိအမြင် ခေါင်းပါးနေချိန်မို့ သူတို့ကိုအသိပညာပေးရတာ မလွယ်လှဘူးဆိုတာ ကျွန်တော်လက်ခံပါတယ်၊ အခုမျက်မှောက်ခေတ်မှာတော့ ကျေးလက်သား တွေဆိုပြီး အထင်သေးလို့ မရတော့ဘူးဗျ"

"အင်း . . ဒါလည်းစဉ်းစားစရာပဲ၊ အခုဆို ကျွန်တော်တို့ဆီမှာ ကျေးလက် တောရွာအနှံ့ ရေဒီယိုတွေ၊ တီဗွီတွေ၊ သတင်းစာတွေနဲ့ တခြား လူထုဆက်သွယ်ရေး နည်းလမ်းမျိုးစုံဟာ အတော်ကလေးခရီးပေါက်နေပြီ ဆိုတော့ အနည်းနဲ့အများတော့ ဝိဇ္ဇာ၊ သိပ္ပံပညာဆိုင်ရာ ဗဟုသုတတွေ တိုးပွားလာကြမှာအမှန်ပဲ"

"ဒါပေါ့ဗျာ၊ ဒီလိုဗဟုသုတ တိုးပွားလာတာနဲ့အမျှ ကျေးလက်သား တွေရဲ့ ဆင်ခြင်တွေးခေါ်ပုံဟာလည်း တိုးတက်လာပြီဗျ၊ သူတို့ရှေ့ကနေ ဦးဆောင်လမ်းညွှန်မှု ကောင်းရင်ကောင်းသလောက် သူတို့ရဲ့အသိတရား မြင့်မားလာတာနဲ့အမျှ သူတို့ရဲ့လုပ်နည်းကိုင်နည်းလည်း ပြောင်းလဲတိုးတက် လာကြလိမ့်မယ်။ လုပ်နည်းကိုင်နည်း တိုးတက်လာတာနဲ့အမျှ သူတို့ရဲ့ လူနေမှုအဆင့်အတန်းလည်း တစ်စထက်တစ်စ မြင့်မားလာမှာအမှန်ပဲ"

"ကိုဝင်းဆိုလိုတာက ကျေးလက်ဒေသဖွံ့ဖြိုးရေးအတွက် လုပ်ဆောင်ကြရာမှာ ကျေးလက်သားတွေရဲ့ အသိပညာအဆင့်အတန်းကို တတ်စွမ်းသမျှ မြှင့်တင်ပေးဖို့လိုအပ်တယ်ပေါ့၊ ဟုတ်လား"

"ဒါပေါ့ဗျာ၊ ဒီလိုကျေးလက်သားတွေရဲ့ အသိတရား၊ စဉ်းစား ဆင်ခြင်ပုံနည်းစနစ် တိုးတက်လာဖို့အတွက် အဓိကလိုအပ်ချက်က သူတို့ ဖတ်ရှုရမယ့်စာပေပဲဗျ။ အထူးသဖြင့် သူတို့ယုံကြည်ကိုးကွယ်ရာ ဘာသာ တရားနဲ့စပ်ဆိုင်တဲ့ ဘာသာရေးစာအုပ်၊ စာစောင်တွေဟာ သူတို့ရဲ့ဆင်ခြင်တုံ တရား မြင့်မားရေးအတွက် အများကြီးအထောက်အကူ ပြုနေတယ်။ သူတို့ ဖတ်တဲ့စာအုပ်၊ စာစောင်တွေထဲက ရေးသားဖော်ပြချက်တွေရဲ့ အကျိုးပြု စံနှုန်း မြင့်မားလာတာနဲ့အမျှ ခေတ်မမီတော့တဲ့ မိရိုးဖလာအယူအစွဲတွေ ပပျောက်ပြီး လက်ငင်းဒိဋ္ဌဓမ္မအကျိုးရှိမယ့် ယုံကြည်မှုအယူဝါဒတွေကို ရှာဖွေတွေ့ရှိလာကြလိမ့်မယ်၊ ထေရဝါဒဗုဒ္ဓဘာသာနဲ့ မကိုက်ညီတဲ့ အဆောင်လက်ဖွဲ့ယတြာတွေအပေါ် ယုံကြည်အားထားမှု လျော့နည်းလာ ကြမယ်။ စိတ်ကူးယဉ်ကယ်တင်ရှင်တွေကို စွဲလမ်းတမ်းတမျှော်မှန်းရင်း အချိန်ကုန်လူပန်း ဆင်းရဲမွဲတေနေကြမယ့်အစား ဗုဒ္ဓရဲ့အဆုံးအမနဲ့အညီ ကိုယ်ထူကိုယ်ထ ကိုယ့်အားကိုယ်ကိုးပြီး ကြီးပွားတိုးတက်အောင် လုံ့လ ဝီရိယ စိုက်ထုတ်လုပ်ကိုင်လာကြလိမ့်မယ်၊ ကျေးလက်သားတွေရဲ့ ကြိုးစား အားထုတ်မှု ကောင်းရင်ကောင်းသလို ကျေးလက်ဒေသဖွံ့ဖြိုး တိုးတက် လာမယ်၊ ကျေးလက်ဒေသဖွံ့ဖြိုးရင် မြို့ပြပြဿနာတွေ တဖြည်းဖြည်း လျော့ကျလာပြီး မြို့ပြမှာလည်း စည်ပင်ဖွံ့ဖြိုးလာလိမ့်မယ်။ မြို့ပြဖွံ့ဖြိုးတာနဲ့ အမျှ တိုင်းပြည်ဖွံ့ဖြိုးတိုးတက်လာပြီး အမျိုး၊ ဘာသာ၊ သာသနာအကျိုးကို ဆထက်ထမ်းပိုး ဆောင်ရွက်နိုင်ကြမှာပေါ့ဗျာ"

"ဟား ခင်ဗျားတွက်ပြလိုက်တော့လည်း ကျေးလက်ဒေသသား တွေရဲ့ တွေးခေါ်မြော်မြင်မှုအဆင့်အတန်းဟာ နိုင်ငံနဲ့လူမျိုးရဲ့အကျိုး စီးပွားနဲ့ တိုက်ရိုက်ဆက်နွယ်နေပါရောလား"

"သိပ်ဆက်နွယ်တာပေါ့ ကိုလင်းရာ၊ ဥပမာတစ်ခုပဲပြောမယ်ဗျာ၊ ဟိုခေတ်အခါတုန်းက ကျေးလက်သားတွေဟာ မြွေကိုက်ခံရတာကို ရှာသူ ပြုစားတယ်လို့ လွဲလွဲမှားမှားယုံကြည်ပြီး ပယောဂဆရာခေါ်ကုတယ်၊ ကုလို့ မရတော့သေကြရတယ်၊ ကျေးလက်ကလယ်ယာလုပ်သားတစ်ဦး မသေသင့် ဘဲသေရတာဟာ ကျွန်တော်တို့နိုင်ငံလို လယ်ယာထွက်ကုန်ကို အဓိကအား ထားနေရတဲ့ နိုင်ငံတစ်ခုအတွက် သာမန်ဆုံးရှုံးနစ်နာမှုတစ်ရပ် မဟုတ်ဘူးဗျ၊

ကျွမ်းကျင်တဲ့လယ်ယာလုပ်သားတစ်ဦးဖြစ်ဖို့ အချိန်ကာလဘယ်လောက် ယူရတယ်ဆိုတာ လယ်ယာလုပ်ငန်းနဲ့ နီးစပ်တဲ့လူတိုင်း သိပြီးသားပါ”

“အေးဗျ၊ တချိန်တုန်းကဆိုရင် ကျေးလက်ဒေသမှာ ဓားပြီး၊ တုတ်ပြီးတယ်ဆိုတဲ့ အဆောင်လက်ဖွဲ့တွေကို အဟုတ်မှတ်ယုံကြည်ပြီး စမ်းသပ်ကြရင်း ဓားဒဏ်ရာ၊ တုတ်ဒဏ်ရာနဲ့ သေတဲ့သူတွေတောင် ရှိခဲ့ဖူးတာပဲ။ လူလိမ်လူညာတွေရောင်းတဲ့ မြွေအန္တရာယ်ကင်း အဆောင်လက်ဖွဲ့ အားကိုးနဲ့ မြွေတောထဲနမော်နမဲ့သွားလို့ မြွေကိုက်ခံရသူတွေလည်း ရှိခဲ့ဖူး သဗျ၊ အသေအချာတွေးကြည့်ရင် နိုင်ငံတစ်နိုင်ငံရဲ့ လူနေမှုအဆင့်အတန်း ဟာ အဲဒီနိုင်ငံသားတွေရဲ့ တွေးခေါ်မြော်မြင်မှုနဲ့ တိုက်ရိုက်ဆက်နွယ် နေတာပဲ၊ နိုင်ငံသားတွေရဲ့ တွေးခေါ်မြော်မြင်မှု အဆင့်အတန်းဟာလည်း သူတို့ဖတ်ရှုလေ့လာ မှတ်သားခွင့်ရနေတဲ့ စာပေအဆင့်အတန်းနဲ့တိုက်ရိုက် အချိုးကျနေတာပဲ ကိုဝင်းရဲ့”

“ဒါပေါ့ကိုလင်းရာ၊ စာပေအဆင့်အတန်းမြင့်မှ နိုင်ငံနဲ့လူမျိုး အဆင့်အတန်းမြင့်ပေတော့မှာပေါ့၊ ဒါကို အလေးအနက်မထားဘဲ ‘တို့ဆီက စာဖတ်ပရိသတ်ရဲ့ အတွေးအခေါ်က ဒီလောက်မရင့်ကျက်လှသေးပါဘူး ကွာ၊ သူတို့နဲ့ထိုက်သင့်သလောက် လူပြိန်းကြိုက်လေးတွေရေးပြီး နှစ်သိမ့် လိုက်ရင် သူတို့လည်းကျေနပ်တို့လည်းငွေမြတ်’ ဆိုတဲ့ ဘယ်သူသေသေ ငတေမာရင်ပြီးရော စိတ်မျိုးမထားသင့်ဘူး၊ သိက္ခာရှိတဲ့စာရေးဆရာဆိုတာ စာဖတ်သူရဲ့ရှေ့က ဦးဆောင်လမ်းပြ ခေါ်ယူရရိုးထုံးစံပဲရှိတယ်၊ စာဖတ်သူ နောက်က မှီတွယ်ခိုကပ်စားသောက်တာမျိုး မလုပ်သင့်ဘူး၊ စာဖတ် ပရိသတ်ကို အထင်အမြင်သေးပြီး အလေးထားလောက်စရာ အတွေး အခေါ်မပါတဲ့စာပေမျိုးတွေနဲ့ ချွေးသိပ်တတ်တဲ့ စာရေးဆရာမျိုးလောက် စာဖတ်ပရိသတ်အပေါ် စော်ကားမော်ကားပြုတဲ့လူမျိုးလည်း ရှိမှာ မဟုတ်ဘူး”

“အေးဗျ၊ လူတွေအလေးအနက်ထား လေ့လာမှတ်သား လိုက်နာ ကျင့်ကြံကြတဲ့ ဘာသာရေးစာပေ ရေးသားကြတဲ့အခါမှာလည်း သက်ဆိုင်ရာ ဘာသာတရားကလမ်းညွှန်တဲ့ အယူဝါဒအစစ်အမှန်ကိုသာ တိတိကျကျ ရေးသားတင်ပြသင့်တယ်၊ ‘စာဖတ်ပရိသတ်က ဘာမှသိတာ မဟုတ်ဘူး၊ သူတို့အကြိုက်ရေးပေးလိုက်ရင် ပိုက်ဆံရတာပဲ’ ဆိုတဲ့ ယုတ်ညံ့ တဲ့ စိတ်ထားမျိုး မမွေးသင့်ဘူးဗျနော်”

“ဒါကြောင့် စာဖတ်သူအပေါ် စေတနာမပါဘဲ ဘာသာရေးစာရေး

ဆရာ လုပ်စားချင်သူတွေကို ကျွန်တော်တို့အကြံပြုလိုတာက ကနေ့ စာဖတ်ပရိသတ်ဟာ မနေ့ကစာဖတ်ပရိသတ်မဟုတ်တော့ဘူး၊ ဉုံတွေ၊ ဖွတွေ၊ ဟာချလောင်းတွေနဲ့သာ လူပြိန်းအကြိုက် လိုက်ရေးနေကြဦးမယ် ဆိုရင်ဖြင့် တစ်နေ့ထက်တစ်နေ့ ရင့်ကျက်လာပြီး တိုးတက်တဲ့အမြင်ရှိတဲ့ စာဖတ်ပရိသတ်က အပေါ်စားစာရေးသူတွေအဖြစ်နဲ့ ခေတ်စကားအရ ပြောရရင် မြောင်းထဲမှာ ထားရစ်ခဲ့ကြလိမ့်မယ်၊ စာဖတ်ပရိသတ်ရဲ့ လေးစားယုံကြည်မှုကို ရယူချင်တယ်ဆိုရင်ဖြင့် ကိုယ်ကလည်း စာဖတ်ပရိသတ်ကို လေးစားသောအားဖြင့် စေတနာရှေ့ထားပြီး အမှန်တရားကို ထုတ်ဖော်ရေးသားကြပါတော့-လို့ပါပဲဗျာ"

(၂-၁၂-၉၂)
ဓမ္မရံသီ၊ ၁၉၉၃ခုနှစ်၊ မတ်လ။

# ဥုံဆိုသည်မှာ

"ကိုလင်းတစ်ယောက် စာရွက်ကြီးကိုင်ပြီး နှုတ်ကလည်းတရွရွနဲ့ ဘာတွေများ ကျက်မှတ်နေတာတုံးဗျ"

"ဩော် . . . မိတ်ဆွေတစ်ယောက် ပေးထားတဲ့ ပုတီးစိတ်ဂါထာ လေးပါ ကိုဝင်းရာ၊ အသက်အရွယ်လေး ရလာပြီဆိုတော့ အားလပ်ချိန်မှာ ဘုရားအလုပ်၊ တရားအလုပ်ကလေးများ လုပ်မလားလို့လေ"

"ဟာ. . . တရားဘာဝနာပွားများတယ်ဆိုတာ ဒေသ၊ ကာလ အသက်အရွယ်မရွေး လုပ်သင့်တဲ့အလုပ်ပဲ၊ ကောင်းတာပေ့ါ။ ဒါ့ထက် ခင်ဗျားရဲ့ ပုတီးစိပ်ဂါထာလေး ကျွန်တော့်လည်း ပြစမ်းပါဦးဗျာ"

"ပုတီးစိပ်ဖို့ဂါထာဆိုတော့ သိပ်မရှည်လှပါဘူး၊ ကျွန်တော်ဖတ်ပြ ပါ့မယ်၊ **ဥုံ သိဒ္ဓိ** . . . "

"ဟိုးဟိုး . . . နေပါဦး ကိုလင်းရဲ့၊ ခင်ဗျာ့ပုတီးစိပ်ဂါထာက ဗုဒ္ဓဘာသာဂါထာမှ ဟုတ်ရဲ့လား"

"ဟာ. . . ကိုဝင်းကလဲ၊ ကျွန်တော့်ကို ဒီဂါထာပေးသွားတဲ့ မိတ်ဆွေက ဗုဒ္ဓဘာသာမှ ဗုဒ္ဓဘာသာစစ်စစ်ပါဗျ၊ အားရင် ပုတီးကိုလက်က မချအောင် ဘာသာတရားအလွန်ကိုင်းရှိုင်းတဲ့ ပုဂ္ဂိုလ်ပါဗျာ၊ သူပေးတဲ့ ဂါထာက ဗုဒ္ဓဘာသာဂါထာမဟုတ်လို့ ဘယ်ကဘာသာခြား ဂါထာများ ဖြစ်ဦးမလဲ"

"ခင်ဗျာ့မိတ်ဆွေ ဗုဒ္ဓဘာသာဝင် စစ်မစစ်ဆိုတာတော့ ကျွန်တော် မသိဘူး၊ ဂါထာရဲ့ရှေ့ဆုံးမှာ 'ဥုံ' ခံထားတာကြီးကတော့ ဘုရားဟောဂါထာ ပါလို့ပြောဖို့ရာ ဘဝင်မကျလှဘူးဗျာ"

"ကိုဝင်းနှယ် မြန်မာမှုဗဟုသုတ နည်းရန်ကောဗျာ၊ 'ဥုံမပါရင် ဂါထာမဖြစ်' ဆိုတဲ့စကားကို ခင်ဗျားမကြားဖူးဘူးလား၊ ဘယ်ဂါထာမန္တန် မဆို 'ဥုံ' ဆိုတဲ့ ရှေးဦးစကားလုံးလေးခံလိုက်မှ အစွမ်းထက်တယ်၊ လိုရာပြီး မြောက်တယ်ဆိုတဲ့ ရှေးလူကြီးသူမတွေရဲ့ အဆိုအဆုံးအမကို မနာခံခဲ့ရဖူး ဘူးထင်ပ့ါ"

"ကြားဖူးနာဖူးပြီလား ကိုလင်းရယ်၊ ကြားနာဖူးလွန်းလို့ ဒီ 'ဉုံ' ရဲ့ အနက် အဓိပ္ပာယ်ကို သိချင်စိတ် ပေါ်လာပြီး လေ့လာလိုက်တော့ လားလား . . . ဒီ 'ဉုံ' ဟာ စစ်မှန်တဲ့ ထေရဝါဒ ဗုဒ္ဓဘာသာနဲ့ ဘာမှမဆိုင်ဘူးဆိုတာ တွေ့ရတယ်ဗျ"

"ဟုတ်ပဲ့မလားဗျာ၊ အလွန်အစွမ်းထက်ပါတယ်ဆိုပြီး နာမည်ကြီး နေတဲ့ဂါထာတချို့ရဲ့ ရှေ့ဆုံးမှာတောင် 'ဉုံ' ခံထားတာတွေ့နေရတာပဲ"

"ဒါကတော့ ဗြာဟ္မဏဝါဒလောင်းရိပ်မကင်းတဲ့ အပယ်ခံဗုဒ္ဓ ဘာသာဝင်တချို့ရဲ့ လောကီအစီအရင်ဆိုင်ရာ ဂါထာမန္တန်တွေပါဗျာ၊ အဲဒီလို 'ဉုံ'ခံပြီး ဖွဲ့ဆိုစီရင်ထားတဲ့ဂါထာတွေကို သေသေချာချာ လေ့လာ ကြည့်ရင် ဘယ်ဟာမှ ဘုရားဟောဂါထာတွေ မဟုတ်ဘူးဆိုတာ တွေ့ရ လိမ့်မယ်"

"ဒါဖြင့် ဒီ 'ဉုံ' ဆိုတာဟာ ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓဘာသာ ပိဋကတ်သုံးပုံထဲမှာ လုံးဝမပါဘူးပေါ့"

"မှန်ပါ့ဗျာ၊ 'ဉုံ' ဆိုတာ ဗုဒ္ဓဘာသာ ပိဋကတ်ကျမ်းစာတွေနဲ့ လားလားမှမသက်ဆိုင်ဘဲ ဟိန္ဒူဗြာဟ္မဏဘာသာဝင်တို့ရဲ့ ဝေဒလေးပုံက ထွက်လာတဲ့ အက္ခရာစကားလုံးသက်သက်ပဲ ကိုလင်းရဲ့၊ ဟိန္ဒူဗြာဟ္မဏ ဘာသာဝင်တွေအတွက်တော့ 'ဉုံ' ဟာ တကယ့်ကိုအလေးအမြတ်ထားရာ အထွတ်အထိပ် အက္ခရာတစ်ခုပါပဲ"

"ကျွန်တော် ဗုဒ္ဓဘာသာ စာစောင်တစ်ခုမှာ ဖတ်ဖူးတာဖြင့် 'ဉုံ' ဆိုတာ ကမ္ဘာဦးနတ်မင်းကြီးသုံးပါးကို ရှိခိုးတဲ့အက္ခရာဖြစ်ကြောင်း၊ ဒါကြောင့် အလွန်မြင့်မြတ်တဲ့အကျိုးထူးကို ခံစားရရှိနိုင်ကြောင်း၊ အမွှမ်းတင် ဖော်ပြ ထားတာတွေ့ရပါတယ်ဗျ"

"ဒီလိုဆို အဲဒီကမ္ဘာဦး နတ်မင်းကြီးသုံးဦးရဲ့ အမည်နာမကိုကော ဖော်ပြမထားဘူးလားဗျာ"

"ဖော်ပြထားပါတယ်၊ ကမ္ဘာဦးနတ်မင်းကြီးသုံးဦးကတော့ **မဟာဗြဟ္မာ၊ ဗိဿနိုး** နဲ့ **ပရမေသွာ** နတ်မင်းကြီးတွေလို့ဆိုပဲ၊ ဒီအမည် တွေကို ဗုဒ္ဓဘာသာစာအုပ်စာတမ်းတချို့မှာလည်း တွေ့ရတတ်တာမို့ သူတို့ အမှန်တကယ်ရှိကြောင်း ဗုဒ္ဓမြတ်စွာကိုယ်တိုင်ဟောခဲ့တယ်လို့ ထင်မိတာပဲ"

"ကိုလင်းပြောတဲ့ ကမ္ဘာဦးနတ်မင်းကြီးသုံးဦးအကြောင်း ဖော်ပြ ထားတယ်ဆိုတဲ့ စာအုပ်စာတမ်းတွေဟာ တကယ်တော့ ဗုဒ္ဓမြတ်စွာရဲ့ စစ်မှန်တဲ့ ဒေသနာတော်တွေနဲ့အညီ ရေးသားထားတဲ့ ထေရဝါဒဗုဒ္ဓဘာသာ စာပေတွေ မဟုတ်ဘူးဗျ၊ ဗုဒ္ဓမြတ်စွာရဲ့အလိုအရဆိုရင် လောကမှာအဲဒီ

နတ်မင်းကြီးသုံးပါးဆိုတာ မရှိတဲ့အပြင် ဒီအယူအဆကို လုံးဝပစ်ပယ်သင့်ကြောင်း အကြိမ်ကြိမ်ဟောကြားခဲ့ဖူးတယ်ဗျ"

"ဒါဖြင့် တချို့ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတွေနေထိုင်ကြတဲ့ အရပ်ဒေသတွေမှာ ဗိဿနိုးနတ်မင်းကို နတ်ကွန်းကြီးတွေဆောက်ပြီး ကိုးကွယ်နေကြတာကရောဗျာ၊ တလောကဆို မဂ္ဂဇင်းတစ်အုပ်ထဲမှာ အညာကမြို့တစ်မြို့မှာရှိတဲ့ ဗိဿနိုးနတ်မင်း ရုပ်တုကြီးရဲ့မျက်နှာဟာ အခုနိုင်ငံကျော်ရုပ်ရှင်မင်းသား ရန်အောင့်မျက်နှာနဲ့အတော်တူကြောင်း ဓာတ်ပုံတွေဘာတွေနဲ့ ဖော်ပြထားတာတောင် ဖတ်လိုက်ရပါသေးဗျာ"

"ဒါကတော့ ကျွန်တော်တို့မြန်မာနိုင်ငံမှာ စစ်မှန်တဲ့ထေရဝါဒ ဗုဒ္ဓသာသနာ မထွန်းကားခင်ကတည်းရှိခဲ့တဲ့ ဟိန္ဒူဗြာဟ္မဏဝါဒနဲ့ မြောက်ပိုင်းဗုဒ္ဓဘာသာအမည်ခံ တန္တရ၊ မန္တရဝါဒတွေရဲ့ အကြွင်းအကျန် ယုံကြည်ကိုးကွယ်မှုတွေလို့ ဆိုရမှာပေါ့ဗျာ၊ ပျူခေတ်မှာ မြန်မာနိုင်ငံကို ဗုဒ္ဓသာသနာရောက်ခဲ့ပေမယ့် သီးသီးသန့်သန့် မထွန်းကားခဲ့ဘဲ နတ်နဂါးနဲ့ ဟိန္ဒူဗြာဟ္မဏနတ်တွေကသာ အကိုးကွယ်ခံဘဝမှာ ကြီးစိုးနေရာယူခဲ့တယ် ဆိုတာ ခင်ဗျားလည်း ရာဇဝင်မှာဖတ်ဖူးမှာပေါ့။ ပျူတွေဟာ သူတို့ရဲ့မြို့ ကိုတောင် ဗိဿနိုးမြို့လို့ မှည့်ခေါ်ခဲ့ကြသေးတာပဲ မဟုတ်လား"

"ဒီလိုဆိုရင်ဗျာ၊ အဲဒီဗိဿနိုးနတ်မင်းဆိုတာ ဗုဒ္ဓဘာသာနဲ့ ဘယ်လိုမှ မပတ်သက်တော့ဘူးလား"

"လုံးဝလုံးဝ မပတ်သက်ပါဘူးဗျာ၊ မပတ်သက်လို့သာ ပုဂံပြည်မှာ စစ်မှန်တဲ့ ထေရဝါဒဗုဒ္ဓသာသနာတော် ထွန်းကားရေးအတွက် ကြိုးပမ်းခဲ့ကြတုန်းက ပုဂံသားတွေကိုးကွယ်ခဲ့တဲ့ ဟိန္ဒူဗြာဟ္မဏနတ်ရုပ်တွေအားလုံးကိုစုပြီး ဗိဿနိုးနတ်ကွန်းကြီးတစ်ခုထဲကိုထည့်၊ သော့ခတ်၊ ပိတ်လှောင်ပစ်ခဲ့တာပေါ့။ အဲဒီနတ်ရုပ်တွေ လှောင်ခဲ့တာကိုအစွဲပြုပြီး အဲဒီဗိဿနိုး နတ်ကွန်းကြီးကို နတ်လှောင်ကျောင်းလို့ အမည်တွင်စေခဲ့တာဖြစ်တယ်လို့တောင် သုတေသီတချို့က ကောက်ချက်ချခဲ့သေးတာပဲ၊ အဲ . . . ဗုဒ္ဓသာသနာအတွက် အရေးမပါပေမဲ့ ဟိန္ဒူဗြာဟ္မဏတွေအဖို့တော့ ဗိဿနိုးနတ်မင်းကြီးဟာ သူတို့ရဲ့အထွတ်အမြတ် ရတနာမြတ်သုံးပါးမှာ တစ်ပါးအပါအဝင်ဖြစ်နေတာကို တွေ့ရတယ်ဗျ"

"ဗြာဟ္မဏဝါဒမှာလည်း ရတနာမြတ်သုံးပါး ရှိသေးလို့လား ကိုဝင်းရဲ့"

"ရှိပြီလား ကိုလင်းရယ်၊ ဘာသာအယူဝါဒ အတော်များများမှာ

ရတနာမြတ်သုံးပါးအယူအဆတွေ ရှိကြတယ်ဗျ၊ ကျွန်တော်သိသလောက် ပြောရရင် မဟာဗြဟ္မာ၊ ဗိဿနိုးနဲ့ သီဝ (မြန်မာအခေါ် ပရမေသွာ) တို့ဟာ တြိမူရ်တိ (ခေါ်) ဟိန္ဒူဗြာဟ္မဏဘာသာဝင်တို့ရဲ့ ရတနာမြတ်သုံးပါးဖြစ် သဗျ၊ သန့်ရှင်းသောဝိညာဉ်တော်၊ အဖဘုရားသခင်နဲ့ သားတော်သခင်ယေရှု တို့ဟာ တြိနတိ (ခေါ်) ခရစ်ယာန်တို့ရဲ့ရတနာမြတ်သုံးပါပဲဗျ၊ အဲ. . . ရှေးဟောင်းယုံကြည်ကိုးကွယ်မှုတွေမှာ ကြည့်မယ်ဆိုရင် ဘေဘီလုံတွေက အေနူး (လေ)၊ အဲန်နံလ် (ရေ)၊ အီအာ (မြေကြီး)၊ အီဂျစ်တို့က ဟိုရပ်စ်ဘေ့ (သိမ်းငှက်ခေါင်းပုံ)၊ ပျူတိုအကိုရီ (မြွေသဏ္ဌာန်)၊ ဟာသောရိ (ဖားခေါင်းပုံ) တို့ကို သုံးဆူတွဲဘုရားတွေအဖြစ် ကိုးကွယ်ခဲ့ကြတယ်ဗျ”

“ဗုဒ္ဓသာသနာတော်လာ ဘုရား၊ တရား၊ သံဃာဆိုတဲ့ ရတနာမြတ်သုံးပါးနဲ့ကော သဘောချင်းအတူတူပဲလားဗျ”

“မတူဘူးဗျ၊ ‘သုံးပါး’ ဆိုတဲ့ အရေအတွက်ချင်းတူပေမယ့် အနှစ်သာရမှာတော့ လုံးလုံးလျားလျား ကွဲပြားခြားနားတာကိုတွေ့ရတယ်၊ ဗုဒ္ဓသာသနာတော်လာ ရတနာမြတ်သုံးပါးရဲ့သဘောကိုတော့ သိပြီးသားမို့ ထပ်ရှင်းစရာ လိုမယ်မထင်ပါဘူး၊ အဲ. . . ကျန်တဲ့ ဘာသာတရားတချို့ရဲ့ ရတနာမြတ်သုံးပါး အယူအဆတွေကတော့ အတော်လေးနီးနီးစပ်စပ်ရှိကြပါတယ်။ ခရစ်ယာန်မှာ သန့်ရှင်းသောဝိညာဉ်တော်၊ အဖဘုရားသခင်နဲ့ သားတော်သခင်ယေရှုတို့ သုံးပါးပေါင်းကိုမှ တစ်ဆူတည်းသော ထာဝရဘုရားလို့ ယူဆကြသလိုပဲ၊ ဟိန္ဒူဗြာဟ္မဏဝါဒီတွေကလည်း မဟာဗြဟ္မာ၊ ဗိဿနိုးနဲ့၊ သီဝတို့သုံးပါးပေါင်းကိုမှ **အတ္တ** (ဝါ) **အတမန်** လို့ခေါ်တဲ့ တစ်ဆူတည်းသောထာဝရဘုရားလို့ ယုံကြည်ကြတယ်လေ”

“ဩ. . . ဟိန္ဒူဗြာဟ္မဏဝါဒကလည်း ဖန်ဆင်းရှင်ထာဝရဘုရားကို ယုံကြည်တာပဲနော်၊ အစက ဟိန္ဒူဗြာဟ္မဏဝါဒနဲ့ဗုဒ္ဓဘာသာဟာ သိပ်မကွာလှဘူးလို့ထင်ခဲ့တာ”

“ကွာပြီလား ကိုလင်းရယ်၊ ဟိန္ဒူဗြာဟ္မဏဝါဒက လောကမှာကိုယ့်ကိုယ်ကို အစဉ်အစိုးရပြီး ဘယ်တော့မှမဖောက်မပြန် ထာဝရတည်မြဲနေတဲ့ အမာခံအနှစ်သာရ (အတ္တ) ရှိတယ်လို့ယူဆတဲ့အတ္တဝါဒ၊ တစ်နည်းထပ်ပြောရရင် အဲဒီအတ္တကပဲ လောကကိုဖန်ဆင်းတဲ့ ထာဝရဘုရားသခင်ဖြစ်တယ်လို့ ယုံကြည်တဲ့ **ဣဿရဝါဒ** ပဲဗျ”

“ဒါဆို ဗုဒ္ဓဝါဒကရောဗျာ”

“ဗုဒ္ဓဝါဒက လောကမှာကိုယ့်ကိုယ်ကို အစဉ်အစိုးရနေပြီး

ဘယ်တော့မှမဖောက်မပြန် ထာဝရတည်မြဲနေတဲ့ အမာခံအနှစ်သာရဆိုတာ မရှိဘူး၊ အတ္တဆိုတာမရှိဘူးလို့ အတ္တကိုငြင်းပယ်တဲ့ အနတ္တဝါဒပဲ။ ဒါကြောင့် အတ္တဆိုတာမရှိတဲ့အတွက် ဖန်ဆင်းရှင်ထာဝရဘုရားသခင် ဆိုတာလည်းမရှိလို့ **အနိဿရဝါဒ** လို့ ဆိုနိုင်တယ်"

"အေးဗျာ၊ ဒီလောက် ကွဲပြားခြားနားနေတာကိုတောင် အနောက်တိုင်းသားအတော်များများနဲ့ မိရိုးဖလာဗုဒ္ဓဘာသာဝင်တချို့က ဗုဒ္ဓဝါဒနဲ့ ဟိန္ဒူဗြာဟ္မဏဝါဒကို ရောရောထွေးထွေးယူဆခဲ့ကြတယ်ဗျာ"

"ဘာသာရေး၊ ဗဟုသုတခေါင်းပါးမှုရဲ့ အကျိုးဆက်ပေါ့ဗျာ၊ ဝမ်းနည်းစရာကောင်းတာက အခုဗုဒ္ဓဘာသာမြန်မာလူငယ်တချို့ဟာ လျှာမှာ အပ်ကြီးတွေထိုး၊ တစ်ကိုယ်လုံးဝါထိန်အောင် နနွင်းလူးပြီး၊ လင်ပန်းတစ်ချပ်နဲ့ အလှူခံထွက်နေကြတဲ့ မြင်ကွင်းပဲဗျ၊ တခြားမပြောပါနဲ့ဗျာ၊ အခုခင်ဗျားကိုယ်တိုင်တောင် ဟိန္ဒူဗြာဟ္မဏဝါဒကလာတဲ့ 'ဥုံ' ဆိုတဲ့အက္ခရာကိုပဲ ဗုဒ္ဓဘာသာပုတီးစိပ်ဂါထာရှေ့မှာထားပြီး ရွတ်ဖတ်တော့မလို့ မဟုတ်လား"

"ဒါဖြင့် ဟိန္ဒူဗြာဟ္မဏဝါဒကနေလာတယ်ဆိုတဲ့ 'ဥုံ' ရဲ့သဘောအဓိပ္ပာယ်လေးလည်း ရှင်းစမ်းပါဦးဗျာ"

"ရှင်းရမှာပေါ့ ကိုလင်းရာ၊ 'ဥုံ' အကြောင်းမပြောခင် သိထားရမှာက ဗုဒ္ဓ၊ ခရစ်ယာန်၊ ဟိန္ဒူနဲ့ အစ္စလာမ်ဆိုတဲ့ ကမ္ဘာ့ဘာသာကြီး လေးခုထဲမှာ ဗုဒ္ဓဘာသာကလွဲရင် ကျန်ဘာသာကြီးသုံးခုစလုံးဟာ လောကကို ဖန်ဆင်းသူ ထာဝရဘုရားသခင်ရှိတယ်လို့ ယုံကြည်ထားကြတာချည့်ပဲဗျ၊ ထာဝရဘုရားအပေါ် အဓိပ္ပာယ်ဖွင့်ဆိုပုံချင်းတော့ အနည်းနဲ့အများခြားနားကြတာပေါ့လေ၊ ဒီဘာသာကြီးသုံးခုထဲမှာပဲ ပြန်ကြည့်မယ်ဆိုရင် ဟိန္ဒူဗြာဟ္မဏတွေဟာ ဖန်ဆင်းရှင်ထာဝရဘုရားကို ရှေးဦးအကျဆုံး ကိုးကွယ်သူတွေလို့ဆိုရမှာပဲ"

"နတ်မင်းကြီး သုံးပါးပေါင်းတစ်ဆူ ထာဝရဘုရားဖြစ်လာတာက ရောဗျာ"

"ဒီလိုဗျ၊ အတိုချုံ့ပြောရရင် ဟိန္ဒူဗြာဟ္မဏတို့ရဲ့ အယူအဆအရ လောကရဲ့ဖန်ဆင်းရှင်ဟာ **ရဂျစ်** (ရဇဂုဏ်)၊ **ဆက်တွ** (သတ္တဂုဏ်)၊ **တမတ်ခ်** (တမဂုဏ်) ဆိုတဲ့ ဂုဏ်သတ္တိသုံးပါးနဲ့ ပြီးပြည့်စုံတဲ့အတ္တကြီးပဲ၊ တစ်နည်းပြောရရင် ဖန်ဆင်းခြင်း၊ ထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ဖျက်ဆီးခြင်းဆိုတဲ့ အစွမ်းသတ္တိ (*Shakti*) တွေနဲ့ ပြည့်စုံပြီး အစဉ်မဖောက်မပြန်တည်မြဲနေတဲ့

ထာဝရဘုရားသခင်ပေါ့ဗျာ၊ အဲဒီထာဝရဘုရားသခင်ရဲ့ ဂုဏ်သုံးပါးအနက် တစ်ပါးစီကိုကိုယ်စားပြုထားတဲ့ ကိုယ်ပွားတော် ဘုရားသုံးဆူကတော့ အခုန ပြောခဲ့တဲ့ တြိမူရ်တိပေါ့ဗျာ၊ မဟာဗြဟ္မာက ရဇဂုဏ်ကိုကိုယ်စားပြုပြီး လောကကိုဖန်ဆင်းတယ်၊ ဗိဿနိုးက သတ္တဂုဏ်ကိုကိုယ်စားပြုပြီး လောက ကိုထိန်းသိမ်းစောင့်ရှောက်တယ်၊ ကျွန်တော်တို့မြန်မာတွေက ပရမေသွာလို့ ခေါ်တဲ့ သီဝကတော့ တမဂုဏ်ကိုကိုယ်စားပြုပြီး ထာဝရဘုရားအလိုကျ တစ်နေ့မှာ လောကကိုဖျက်ဆီးဖို့ တာဝန်ယူထားရတယ်လေ၊ အဲဒီလို နတ်မင်းကြီးသုံးပါးရယ်လို့ ကွဲပြားနေပေမဲ့ တကယ်တော့ဖန်ဆင်းရှင် ထာဝရဘုရားလို့ခေါ်ဆိုနိုင်တဲ့ မဟာအတ္တကြီးရဲ့ ဂုဏ်အင်္ဂါသုံးရပ်သာ ဖြစ်တယ်၊ အဲဒီမဟာအတ္တကြီးကိုပဲ **ပရမအတ္တ** လို့ ခေါ်တယ်"

"ဒါဆိုရင် မဟာဗြဟ္မာကိုကိုးကွယ်သူဟာ မဟာအတ္တကြီးရဲ့ သတ္တဂုဏ်၊ သီဝကို ကိုးကွယ်သူဟာ မဟာအတ္တကြီးရဲ့တမဂုဏ်တို့ကို ပွားများပူဇော်ရာ ရောက်တာပေါ့နော်"

"ဒါပေါ့ဗျာ၊ ဒီလိုမဟာအတ္တကြီးရဲ့ ဂုဏ်တော်သုံးပါးစလုံးကို တစ်ချိန်တည်းမှာ ရွတ်ဖတ်သရဇ္ဈာယ် ပွားများပူဇော်ဝတ်ပြုကြမယ်ဆိုရင် တော့ အ-ဥ-မ ဆိုတဲ့ အက္ခရာသုံးလုံးထဲနဲ့ ပြီးပြည့်စုံနိုင်တယ်လို့ ဟိန္ဒူတို့ရဲ့ ဥပနိသျှဒ်ကျမ်း *(Upanishad)* တွေမှာ ဆိုထားတယ် ကိုလင်းရဲ့"

"အ-ဥ-မ ရဲ့အဓိပ္ပာယ်ကရောဘယ်လိုများတုံး ကိုဝင်းရ"

"အ-ဆိုတာက ဂုဏ်အင်္ဂါအားဖြင့် အတ္တရဲ့ရဇဂုဏ်၊ အသွင် သဏ္ဌာန်အားဖြင့် မဟာဗြဟ္မာကြီးရဲ့အထိမ်းအမှတ်၊ ဥ-ဆိုတာက ဂုဏ်အင်္ဂါ အားဖြင့် အတ္တရဲ့သတ္တဂုဏ်၊ အသွင်သဏ္ဌာန်အားဖြင့် ဗိဿနိုးနတ်မင်းကြီးရဲ့ အထိမ်းအမှတ်၊ မ-ဆိုတာကတော့ ဂုဏ်အင်္ဂါအားဖြင့် အတ္တရဲ့တမဂုဏ်၊ အသွင်သဏ္ဌာန်အားဖြင့် သီဝနတ်မင်းကြီးရဲ့အထိမ်းအမှတ်ပဲ"

"ထာဝရဘုရားသခင်ရဲ့ ဂုဏ်တော်ကို ချီးမွမ်းရွတ်ဆိုမယ်ဆိုရင် 'အ၊ဥ၊မ' 'အ၊ဥ၊မ' လို့ ရွတ်ဆိုရုံနဲ့ ပြည့်စုံတာပေါ့နော်"

" 'အ၊ ဥ၊ မ' 'အ၊ ဥ၊ မ' နဲ့တော့ ရွတ်နေစရာမလိုပါဘူး ကိုလင်း ရယ်၊ ခင်ဗျား အခုနကရွတ်ပြတဲ့ ပုတီးစိပ်ဂါထာလေးရဲ့အစ စကားလုံးဖြစ်တဲ့ 'ဉုံ' ဆိုတဲ့ အက္ခရာလေးကို ရွတ်ဆိုရုံနဲ့ 'အ' ရယ်၊ 'ဥ' ရယ်၊ 'မ' ရယ်တို့ရဲ့ တစ်ဆက်တစ်စပ်တည်း အသံထွက်သွားပြီး 'ဂုဏ်တော်သုံးပါးနှင့် ပြည့်စုံတော်မူထသော ထာဝရဘုရားသခင် (ခေါ်) မဟာအတ္တကြီး' ကို ရှိခိုး ပူဇော်ပြီးသား ဖြစ်သွားတာပေါ့ဗျာ"

"အို့ဟိုး. . . လက်စသတ်တော့ ဉုံဆိုတာ ဟိန္ဒူဗြာဟ္မဏဝါဒီ တွေရဲ့ အထွတ်အမြတ် ထာဝရဘုရားသခင်ကို ရှိခိုးပူဇော်တဲ့ အက္ခရာတစ်ခု ပဲကိုးကိုဝင်းရဲ့"

"သိပ်ဟုတ်တာပေါ့ဗျာ၊ ဟိန္ဒူဗြာဟ္မဏဝါဒီတို့ရဲ့ အထွတ်အမြတ်ဖြစ်တဲ့ ဥပနိသျှဒ်ကျမ်းတွေမှာ ဒီ 'ဉုံ' ဆိုတဲ့ အက္ခရာရဲ့ဂုဏ်ကျေးဇူးကို အမျိုးမျိုးအဖုံဖုံ အမွှမ်းတင်ဖွင့်ဆိုထားထာကို တွေ့ရတယ်ဗျ၊ မုဏ္ဍကဥပနိသျှဒ်မှာဆိုရင် *ဉုံသည်လေးနှင့်တူ၏၊ ဇီဝအတ္တသည်မြားနှင့်တူ၏၊ ဗြဟ္မာသည် ပစ်ကွင်းနှင့်တူ၏* လို့ မိန့်ဆိုထားတာတွေ့ရတယ်ဗျ၊ သဘောကတော့ဗျာ. . လူတစ်ဦးဟာ ဉုံကို အကြိမ်ကြိမ်အဖန်ဖန် ရွတ်ဆိုပွားများခြင်းအားဖြင့် ဇီဝအတ္တလို့ခေါ်တဲ့ မိမိရဲ့အသက်ဝိညာဉ်ဟာ အပြစ်ကြေးညော်တွေ ကင်းစင်သန့်ရှင်းသွားပြီး အတိုင်းမသိစင်ကြယ်တဲ့ ဗြဟ္မာ (ခေါ်) မရမအတ္တ (ခေါ်) ထာဝရဘုရားရဲ့ သန့်ရှင်းသောဝိညာဉ်တော်ကြီးနဲ့ ပေါင်းစပ်သွားမယ်၊ သံသရာဝဋ်ဆင်းရဲအပေါင်းမှ လွတ်မြောက်စေမယ်လို့ ဆိုလိုတာပေါ့"

"ဟိန္ဒူဗြာဟ္မဏဝါဒီတွေအတွက်တော့ 'ဉုံ' ကို ရွတ်ဖတ်ခြင်းဟာ ထာဝရဘုရားသခင်ဆီသွားရာလမ်းလို့ ဆိုရမှာပဲနော်"

"ဒါပေါ့ဗျာ၊ ပြဿနဥပနိသျှဒ်ကျမ်းမှာဆိုရင် *ဗြဟ္မာနှင့်တွေ့ဆုံပေါင်းစပ်လိုပါက ဉုံအက္ခရာကို ရွတ်ဆိုပွားများရမည်၊ ဗြဟ္မာကို အာရုံပြုရမည်၊ ဗြဟ္မာကိုသိသူသည် ဗြဟ္မာအဖြစ်ကိုရရှိ၏၊ ဉုံဟူသော အက္ခရာကို ရွတ်ဆိုပွားများလျှင် ဗြဟ္မာ့ဥာဏ်ကိုရရှိ၏* လို့တောင် ဆိုထားသေးတာပဲ၊ ဗြဟ္မာဆိုတာ ဟိန္ဒူဗြာဟ္မဏဝါဒီတွေအဖို့ ထာဝရဘုရားသခင်ရဲ့ မဟာအတ္တကြီး၊ တစ်နည်းပြောရရင် *ဂရုဍအတ္တ* ကို ရည်ညွှန်းတာပဲဗျ"

"အင်း. . . *အနတ္တလက္ခဏာသုတ်* ကိုဟောပြီး လောကမှာအစဉ်မဖောက်မပြန်ဘဲ မိမိကိုယ်ကိုအစိုးရနေတဲ့ အတ္တဆိုတာမရှိပါဘူးလို့ မြွက်ကြားခဲ့တဲ့ ဗုဒ္ဓဒေသနာနဲ့တော့ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်နေတာပါပဲလားဗျာ၊ 'ဉုံ' ဆိုတာဟာတကယ်တော့ အတ္တကိုအာရုံပြု လက်ခံယုံကြည်သူတွေ ရွတ်ဆိုရမယ့်အက္ခရာပဲဗျ"

"ဒါကြောင့် ဗုဒ္ဓဟောကြားခဲ့တဲ့ ဘယ်ဂါထာတော်မှာမဆို 'ဉုံ' ဆိုတဲ့ အက္ခရာကိုထည့်ပြီး မရွတ်ဖတ်သင့်ဘူးဗျ၊ အရှေ့နဲ့အနောက်လို ဆန့်ကျင်နေတဲ့အယူအဆနှစ်ခုကို ပေါင်းစပ်လက်ခံပြီး ရွတ်ဖတ်ကြမယ်ဆိုရင်ဖြင့် ဘာမှအဓိပ္ပာယ်ရှိတော့မှာ မဟုတ်ဘူးဗျ"

"အေးဗျာ၊ အစကတော့ 'ဉုံမပါရင်ဂါထာမဖြစ်' ဆိုတဲ့ဆိုရိုးကို အဟုတ်မှတ်နေမိတာ၊ တကယ်တော့ ဒါဟာဟိန္ဒူပြာဟ္မဏဝါဒီတွေအတွက်သာ အလွန်မှန်တဲ့စကားဖြစ်တာပဲကိုး၊ အဲ. . . အတ္တရဲ့တည်ရှိမှုကို အကြွင်းမဲ့ငြင်းပယ်ပြီး အနတ္တဝါဒကိုထူထောင်သူ ဗုဒ္ဓဘုရားရှင်ကိုမှ ယုံကြည်ကိုးကွယ်လိုပါတယ်ဆိုတဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ အဖို့တော့ အဲဒီဆိုရိုးကို အခုလိုသာပြင်လိုက်ချင်တော့တယ် ကိုဝင်းရေ့"

"လင်းစမ်းဦး ကိုလင်းရယ်"

"ဉုံပါလျှင် ဂါထာပျက်လိမ့်မည်လို့ပေါ့ဗျာ"

(၂၅-၁၂-၉၁)

ဓမ္မရံသီ၊ ၁၉၉၂ခုနှစ် မတ်လနှင့် ဧပြီလ။

# သဏ္ဍာန်လှစ်၍ အနှစ်ကိုရှာပါ

"ဟော. . . ကိုဝင်းပါလား။ ထိုင်ဗျာ၊ ခင်ဗျားနဲ့အေးအေး ဆေးဆေး စကားမပြောရတာတောင် အတော်ကြာပြီ"

"အေးဗျာ. . . ဒီနေ့အလုပ်အားရက်လည်းဖြစ်၊ ခင်ဗျားဆီ မရောက်တာလည်းကြာပြီမို့ မြို့ထဲလာရင်းဝင်ခဲ့တာပဲ ကိုလင်းရေ"

"ဒါနဲ့ ခရီးရောက်မဆိုက် ခင်ဗျားကို မကျေနပ်တာ ပြောရဦးမယ်"

"ဘာများလဲကိုလင်းရ"

"ဘာဟုတ်ရမလဲဗျာ၊ ဟိုးတစ်ပတ်က ကျွန်တော့်အိမ်ကို ဘုရားဖူးကြွလှည့်ပါလို့ ခင်ဗျားဆီဖုန်းနှစ်ခါတောင်ဆက်ပြီး သေသေချာချာ ဖိတ်ပါရက်နဲ့ ဘာလို့မလာတာလဲဗျ"

"အင်း. . . အဲဒါက မအားလို့ပါဗျာ"

"အံမယ်. . . ဒီလိုတော့ လွယ်လွယ်မဖြီးနဲ့လေဗျာ၊ ခင်ဗျားကို အလုပ်အားရက်လာခိုင်းတာပဲ၊ အခုဟာက ကြုံတောင့်ကြုံခဲ ဆုတောင်းပြည့် မုနိရုပ်ပွားတော်ကို ဖူးစေချင်လွန်းလို့ တကူးတကဖိတ်တာတောင် မလာ တာက ဘာသဘောလဲဗျ"

"အင်း. . . ပွင့်ပွင့်လင်းလင်း ပြောရရင်တော့ ကျွန်တော့်အနေနဲ့ လာစရာ မလိုဘူးထင်လို့ပဲဗျာ"

"ဘယ်လိုဗျ. . .၊ ဘုရားဖူးလာစရာမလိုလို့ ဟုတ်လား၊ ခင်ဗျား ဗုဒ္ဓဘာသာဝင်မှဟုတ်သေးရဲ့လား"

"ဒါကတော့ ခင်ဗျားကဗုဒ္ဓဘုရားရှင်ကို ကိုးကွယ်ဆည်းကပ်တာ နဲ့ ဆင်းတုရုပ်တုတွေ ကိုးကွယ်ဆည်းကပ်တာကို ခွဲခြားနားမလည်လို့ ပြောတာပဲဗျ"

"ကျုပ်တို့က ရုပ်တုဆင်းတုတွေကို ကိုးကွယ်ဆည်းကပ်တာမှ မဟုတ်ဘဲ၊ ဗုဒ္ဓရုပ်ပွားတော်တွေကို ဗုဒ္ဓရှင်တော်မြတ်ဘုရား သက်တော် ထင်ရှားရှိဘိအလား စိတ်အာရုံဝင်စားပြီး ကိုးကွယ်ပူဇော်ကြတာပဲဗျ"

"ဒါဆိုရင် ကိုလင်းအိမ်က ဘုရားစင်မှာ ရုပ်ပွားတော်တစ်ဆူရှိပြီး

သားပဲဗျာ၊ အဲဒီ . . မုနိရုပ်ပွားတော်ကို ထပ်ပြီးပင့်ဆောင် ပူဇော်နေစရာ လိုသေးသလားဗျ”

“ဟာ ဒါကတော့ ဘယ်တူပ့ါမလဲ ကိုဝင်းရဲ့ အဲဒီ . . မုနိဆိုတာက ဆရာတော်၊ သမားတော်ကြီးများက ဝိဇ္ဇာနည်းကျ ဓာတ်ပေါင်းစုံရောစပ်ပြီး ဖိုဝင် သိဒ္ဓိတင်၊ စမ,ခံ ထားတဲ့ရုပ်ပွားတော်ဗျ၊ သူ့ကိုပင့်ဆောင်ပူဇော်ရင် စီးပွား တိုးတယ်၊ ရာထူးဂုဏ်သိန်တက်တယ်၊ အနာရောဂါကင်းတယ်တဲ့ဗျ၊ တလောကဆို သူဌေးတစ်ယောက်က ကြည်ညိုလွန်းလို့ဆိုပြီး စိန်ဘယက် ကြီးတောင် ဆက်ကပ်ဆင်ယင်ပေးသွားသေးတယ်၊ လှူလိုက်ကြတာများဗျာ၊ မကိုဋ်တော်ဆိုလည်း ပတ္တမြားရောင်၊ မြရောင်၊ ရွှေရောင် တဖိတ်ဖိတ်နဲ့ အလွန်ကြည်ညိုစရာ ကောင်းပါတယ်၊ ခင်ဗျားသာမာရ်နတ်မှောင့်ပြီး လာမဖူးတာ ကိုဝင်းရ”

“ဟား ဟား၊ အဲဒါကြောင့်ပြောတာပေါ့ ကိုလင်းရ၊ ကိုယ့်အိမ်က ရုပ်ပွားတော်ကိုကိုယ် ပန်း၊ ရေချမ်း၊ ဆီမီးကပ်လှူပြီး သက်ရှိထင်ရှား မြတ်ဘုရားကို အာရုံပြုပူဇော်ရင်လည်း ရရဲ့သားနဲ့၊ ဒီ . . မုနိရုပ်ပွားတော်ကိုမှ အထွတ်အမြတ်ထား ကိုးကွယ်ပူဇော်ကြတယ်ဆိုတော့ ခင်ဗျားတို့က ဗုဒ္ဓ မြတ်ဘုရားကို ကိုးကွယ်ဆည်းကပ်တာမှမဟုတ်တော့ဘဲ၊ ဒီ. . မုနိလို့ အမည် သညာ သတ်မှတ်ထားတဲ့ သက်မဲ့ရုပ်ဝတ္ထုပစ္စည်းတစ်ခုကို မိမိရဲ့ အားထားရာ အဖြစ် ကိုးကွယ်ဆည်းကပ်နေကြတာပဲ မဟုတ်လားဗျ”

“ဒါကတော့ ကိုဝင်းက ရုပ်ဝါဒီဆန်ဆန်တွေးပြီး ပြောတာပဲ”

“ကိုလင်းကလည်း မဟုတ်တာပြောရော့မယ်၊ တကယ်တမ်း ရုပ်ဝါဒီ ဖြစ်နေတာက ခင်ဗျားတို့ပဲဗျ”

“ဟား. .၊ ဒီလောက် ဘုရားနဲ့တရားနဲ့နေတဲ့ လူတွေကိုများ ရုပ်ဝါဒီလို့ပြောရင် ခင်ဗျားကိုလူတွေက အရူးလို့ပြောကြမှာပေါ့”

“ကျွန်တော်ပြောတာ နားထောင်ပါဦးလေ၊ ဗုဒ္ဓမြတ်စွာသက်တော် ထင်ရှားရှိစဉ်အခါကကော သူ့ကိုကိုးကွယ်ဆည်းကပ်မယ်ဆိုရင် ကိုးကွယ် ဆည်းကပ်ပူဇော်သူတွေကို စီးပွားတိုးအောင်၊ ရာထူးဂုဏ်သိန်တက်အောင်၊ အနာရောဂါကင်းအောင်လုပ်ပေးမယ်လို့ ဟောကြားခဲ့ဘူးသလား”

“ဒီလိုတော့မဟောခဲ့ဘူးပေါ့ဗျာ”

“ဟုတ်ပြီ၊ ဗုဒ္ဓက သူ့ကိုကိုးကွယ်ဆည်းကပ်ပူဇော်ရာ ဘုရားရှင် အဖြစ် လက်ခံတယ်ဆိုရင် သူဟောကြားခဲ့တဲ့ ဓမ္မလမ်းစဉ်အတိုင်းလျှောက် လှမ်းကြဖို့ကိုသာ လမ်းညွှန်ခဲ့တာဗျ၊ ဗုဒ္ဓမြတ်စွာ ပွင့်တော်မူလာရတာ

ကလည်း လူတွေစီးပွားတိုးဖို့၊ ရာထူးဂုဏ်သိန်တက်ဖို့၊ အနာရောဂါကင်းဖို့ စတဲ့ လောကီရေးရာလိုအင်တွေကို ဖြတ်လမ်းနည်းနဲ့ ဖြည့်ဆည်းပေးဖို့ မဟုတ်ဘူးဗျ၊ သံသရာဝဋ်ဆင်းရဲဒုက္ခအပေါင်းမှ လွတ်ငြိမ်းချမ်းသာရာ ကျင့်စဉ်နည်းလမ်းမှန်တွေကို ညွှန်ကြားသွန်သင်ဖို့၊ တစ်နည်းပြောရရင် လောကီ အကျိုးစီးပွားတွေထက် အဆပေါင်းများစွာ သာလွန်မြင့်မြတ်တဲ့ လောကုတ္တရာ အကျိုးစီးပွားအတွက် ပွင့်တော်မူခဲ့ခြင်းသာဖြစ်တယ်ဗျ"

"ဒါဆို လောကီအကျိုးစီးပွားတွေ တိုးတက်ဖို့ကျတော့ ဘယ်သူ့ သွားအားကိုးရမှာလဲဗျ"

"လွယ်ပါတယ် ကိုလင်းရာ၊ ကိုယ့်အားကိုယ်ကိုးပေ့ါဗျာ၊ ကိုယ့်အား ကိုယ်ကိုးပြီးကြိုးစားရင် လောကရဲ့အမြင့်ဆုံး အမြတ်ဆုံးပုဂ္ဂိုလ်ဖြစ်တဲ့ ဘုရားရှင်ဗုဒ္ဓအဖြစ်ကိုတောင် ရနိုင်သေးတာပဲ၊ ကိုယ့်ရဲ့ ကံ၊ ဉာဏ်၊ ဝီရိယ အစွမ်းကိုလိုက်ပြီး အကျိုးကျေးဇူးခံစားကြရတာဟာ လောကရဲ့ဓမ္မတာ သဘာဝရဲ့နိယာမပဲ ကိုလင်းရ"

"အင်း . . . ဒါလည်းဟုတ်တာပဲ"

"ဒါကြောင့် ကိုယ့်ဖာသာကိုယ်မကြိုးစားပဲနဲ့တော့ အခုအခါ ခေတ်စားနေတဲ့ ဘာမုနိ၊ ညာမုနိ၊ တိဗက်ပြန်၊ ရခိုင်ပြန်၊ ယိုးဒယားပြန်၊ ဘာပြန်၊ ညာပြန် စမ,ခံတဲ့ ဝိဇ္ဇာမိုရ်၊ သိဒ္ဓိတင် ဓာတ်ဆင်းတုတော်ဆိုတာ တွေက လာပြီးစောင်မပေးနိုင်မှာမဟုတ်ဘူးဗျ၊ ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ် အခါကတောင် သတ္တဝါတွေရဲ့ ကံ၊ ဉာဏ်၊ ဝီရိယအလိုက် ခံစား၊ စံစား နေကြရတဲ့ လောကီအမှုကိစ္စတွေကို ဝင်ရောက်စွက်ဖက်မှု မပြုခဲ့တဲ့ဟာကို ဒီသက်မဲ့ ရုပ်ပွားတော်တွေကျမှ လောကီကိစ္စတွေမှာဝင်ပြီး ကယ်တင် စောင်မနိုင်ပါ့မလားဗျာ"

"အေးဗျာ. . . ကိုဝင်းပြောမှပဲ ကျွန်တော်တို့ ဗုဒ္ဓဘုရားရှင်ကိုမကိုး ကွယ်မိဘဲ ရုပ်တု၊ ဆင်းတုကိုးကွယ်တဲ့လူတွေ ဖြစ်မှန်းမသိဖြစ်ခဲ့ရတာကို သဘောပေါက်လာတော့တယ်"

"အဲဒီလို ဗုဒ္ဓမြတ်စွာကိုမကိုးကွယ်ဘဲ ရုပ်တုဆင်းတုကိုသာ ကိုးကွယ်နေမိသူတွေကြောင့် တချို့နိုင်ငံခြားသား ဘာသာခြားတွေက မင်းတို့ ဗုဒ္ဓဘာသာဆိုတာ ရုပ်တုကိုးကွယ်တဲ့ဘာသာပါကွာလို့ ဝေဖန် ပြစ်တင်ကြတာပဲဗျ၊ ဒါပေမယ့် တကယ်တမ်းကျတော့ ဗုဒ္ဓရုပ်ပွားတော်တွေ ထုလုပ်ပူဇော်တဲ့ အလေ့အထဟာ ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း ငါးရာလောက်ကြာမှ အိန္ဒိယမှာ ဂရိကျောက်ဆစ်ပညာ ထွန်းကား

လာမှုနဲ့အတူ ဗြာဟ္မဏအယူဝါဒ ရောယှက်ထားတဲ့ မဟာယာနဗုဒ္ဓဘာသာကိုးကွယ်သူတွေဆီက စတင်လာခဲ့တယ်လို့ သမိုင်းအထောက်အထားတွေမှာတွေ့ရသဗျ။ မဟာယာနတွေရဲ့ ဗုဒ္ဓရုပ်ပွားတော်ထုတ်လုပ်ပူဇော်မှုကို ထေရဝါဒဗုဒ္ဓဘာသာဝင်တွေက အစပိုင်းမှာ လက်မခံခဲ့ပေမယ့် နောက်ပိုင်းကျတော့ လူများစုရဲ့အလိုကို လိုက်လျောခဲ့ရတယ်လို့ ဆိုတယ်ဗျ"

"အင်း . . . ခေတ်ပညာတတ်တစ်ယောက်ဖြစ်ပြီး ဒါတွေကို စောစောက မစဉ်းစားခဲ့မိလို့ ကိုယ့်ကိုယ်ကို ရှက်မိပါသေးတော့တယ်ဗျာ"

"ဒါကတော့ သတိမမူဂူမမြင်ဆိုသလိုပေါ့ဗျာ၊ လူတွေဟာ လောဘစိတ်မွှန်လာပြီဆိုရင် ဘယ်လောက်ပဲ ပညာဗဟုသုတနဲ့ ပြည့်စုံတဲ့လူဖြစ်ပါစေ၊ အမှားမှားအယွင်းယွင်းတွေ လုပ်မိကြတာမမွှတာပဲဗျ။ မိမိကံ၊ ဉာဏ်၊ ဝီရိယနဲ့ ထိုက်တန်တာထက်လွန်ကဲပြီး စီးပွားတိုးချင်တယ်၊ ရာထူးတက်ချင်တယ်စတဲ့ လောဘစိတ်တွေက လွှမ်းမိုးသွားတော့ အားကိုးရာရှာရင်းနဲ့ အလိမ်ခံရမှန်း မသိခံကြရတော့တာပဲ ကိုလင်းရေ. . ."

"ဟုတ်ပါ့ဗျာ၊ ကိုယ့်အားကိုယ်မကိုးမိဘဲ သက်မဲ့ပစ္စည်းတွေကို ကိုယ့်ဘဝရဲ့ကယ်တင်ရှင်၊ ကံကြမ္မာကိုဖန်တီးပေးနိုင်သူအဖြစ် စွဲလမ်းတာဟာ ရုပ်ဝတ္ထုပစ္စည်းတွေကို တန်ခိုးရှိသူ အစိုးရသူ အတ္တအဖြစ် စွဲလမ်းမှုတစ်မျိုးလို့တောင် ဆိုရမလားပဲဗျနော. . ."

"ဒါ့ကြောင့်မို့ တကယ်တမ်း ရုပ်ဝါဒီတွေဖြစ်နေတာက ခင်ဗျားတို့ပါလို့ပြောတာပေါ့ ကိုလင်းရ။ အမှန်တော့ ရုပ်ပွားတော်၊ ဆင်းတုတော်တွေကို ပုံသဏ္ဌာန်အမျိုးမျိုး၊ မုဒြာ (လက်အနေအထား) အဖုံဖုံနဲ့ ထုလုပ်ကိုးကွယ်ခြင်းဟာ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေရဲ့ ပဓာနအလုပ်မဟုတ်ဘူးဗျ။ အမရပူရ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသကဆိုရင် '*ဗုဒ္ဓဘာသာဝင် အတော်များများဟာ လေးသင်္ချေနဲ့ကမ္ဘာတစ်သိန်း ကြာအောင် ပါရမီဖြည့်ပြီးမှ ဖြစ်တော်မူလာရတဲ့ဘုရား၊ ပါရမီတော်အဟုန် တစ်ကိုယ်လုံးထုံပြီး အလွန်သပ္ပာယ်တော်မူတဲ့ဘုရား၊ ထိုသပ္ပာယ်သော ရုပ်တော်ဝယ် မေတ္တာတော် ကရုဏာတော် ဉာဏ်တော်ကြီးဖြင့် အလွန်တင့်တယ်သော ဘုရား၊ သတ္တဝါတို့တရားထူးရအောင် ပရိနိဗ္ဗာန်စံတော်မူခါနီး စက္ကန့်ပိုင်း အသိမနားမနေ တရားဟောတော်မူတဲ့ဘုရား၊ ဒီလိုသက်တော်ထင်ရှား ဘုရားကို မဖူးနိုင်မမျှော်နိုင်ကြတဲ့ ရုပ်ပုံ၊ရုပ်ပွားဆင်းတု စေတီတော်များကိုသာ အများစုကကိုးကွယ်ရာဘုရားလို့ထင်နေကြခြင်းဟာ ဘုရားအစစ်ကို ရုပ်ပုံရုပ်ပွားတော်စသည်က (မမြင်အောင်) ကွယ်ထားသလိုဖြစ်နေမှာပေါ့*'

လို့ သူ့ရဲ့ကိုယ်ရေးထေရုပ္ပတ္တိဖြစ်တဲ့ 'တစ်ဘဝသံသရာ' ကျမ်းမှာ ထည့်သွင်းရေးသားသွားခဲ့တာပဲဗျ"

"အင်း . . . ဆရာတော်ကြီးကတော့ ကျွန်တော်တို့လို လူမိုက်တွေအတွက် ကြိုတင်မြင်ယောင် ရေးသားထားခဲ့သလားတောင် အောက်မေ့ရတယ် ကိုဝင်းရေ . . . "

"ဗုဒ္ဓရုပ်ပွားတော်များ ထုလုပ်ပူဇော်ခြင်းဆိုတာ ကျွန်တော်တို့ထေရဝါဒဗုဒ္ဓဘာသာဝင်တွေအတွက်တော့ အသွင်သဏ္ဌာန် (*Phenomenon*) တစ်ခုလောက်ပဲဖြစ်တယ်။ ဗုဒ္ဓရုပ်ပွားတော်ကို ဖူးမြော်လိုက်ရတာနဲ့ ဗုဒ္ဓသက်တော်ထင်ရှားရှိနေသလို စိတ်အာရုံမှာမြင်ယောင် ကြည်ညိုသဒ္ဓါပွားလာပြီး ဗုဒ္ဓရဲ့ဓမ္မဒေသနာအဆုံးအမတွေကို ယုံကြည်လိုက်နာလို စိတ်တွေတဖွားဖွားပေါ်ပေါက်လာတာနဲ့အမျှ လက်တွေ့ဘဝမှာ လိုက်နာကျင့်သုံးလာစေဖို့ဆိုတဲ့ ရည်ရွယ်ချက်သည်သာ အနှစ်သာရ (*Essence*) အစစ်အမှန်ဖြစ်တယ်ဗျ။ တစ်နည်းပြောရရင် ဗုဒ္ဓမြတ်စွာကို ဓမ္မပူဇာနဲ့ပူဇော်ကြဖို့ပဲ ကိုလင်းရ"

"ဓမ္မပူဇာရဲ့ အဓိပ္ပာယ်လေးလည်းလင်းစမ်းပါဦး"

"ဓမ္မပူဇာဆိုတာက ဗုဒ္ဓရဲ့ဩဝါဒ ဓမ္မတရားတော်များနဲ့အညီကျင့်ကြံနေထိုင်ခြင်းလို့ အဓိပ္ပာယ်ရတယ်ဗျ။ အဲ. . . ဗုဒ္ဓကို ဆွမ်း၊ ပန်း၊ ရေချမ်း၊ သက်န်းစတဲ့ပစ္စည်းဝတ္ထု ဆက်ကပ်ပူဇော်ခြင်းကိုတော့ အာမိသပူဇာလို့ခေါ်သဗျ။ ဗုဒ္ဓရှင်တော်မြတ်ဘုရားကတော့ *ငါဘုရားအား ဓမ္မပူဇာဖြင့် ပူဇော်ခြင်းသည်သာ မြတ်သောပူဇော်ခြင်းမည်၏* လို့ ဟောကြားခဲ့ပါတယ်"

"ကိုဝင်းပြောမှ ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ အနေနဲ့ ရုပ်ပွားတော်များထုလုပ်ပူဇော်ခြင်းရဲ့ ရည်ရွယ်ချက်ကို ဘာသာခြားတွေနားလည်အောင်ရှင်းပြနိုင်တဲ့ အနီးစပ်ဆုံးဥပမာတစ်ခုကို သွားသတိရမိတယ်ဗျ"

"ဆိုစမ်းပါဦး ကိုလင်းရာ"

"ဒီလိုလေဗျာ၊ ကျွန်တော်တို့ မြန်မာ့လွတ်လပ်ရေးဗိသုကာကြီးဗိုလ်ချုပ်အောင်ဆန်းကို အစဉ်သတိရပြီး ဗိုလ်ချုပ်ရဲ့တိုင်းချစ်ပြည်ချစ်မျိုးချစ်စိတ်ကို အားကျဂုဏ်ယူအတုယူချင်လာအောင်၊ ဗိုလ်ချုပ်ချမှတ်ခဲ့တဲ့လမ်းစဉ်ကို လိုက်နာပါ့မယ်လို့သံန္နိဋ္ဌာန်ပြုပြီး လက်တွေ့အကောင်အထည်ဖော်နိုင်အောင်ဆိုတဲ့ ရည်ရွယ်ချက်နဲ့ ဗိုလ်ချုပ်ကြေးရုပ်တွေ ထုလုပ်အလေး

ပြုကြတဲ့သဘောမျိုးပဲပေါ့၊ မဟုတ်ဘူးလား”

“သိပ်ဟုတ်တာပေါ့ ကိုလင်းရာ၊ ဒါနဲ့ခင်ဗျားက ဗိုလ်ချုပ်ကြေးရုပ် အကြောင်းပြောမှ ကျွန်တော်လည်း ကာတွန်းဆရာကြီးတစ်ဦးရေးဆွဲခဲ့တဲ့ အာဇာနည်နေ့ကာတွန်းလေးကို သတိရမိပြန်သဗျ”

“ဘယ်လိုများတုံး ကိုဝင်းရ”

“ကာတွန်းလေးက ဒီလိုဗျ၊ အာဇာနည်နေ့အထိမ်းအမှတ် ချီတက် အလေးပြုဖို့လာကြတဲ့လူအုပ်ကြီးကို ဦးဆောင်တဲ့လူကရှေ့ကနေ- ‘အာဇာနည် ခေါင်းဆောင်ကြီးများကို အလေး. . . . . ပြု’ လို့လည်း အမိန့် ပေးလိုက်ရော လူအုပ်ကြီးက တညီတညွတ်တည်း အလေးပြုလိုက်ကြ တယ်ဗျ၊ အဲ. . . သတ်မှတ်တဲ့ မိနစ်ပိုင်းလည်းစေ့ရော ဦးဆောင်တဲ့လူက- ‘နေမြဲ’ လို့ တစ်ခွန်းတည်း အမိန့်ပေးရမယ့်အစား သူက - ‘နေမြဲ၊ စားမြဲ၊ ခိုမြဲ၊ ကပ်မြဲ ခါတိုင်းလိုပဲ ဆက်လုပ်ကြ’ ဆိုပြီးအမိန့်ပေးသွားပုံကို ရေးဆွဲ ထားတယ်လေ၊ စာသားအတိအကျတော့မဟုတ်ဘူးပေါ့ဗျာ၊ အဲဒီသဘော အတိုင်းပေါ့”

“ဟား ဟား ဟား ကာတွန်းဆရာကြီးက လူတွေရဲ့ လုပ်ရိုးလုပ်စဉ် လိုသဘောထားပြီး ပေါ့ပေါ့တန်တန် လုပ်တတ်တဲ့စရိုက်ကို သရော်ထားတာ ပေါ့နော်”

“မှန်တာပေါ့ ကိုလင်းရာ၊ အခုလည်း ကျွန်တော်တို့ဗုဒ္ဓဘာသာ ဝင်တွေအနေနဲ့ ဗုဒ္ဓရုပ်ပွားတော်ရှေ့ကိုသွား၊ ကိုယ်ရတတ်သမျှ ဘုရားရှိခိုး စာတွေတသီကြီး ရွတ်ဖတ်ပူဇော်ကန်တော့လို့လည်းပြီးရော အခုနကလိုပဲ နေမြဲ၊ ခိုးမြဲ၊ လိမ်မြဲ၊ ကောက်မြဲ၊ သတ်မြဲ၊ ညစ်ပတ်မြဲဆိုရင်တော့ ဗုဒ္ဓရုပ်ပွား တော်တွေကို ဝတ်ပြုကိုးကွယ်ခြင်းဆိုတဲ့ အသွင်သဏ္ဌာန်တစ်ခုသာ ကျန်ရစ် ခဲ့ပြီး ဗုဒ္ဓရဲ့ဓမ္မဒေသနာတော်တွေကို လက်တွေ့ဘဝမှာ လိုက်နာကျင့်သုံးခြင်း ဆိုတဲ့အနှစ်သာရ ပျောက်ကွယ်သွားတော့မှာပေါ့ဗျာ၊ ကဲ. . စကားကောင်း နေလိုက်ကြတာ အချိန်လည်း အတော်လင့်ပြီမို့ ပြန်ခွင့်ပြုပါဦး ကိုလင်းရေ”

“ကောင်းပါပြီဗျာ၊ နောက်တစ်ပတ်ကျ ပြန်ဆုံကြသေးတာပေါ့”

(၁၃-၂-၉၁)

ဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ ဧပြီလ။

# သံတူကြောင်းကွဲ သတိပြုပါ

"ဟေး . . . ကိုဝင်းတစ်ယောက် ဘယ်ရောက်နေပါလိမ့်၊ အလုပ်နားရက်ဆိုပြီး အိပ်ရာထဲဝင်ကွေးနေပြီထင်ပ့ါ"

"ကိုလင်းလား၊ လာဗျို့လာ၊ အိပ်ရာထဲဝင်ကွေးဖို့ နေနေသာသာဗျာ။ တစ်ပတ်စာအဝတ်တွေ လျှော်ရဖွပ်ရ၊ ကလေးတွေစာပြရ၊ ထိန်းရကျောင်းရနဲ့ ပိုတောင်ပင်ပန်းပါသေးတယ်ဗျာ"

"ဒီအိုးဒီအိမ်၊ ဒီပုဆိုးဒီထဘီကို မစွန့်နိုင်သရွေ့ခံပေဦးပေ့ါဗျာ"

"မေ့အဖြစ်နဲ့မေသာ ရှိပါစေတော့မောင်ရေ ဆိုသလိုပေ့ါ ကိုလင်းရယ်"

"ဟာ . . . ဘယ့်နှယ် မေ့အဖြစ်ရမှာလဲကိုဝင်းရ၊ ဒီသီချင်းကို အဆိုတော်ကိုလွှမ်းမိုးက မောင့်အဖြစ်နဲ့မောင်သာ ရှိပါစေတော့မေရေလို့ ပြောင်းဆိုထားခဲ့ပြီးပြီဗျ"

"ဟုတ်လား၊ ဒီလိုဆိုတော့ ကျုပ်တို့ အားနွဲ့သူယောကျ်ားသားတွေ အတွက် ပိုပြီးထိမိသွားတာပေ့ါဗျာ၊ ဒါနဲ့ ခင်ဗျားကတော့ အိမ်ထောင်တာဝန်တွေပစ်ပြီး တစ်ကိုယ်တည်းလူပျိုကြီးစတိုင်နဲ့ ဘယ်ကနေဘယ်ကို လှည့်လာတာတုံး"

"အိမ်ကဇနီးမယားနဲ့ သမီးသားတွေက မယ်တော်ကြီးဘုရားကျောင်း လိုက်ပို့ပါဆိုတာနဲ့ သူတို့သားအမိကို အဲဒီမှာထားခဲ့ပြီး ခင်ဗျားဆီထွက်လာခဲ့တာ ကိုဝင်းရေ့"

"နေစမ်းပါဦး၊ ဘယ်က မယ်တော်ကြီးဘုရားကျောင်းတုံးဗျ"

"ဒီနားက ရှရီကာလီတမ်ပဲလ်လေဗျာ"

"သြော် . . . သိပြီ၊ သိပြီ ။ ဒါနဲ့. . . ခင်ဗျာ့ ဇနီးက ဗုဒ္ဓဘာသာဝင်ဖြစ်ပြီး ဘယ့်နှယ် အဲဒီဟိန္ဒူပြာဟ္မဏ ဘုရားကျောင်းကို သွားရတာလဲဗျ"

"ခင်ဗျား အတော်ခေတ်နောက်ကျနေပြီပဲ၊ အခုကျွန်တော်တို့ မိရိုးဖလာဗုဒ္ဓဘာသာဝင် အတော်များများက ဟိန္ဒူပြာဟ္မဏနတ်ဘုရားတွေကိုပါ ရှိခိုးနေကြတာမသိဘူးထင်တယ်"

"အင်း. . ပညာရေးအတွက် သူရဿတီမယ်တော်၊ စီးပွားတက်ဖို့

လက်ချမီးမယ်တော်ဆိုတဲ့ ဟိန္ဒူဗြာဟ္မဏ နတ်သမီးကြီးတွေကို အိမ်မှာ ဓာတ်ပုံချိတ်၊ ပန်းအိုးနဲ့စင်နဲ့ကိုးကွယ်ထားကြတာတွေတော့ တွေ့မိပါရဲ့”

“ဒီလို အိမ်မှာစင်ထိုး ပန်းအိုးနဲ့ကိုးကွယ်ရတာမဝနိုင်လို့ အဲဒီသူရဿတီ၊ လက်ချမီး၊ ကာလီစတဲ့မယ်တော်ကြီးတွေ စံပယ်တော်မူနေတဲ့ ဟိန္ဒူဗြာဟ္မဏ ဘုရားကျောင်းတွေကိုပါသွားပြီး ပန်း၊ ဆီမီးကပ်လှူပူဇော်နေကြပြီဗျ၊ တချို့များဆိုအဓိဌာန်ဝင်ပြီး တစ်ကိုယ်လုံးနန္ဒင်းတွေ ဝါထိန်နေအောင်လူး၊ နံငယ်ပိုင်းလေးတွေဝတ်၊ လျှာနဲ့ခန္ဓာအနှံ့မှာ အပ်တွေစိုက်ပြီး အလှူခံထွက်တဲ့လူက ထွက်နေကြပြီ၊ ဟိန္ဒူဘာသာဝင်တွေရဲ့ မီးနင်းပွဲမှာလည်း ဝင်နွှဲတဲ့လူတွေကနွှဲနေကြပြီ”

“အင်း . . . ဟိန္ဒူဗြာဟ္မဏသာသနာအတွက်တော့ အားတက်စရာပေါ့ဗျာ၊ ကျွန်တော်တို့နိုင်ငံမှာ ဘယ်သူမဆို လူမျိုး၊ ကျား/မ မရွေး ကိုယ်ကြိုက်နှစ်သက်ရာဘာသာတရားကို လွတ်လပ်စွာကိုးကွယ် ယုံကြည်ပိုင်ခွင့်ရှိနေတာမို့ ဗုဒ္ဓဘာသာကို မယုံကြည်လို့စွန့်လွှတ်ပြီး ဟိန္ဒူဗြာဟ္မဏဘာသာဝင်အဖြစ် ခံယူသွားကြတာကို ဘာမှအပြစ်ပြောစရာမရှိပါဘူးဗျာ”

“ဒီလိုလည်းမဟုတ်သေးဘူး ကိုဝင်းရဲ့၊ ဒီပုဂ္ဂိုလ်တွေဟာ ဟိန္ဒူဗြာဟ္မဏတွေရဲ့ ဘာသာရေးကျင့်ထုံးတွေကို လိုက်နာဆောင်ရွက်နေကြပေမယ့် သူတို့ကိုယ်သူတို့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေပါလို့ ခံယူထားတဲ့သူတွေချည့်ပဲဗျ၊ တကယ်တော့ ဗုဒ္ဓဝါဒနဲ့ဟိန္ဒူဗြာဟ္မဏဝါဒတို့ဆိုတာ ရေခံမြေခံတစ်ခုတည်းက ဆင်းသက်ပေါက်ဖွားလာတဲ့ ညီရင်းအစ်ကိုအယူဝါဒတွေပဲမဟုတ်လား၊ ကျွန်တော်တို့က ဂေါတမဗုဒ္ဓကိုကိုးကွယ်သလို သူတို့လည်းပဲ ဂေါတမဗုဒ္ဓကို ကိုးကွယ်ကြတာပဲ။ ခင်ဗျားမယုံရင် ဟိန္ဒူဗြာဟ္မဏဘုရားကျောင်းတွေကို သွားကြည့်ပါလား၊ ဗုဒ္ဓဆင်းတုတော်တွေကို ပူဇော်ထားတာတွေ့ရလိမ့်မယ်၊ သူတို့ဘုရားပွဲ လှည့်တဲ့အခါမှာလည်း နွားလှည်းယာဉ်ကြီးတွေပေါ်မှာ ဗုဒ္ဓရုပ်ပွားတော်ကို ကျောင်းဆောင်ကြီးနဲ့တင်ပြီး တခမ်းတနားလှည့်လည် အပူဇော်ခံကြတာပဲမဟုတ်လား”

“ဟာ. . . ဒီလိုအပေါ်ယံလုပ်ဆောင်မှု ပုံသဏ္ဌာန်လောက်ကို ကြည့်ပြီးပြောလို့ဘယ်ဖြစ်ပါ့မလဲ ကိုလင်းရဲ့။ ဗုဒ္ဓဆင်းတုတော်ကိုပူဇော်တိုင်း ဗုဒ္ဓရဲ့ဓမ္မဒေသနာကို လိုက်နာကျင့်ကြံသူတွေလို့ အတပ်မပြောနိုင်သေးဘူးဗျ၊ ဗုဒ္ဓဆင်းတုတော်ကို ပူဇော်တာချင်းတူပေမယ့် ပူဇော်ရတဲ့ရည်ရွယ်ချက်၊ ဗုဒ္ဓမြတ်စွာအပေါ်ထားရှိတဲ့ သဘောထားအနှစ်သာရချင်းမှာတော့ ဗုဒ္ဓဝါဒီတွေနဲ့ ဟိန္ဒူဗြာဟ္မဏဝါဒီတွေအကြား အခြားနားကြီးခြားနားနေတယ်

ဆိုတာကို သတိပြုသင့်တယ်ဗျ"

"ကိုင်း. . .၊ ဒါဖြင့် ဟိန္ဒူဗြာဟ္မဏဝါဒီတွေဟာ ဗုဒ္ဓဝါဒီတွေရဲ့ ကိုးကွယ်အားထားရာ သရဏဂုံသုံးပါးဖြစ်တဲ့ ဘုရား၊ တရား၊ သံဃာတို့ အပေါ် ဘယ်လို သဘောထားတယ်ဆိုတာ ဆက်ရှင်းစမ်းပါဦး"

"ပြောရမယ်ဆိုရင်တော့ ပထမဦးဆုံး ဗုဒ္ဓဘုရားရှင်နဲ့ ပတ်သက်ပြီးတော့ပေါ့ဗျာ၊ ဗုဒ္ဓဝါဒီတွေက ဗုဒ္ဓမြတ်စွာဟာ သဗ္ဗညုတ ရွှေဉာဏ်တော်ကို ရဖို့အတွက် အနည်းဆုံးလေးသင်္ချေနဲ့ကမ္ဘာတစ်သိန်း ပါရမီဖြည့်ကျင့်ခဲ့ရပြီးမှ လောကရဲ့ဓမ္မအလုံးစုံကို မခြွင်းမချန်ဆရာမကူ သိမြင်ဟောကြားတော်မူနိုင်ခဲ့သူအဖြစ် ယုံကြည်ကြတယ်လေ"

"ဟိန္ဒူဗြာဟ္မဏဝါဒီတွေကတော့ရောဗျာ"

"သူတို့အယူအဆကတော့ ဗုဒ္ဓမြတ်စွာဟာ ပါရမီဖြည့်ကျင့်ပြီးမှ ဘုရားဖြစ်လာတဲ့ ပုဂ္ဂိုလ်မဟုတ်ဘူးတဲ့ဗျ၊ လောကရဲ့ဖန်ဆင်းရှင် ထာဝရဘုရားသခင် မဟာဗြဟ္မာ (ခေါ်) အတ္တမန် (ခေါ်) မဟာအတ္တကြီးရဲ့ ကိုယ်ပွားဗိဿနိုးနတ်ဘုရားရဲ့ လူဝင်စားတစ်ဦးဖြစ်တယ်လို့ သတ်မှတ်ကြတယ်လေ"

"ဟာ. . . ဒါဖြင့်ဟိန္ဒူဗြာဟ္မဏအယူအဆအရဆိုရင် ဗုဒ္ဓမြတ်စွာဟာ ဗိဿနိုးနတ်မင်းကြီးပဲ ဖြစ်နေတော့တာပေါ့"

"ဒါပေါ့ဗျာ၊ ဗိဿနိုးနတ်မင်းဟာ လောကကြီးထဲကို ဘဝအဖုံဖုံ အသွင်အမျိုးမျိုး ဆောင်ပြီး လူသားတွေကိုကယ်တင်ဖို့ ရောက်ရှိလာခဲ့တယ်ဆိုပဲ၊ အဲဒီလို လူ့လောကထဲကိုရောက်ရှိလာတဲ့ ဗိဿနိုးနတ်မင်းဝင်စားသူတွေကို ဟိန္ဒူဗြာဟ္မဏဝါဒီတွေက **အဝတာရ** (*Avatara*) လို့ ခေါ်တယ်ဗျ၊ ကယ်တင်ရှင်တွေပေါ့ဗျာ၊ အဲဒီလို ဗိဿနိုးနတ်မင်းဝင်စားတဲ့ ကယ်တင်ရှင် ဆယ်ဦးရှိတဲ့အထဲက **ကာလ်ကီအဝတာရ** ကလွဲရင် ကျန်ကိုးဦးကပွင့်ပေါ်ခဲ့ပြီးပြီဆိုပဲ"

"သူတို့အလိုအရဆိုရင် ဗုဒ္ဓမြတ်စွာက ဘယ်နှစ်ဦးမြောက်လဲဗျ"

"ကိုးဦးမြောက်အဝတာရလို့ ယူဆကြတယ်လေ"

"အရင်ပေါ်ခဲ့တဲ့ အဝတာရတွေကရောဗျာ"

"အင်း . . . ဘာသာရေးဗဟုသုတအနေနဲ့ အကျဉ်းချုံးပြောရရင် (၁) ကမ္ဘာဦးရေလွှမ်းမိုးစဉ်က ဟိန္ဒူဗြာဟ္မဏတို့ရဲ့ ဝေဒလေးကျမ်းကို ဆယ်ယူပေးခဲ့တဲ့ငါးကြီး **မစ္ဆအဝတာရ** ၊ (၂) အဲဒီလိုရေကြီးစဉ်က လူသားတွေရေနစ်မသေအောင် ကျောက်ကုန်းပေါ်တင်ပြီးကယ်တင်ခဲ့တဲ့ လိပ်ကြီး

**တုမ္မအဝတာရ** ၊ (၃) ရေထဲမြုပ်သွားတဲ့ကမ္ဘာကြီးကို အစွယ်နဲ့ကော်ပြီး ကယ်တင်ခဲ့တဲ့ဝက်ကြီး **ဝရာဟအဝတာရ** ၊ (၄) လူတကာကိုညှဉ်းပန်း နှိပ်စက်နေတဲ့ လူဆိုးကြီးဟိရညကသိပုကို ကုတ်ဖဲ့သတ်ဖြတ်ပြီး လူသားတွေ ကိုကယ်တင်ခဲ့တဲ့ လူ့ကိုယ်နဲ့ခြင်္သေ့ခေါင်းတွဲစပ်ထားသူ **နရသိဟအဝတာရ**၊ (၅) မာန်မာနကြီးလွန်းတဲ့ အဝလိဘုရင်ရဲ့ဦးခေါင်းကို နင်းသတ်ခဲ့တဲ့ရသေ့ ပုကွလေးဆိုတဲ့ **ဝါမနအဝတာရ**၊ (၆) ရသေ့ရဟန်းတွေကိုနှောင့်ယှက်တဲ့ ဘီလူးသရဲတွေကို ပုဆိန်နဲ့ခုတ်သတ်ခဲ့တယ်ဆိုတဲ့ **ဖရသုရာမအဝတာရ** . . ."

"အဲဒီဖရသုရာမဆိုတာ ရာမလက္ခဏဇာတ်ထဲက ရာမမင်းသားကို ပြောတာလား"

"မဟုတ်ဘူးကိုလင်းရဲ့၊ သူကပုဏ္ဏားရသေ့အသွင် ဆောင်ထားပြီး ပုဆိန်လက်နက်ကိုင်စွဲတဲ့ ပုဆိန်ထမ်းရာမဗျ၊ ပသျှူးရာမလို့လည်းခေါ်ကြ တယ်လေ၊ ရာမ၊ လက္ခဏဇာတ်ထဲက ရာမမင်းသားကလည်း သတ္တမမြောက် နံပါတ်ခုနှစ် အဝတာရပဲဗျ၊**ရာမစန္ဒြ**လို့လည်းခေါ်တယ်၊ အဋ္ဌမမြောက် နံပါတ် ရှစ် အဝတာရကတော့ အဇ္ဇုနနဲ့ယုဓိဋ္ဌိလတို့စစ်ပွဲမှာ အဇ္ဇုနဘက်က စစ်ရထား မောင်းပေးခဲ့သူ **ခရစ်ရှနား** ပေါ့ဗျာ"

"သြော် . . . ကမ္ဘာကျော်ဘဂဝါဂီတကျမ်းကြီးကို ဟောကြားခဲ့တယ် ဆိုတဲ့ ပုဂ္ဂိုလ်ထင်ပ့ါ"

"ဟုတ်ပ့ါဗျာ၊ သူ့ရဲ့အချစ်ဆုံးမိဖုရားရာဓဟာ လက်ရှိခင်ပွန်းကို စွန့်ပြီး ခရစ်ရှနားရဲ့အလုပ်အကျွေးပြု ဇနီးမယားအဖြစ်ခံယူခဲ့လို့ ဘုရား သခင်ကိုချစ်တဲ့နေရာမှာ စံနမူနာဆိုပဲကိုလင်းရဲ့"

"အင်း . . . လူသားတွေကို ဗိဿနိုးနတ်မင်းကြီး ကယ်တင်ပုံတွေ ကလည်း ထူးထွေတည့်အံ့ရာပါလားနော်၊ လူဖြစ်လိုက်၊ တိရစ္ဆာန်ဖြစ်လိုက်၊ လူတစ်ပိုင်းခြင်္သေ့တစ်ပိုင်းဖြစ်လိုက်နဲ့ စုံလို့ပါလား၊ ဒီထက်ပိုဆန်းတာက ရာမ လက္ခဏဇာတ်ထဲမှာတင် ရာမစန္ဒြရော၊ ပုဆိန်ထမ်းပသျှူးရာမပါ ဗိဿနိုး နှစ်ကိုယ်ခွဲ ပါနေတာပဲဗျ"

"ဒါတွေက ကျွန်တော်တို့ သေသေချာချာ မလေ့လာထားတဲ့ကိစ္စ တွေမို့ မဝေဖန်သင့်ပါဘူးဗျာ၊ အဲ . . . ခက်သွားတာက ဗုဒ္ဓဝါဒီတွေက အတုလံအတုမရှိတဲ့ မြတ်စွာဘုရားသခင်လို့ ယုံကြည်ကိုးကွယ်ဆည်းကပ် ကြတဲ့ ဗုဒ္ဓမြတ်စွာကို အဲဒီဗိဿနိုးနတ်မင်းကြီးရဲ့ လူဝင်စားကယ်တင်ရှင် ငါး၊ လိပ် စတဲ့တိရစ္ဆာန် အဝတာရတွေနဲ့ တန်းတူထားလိုက်တာပဲဗျ"

"အေးဗျ၊ ဗုဒ္ဓမြတ်စွာရဲ့ဆင်းတုတော်ကို ထားရှိပူဇော်တာခြင်းတူပေမယ့် သူတို့ကဗုဒ္ဓကို ထာဝရဘုရားသခင်ရဲ့ကိုယ်ပွား ဗိဿနိုးနတ်မင်းရဲ့ လူဝင်စားအဖြစ် တစ်ဆင့်နိမ့်ပြီးသဘောထားတာဆိုတော့ အနှစ် သာရချင်း ကတခြားစီ ဖြစ်နေတာပေါ့နော်"

"ပြောမယ်ဆိုရင်တော့ ပြောမဆုံးပေါင်တောသုံးတောင်ပါပဲ ကိုလင်းရာ၊ ဒီတော့ ဗုဒ္ဓအပေါ်ထားရှိတဲ့သဘောထားကို အကျဉ်းချုံး ဆွေးနွေးပြီးတဲ့အခါ ဗုဒ္ဓရဲ့ဓမ္မနဲ့ ဟိန္ဒူဗြာဟ္မဏတို့ရဲ့ဓမ္မ ကွာခြားပုံကိုလည်း အကျဉ်းအားဖြင့် ဆက်လေ့လာကြဦးစို့ဗျာ"

"ဗုဒ္ဓဝါဒီနဲ့ ဗြာဟ္မဏဝါဒီတို့အကြား ရှေးဘဝနောက်ဘဝရှိတယ် ဆိုတဲ့ သံသရာလည်ပတ်ပုံ၊ ကံကြမ္မာကိုယုံကြည်ပုံချင်းတော့ အတူတူပဲ မဟုတ်လားကိုဝင်းရဲ့"

"အပေါ်ယံရှုပ်ကြည့်ရင်တော့ ကိုလင်းပြောတာဟုတ်သလိုလို ပါပဲ၊ ဒါပေမယ့် ဗုဒ္ဓဝါဒက ဘဝသံသရာလည်ပတ်ကူးပြောင်းမှုကို လက်ခံ ထားတယ်ဆိုရာမှာ ရုပ်ခန္ဓာတစ်ခုကနေ တခြားရုပ်ခန္ဓာတစ်ခုကို ကူးပြောင်း သွားတဲ့ အသက်ဝိညာဉ် (ခေါ်) ဇီဝအတ္တကောင်ရယ်လို့မရှိဘူးဗျ။ ဒီဘဝ၊ ဒီရုပ်၊ ဒီနာမ်က ပြုခဲ့တဲ့စေတနာကံရဲ့ စွမ်းအင်အပေါ်မူတည်ပြီး ဒီဘဝ ချုပ်ငြိမ်းသွားပြီဆိုတာနဲ့ တစ်ချိန်တည်းမှာ အဲဒီကံရဲ့စွမ်းအင်ကြောင့် ရုပ် အသစ်၊ နာမ်အသစ်တွေ ဖြစ်ပေါ်လာတယ်လို့ပဲခံယူထားတယ်။ဘာလို့လဲ ဆိုတော့ လောကမှာဘယ်သူမှ ထုခွဲဖျက်ဆီးလို့မရအောင် မဖောက်မပြန် ထာဝရ တည်မြဲနေတဲ့တရားရယ်လို့မရှိဘူး။ 'သဗ္ဗေဓမ္မာ အနတ္တာ' လို့ ဗုဒ္ဓက ဟောကြားတော်မူခဲ့တယ်လေ"

"ဒါဆိုရင် ဗုဒ္ဓဝါဒအရ ဘဝကူးပြောင်းတယ်ဆိုရာမှာ မူလခန္ဓာ ကိုယ်ထဲက ဝိညာဉ်ကောင်လေးထွက်သွားပြီး နောက်ခန္ဓာကိုယ်တစ်ခုထဲ ကူးပြောင်း ဝင်ရောက်သွားတာမဟုတ်ဘူးပေါ့"

"မှန်တာပေါ့ဗျာ၊ အဲ. . . ဗြာဟ္မဏဝါဒအလိုအရကတော့ လောကကြီးတစ်ခုလုံးဟာ ဖန်ဆင်းရှင် ထာဝရဘုရားသခင်လို့ဆိုနိုင်တဲ့ မဟာဗြဟ္မာကြီးရဲ့အတ္တဝိညာဉ်နဲ့ ဖွဲ့တည်ထားတာဖြစ်လို့ လောကမှာ ရှိရှိ သမျှသက်ရှိသက်မဲ့အရာမှန်သမျှရဲ့ အတွင်းအဖွဲ့တွင်မှာ ဘယ်လိုမှချေဖျက် လို့မရနိုင်အောင် ထာဝရတည်မြဲနေတဲ့ အမာခံအနှစ်သာရ အတ္တကိုယ်စီဟာ စိမ့်ဝင်ပျံ့နှံ့ တည်ရှိနေတယ်ဆိုပဲဗျ"

"ဟာ. . . ဒါဆို ဗြာဟ္မဏတို့ရဲ့တရားက 'သဗ္ဗေဓမ္မာ အတ္တာ' လို့

ပြောရမှာပေါ့နော်”

“ဆိုနိုင်ပါတယ်ဗျာ၊ ဒါကြောင့် လောကမှာအစဉ်မဖောက်မပြန် တည်တံ့နေတဲ့ မဟာအတ္တကြီး (ခေါ်) မဟာပြဟ္မာကြီးဆိုတာလည်းမရှိဘူး ဆိုပြီး ပြာဟ္မဏတို့ရဲ့အတ္တဝါဒကိုငြင်းပယ်ပြီး အနတ္တဝါဒကိုထူထောင်ခဲ့တဲ့ ဗုဒ္ဓမြတ်စွာရဲ့တရားဓမ္မနဲ့ ပြာဟ္မဏတို့ရဲ့တရားဓမ္မဟာ ဘယ်တူနိုင်ပါတော့ မလဲ ကိုလင်းရာ”

“ဒီလို တရားဓမ္မအနှစ်သာရချင်း ကွဲပြားခြားနားခဲ့လို့လည်း ပြာဟ္မဏဝါဒီတွေအားကောင်းတဲ့ အိန္ဒိယနိုင်ငံမှာ စစ်မှန်တဲ့ ထေရဝါဒဗုဒ္ဓသာသနာ တိမ်ကောခဲ့ရတာထင်ပါရဲ့၊ ဗုဒ္ဓမြတ်စွာရဲ့ ဓမ္မနဲ့ ဝိနယတို့ကို မူရင်းမပျက် အစဉ်အဆက်ထိန်းသိမ်း လိုက်နာခဲ့ကြတဲ့ ဘုရားသားတော်တွေလည်းဖြစ်၊ ရတနာမြတ်သုံးပါးမှာ တစ်ပါးအပါ အဝင်လည်းဖြစ်တဲ့ ရဟန်းသံဃာတွေခမျာ ပြာဟ္မဏတွေရဲ့ ရှုတ်ချ တိုက်ခိုက်မှုကို ခံကြရမှာပေါ့နော်”

“ခံရပြီလားဗျာ၊ အတ္တဝါဒအပေါ်အခြေခံပြီး အပူဇော်ခံပုဏ္ဏားမျိုး (ပြာဟ္မဏ)၊ မင်းမျိုးမတ်စစ်သူရဲမျိုး (ခတ္တိယ)၊ ကုန်သည်လယ်လုပ်မျိုး (ဝေဿ)၊ အပယ်ခံသူဆင်းရဲမျိုး (သုဒ္ဒ) ဆိုပြီး အမျိုးဇာတ်ခွဲခြားခွင့်မရှိဘဲ ဝါစဉ်အလိုက်သာ အရိုအသေပေးကြရတဲ့ ဗုဒ္ဓရဲ့သံဃိကအဖွဲ့အစည်း ကိုလည်း အလွန်မုန်းတီးခဲ့ကြတယ်ဗျ”

“ဗုဒ္ဓရဲ့သံဃိကအဖွဲ့အစည်းဟာ အမျိုးဇာတ်ခွဲခြားမှုစနစ်ကို ပစ်ပယ်ထားတာဆိုတော့ ဒီဇာတ်ခွဲခြားမှုအပေါ်အခွင့်ကောင်းယူ၊ အမျိုး အနွယ်လိုက်ပြီး အခွင့်ထူးခံနေသူတွေက ဘယ်မှာလာလိုလားကြပါ့မလဲ”

“ဒါကြောင့် ဗုဒ္ဓနဲ့တကွ တပည့်သားသံဃာတွေကို ပြာဟ္မဏပုဏ္ဏား တွေက ဦးပြည်းကတုံးယုတ်တွေလို့ နှိမ့်ချဆဲဆိုခဲ့ကြသေးတယ်ဗျ၊ သူတို့က ‘ဘယ်လောက်ပဲ အကျင့်သီလနဲ့ပြည့်စုံတဲ့ ရဟန်းဖြစ်ပါစေ၊ မြင့်မြတ်တဲ့ ပြာဟ္မဏပုဏ္ဏားမျိုးနွယ်ကမဟုတ်ရင် အဲဒီရဟန်းထက်အသက်ငယ်ပြီး အကျင့်သီလမဲ့သူ ပြာဟ္မဏပုဏ္ဏားတစ်ဦးက အရိုအသေပေးစရာမလိုတဲ့ အပြင် နှိမ့်ချပြီးတောင်ဆက်ဆံသင့်တယ်’ လို့ ယူဆကြတယ်ဗျ”

“ဝါဒချင်းကအရှေ့နဲ့အနောက်လို ကွာခြားနေတော့လည်း အငြိုး ကြီးရှာမှာပေါ့ဗျာ”

“အငြိုးကြီးခဲ့ပုံကတော့ ရှုံကရဆိုတဲ့ ပြာဟ္မဏရဟန်းမင်းကြီး လက်ထက်ကဆိုရင် ဗုဒ္ဓဝါဒီရဟန်းတော်တွေကို မေးခွန်းအမျိုးမျိုးထုတ်၊

ဝါဒချင်းပြိုင်ပြီး သူမေးတာမဖြေနိုင်ရင် ဗုဒ္ဓဝါဒကိုစွန့်လွှတ်စေပြီး ဗြာဟ္မဏဘာသာထဲ ဝင်စေခဲ့တယ်၊ အဲဒါကို လက်မခံဘူးဆိုရင်တော့ ပွက်ပွက်ဆူနေတဲ့ဆီပူအိုးထဲကို ပစ်ထည့်သတ်ဖြတ်ခဲ့တယ်ဆိုတာ တိကျတဲ့သမိုင်းအထောက်အထားတွေမှာ ဖတ်ခဲ့ရဖူးတယ် ကိုလင်းရဲ့"

"ဟာ. . .၊ ဒါဆို ဗုဒ္ဓဝါဒီတစ်ယောက်နဲ့ ဗြာဟ္မဏဝါဒီတစ်ယောက်တို့ရဲ့ ဘုရား၊ တရား၊ သံဃာ ရတနာမြတ်သုံးပါးအပေါ် ထားရှိတဲ့သဘောထားချင်းဟာ တခြားစီပါလားနော်"

"အဲဒါကို နားလည်သဘောပေါက်ပြီးမှ ဗုဒ္ဓဝါဒကိုစွန့်လွှတ်လို့ ဟိန္ဒူဗြာဟ္မဏဘာသာဝင်အဖြစ် ခံယူသွားကြသူတွေကို ဘာမှအပြစ်ဆိုစရာမရှိပါဘူးဗျာ၊ လူတိုင်းမှာ လွတ်လပ်စွာရွေးချယ် ယုံကြည်ကိုးကွယ်ပိုင်ခွင့်ရှိကြတာပဲ၊ ဒါပေမဲ့ ခင်ဗျားပြောသလို ဗုဒ္ဓဘာသာနဲ့ဟိန္ဒူ ဗြာဟ္မဏဘာသာဆိုတာ သိပ်မကွာပါဘူး၊ အတူတူပါပဲ၊ သူတို့လည်း ဗုဒ္ဓကိုပူဇော်ကြတာပဲ၊ ဒါကြောင့် ဗုဒ္ဓဘာသာဝင်ဆိုပေမဲ့ ဟိန္ဒူဗြာဟ္မဏဝါဒကိုလည်း လက်ခံကျင့်သုံးနိုင်တယ်လို့ ထင်မြင်ယူဆလုပ်ကိုင်နေသူတွေအတွက်တော့ ကရုဏာဒေါသောဖြစ်မိတာ အမှန်ပဲဗျာ"

"အေးဗျ၊ ကျွန်တော်တို့ ဗုဒ္ဓဘာသာမြန်မာတိုင်းရင်းသား အများစုကလည်း မိရိုးဖလာဗုဒ္ဓဘာသာဝင်တွေဖြစ်နေတော့ ဒီလိုကွဲပြား ခြားနားချက်တွေကို သတိမပြုမိကြဘူးဗျ"

"သတိပြုရတော့မယ် ကိုလင်းရေ၊ အခုလိုအချိန်အခါမျိုးမှာ အမှုမဲ့အမှတ်မဲ့နေခဲ့ကြရင် စစ်မှန်တဲ့ ထေရဝါဒဗုဒ္ဓသာသနာတော် အစွန့်ရှည်ရေးအတွက် ရင်လေးစရာဖြစ်နေတော့မှာပေါ့ဗျာ၊ ဆက်ပြီးအမှုမဲ့အမှတ်မဲ့နေ၊ အမှုမဲ့အမှတ်မဲ့လုပ်ကြမယ်ဆိုရင် ကျွန်တော်ကြားဖူးတဲ့ ပုံပြင်ထဲက ဘုရင်ကြီးလို ဇာတ်သိမ်းမလှဖြစ်ကြရလိမ့်မယ်"

"ခင်ဗျာ့ ပုံပြင်ထဲကဘုရင်ကြီးအကြောင်း လုပ်စမ်းပါဦးဗျာ"

"ဒီလိုဗျ၊ တစ်ခါတုန်းက အမှုမဲ့အမှတ်မဲ့နမော်နမဲ့နေတတ်ပြီး ကိုယ်ခန္ဓာကြံ့ခိုင်သေးကွေးတဲ့ ဘုရင်ကြီးတစ်ပါး ရှိသတဲ့၊ အဲဒီဘုရင်ကြီးမှာ တောင့်တင်းသန်မာလှတဲ့ မြင်းဖြူကြီး အထီး၊ အမတစ်စုံရှိတယ်။ ဘုရင်ကြီးတောကစားထွက်တဲ့အခါ မြင်းထီးကြီးကိုစီးပြီးထွက်လေ့ရှိသတဲ့၊ အဲ တစ်နေ့ ဘုရင်ကြီးတောအလည်လွန်လို့ တစ်ယောက်တည်းမျက်စိလည် လမ်းမှားနေတုန်း ဖြုန်းဆိုသူ့ရဲ့ခုနှစ်ဘဝက ဖခင်တော်စပ်ခဲ့ဖူးသူ ရုက္ခစိုးနတ်မင်းကြီးပေါ်လာသတဲ့"

"ကယ်တင်ရှင် ရောက်လာတယ်ဆိုပါစို့"

"ဒါပေါ့ဗျာ၊ အဲဒါနဲ့နတ်မင်းကြီးက 'ငါ့သားဘုရင်ကြီး လိုရာဆုနှစ်ခု တောင်းစေ' ဆိုပြီးပြောတော့ဘုရင်ကြီးက ပထမဆုံးအနေနဲ့ သူ့ရဲ့အိပ်ခန်း ဆောင်ထဲကို အခုချက်ချင်း ရောက်သွားအောင်လုပ်ပေးဖို့ တောင်းဆိုသတဲ့"

"တစ်နေကုန် တောကစားထွက်လာတာဆိုတော့ ဘုရင်ကြီးခမျာ မောမောနဲ့ ပစ်အိပ်လိုက်ချင်တယ်ထင်ပါ့၊ ဒါနဲ့ ဒုတိယတောင်းတဲ့ဆုက ရောဗျာ"

"အဲ . . . နောက်တောင်းတဲ့ဆုတစ်ခုကတော့ သူအခုစီးလာတဲ့ မြင်းဖြူကြီးလို သန်မာထွားကျိုင်းတဲ့ လူသားတစ်ဦးအဖြစ် ဖန်ဆင်းပေးဖို့ပဲဗျ"

"အင်း . . . ကြံလှီတဲ့ဘုရင်ကြီးဆိုတော့ သူလည်းအခုခေတ် အာနိုးတို့လို လူသန်ကြီးဖြစ်ချင်ပုံရတယ်နော်"

"ဆိုပါတော့ဗျာ၊ ဒါနဲ့ရုက္ခစိုးနတ်မင်းက သူ့တန်ခိုးနဲ့ဘုရင်ကြီး အလိုကျဖြစ်စေဆိုပြီး အဓိဋ္ဌာန်ပြုလိုက်တာ ဘုရင်ကြီးဟာတောကြီး မျက်မည်းထဲကနေ သူ့ရွှေနန်းတော်က ကျိန်းစက်ရာအိပ်ခန်းဆီကို တန်းခနဲ ရောက်ပြီး အိပ်မောကျသွားတော့သတဲ့ဗျာ"

"ဟန်သဗျို့၊ ကျုပ်တောင်အဲဒီရုက္ခစိုးနတ်နဲ့ တွေ့ချင်လာပြီ"

"ဒါက သူ့ရဲ့ခုနှစ်ဘဝကတော်စပ်ခဲ့တဲ့သားမို့ လုပ်ပေးတာဗျ၊ ခင်ဗျားတို့ကျွန်တော်တို့ဆို အနားတောင်ဘယ်အကပ်ခံပါ့မလဲ"

"ထားပါတော့ဗျာ၊ ဘုရင်ကြီးအိပ်ရာကလည်းနိုးရော အခုခေတ် လူသန်ကြီးတွေလို 'ကြွက်သားအဖုဖု ထုထုလို့ခရာချင်စရာကွယ်' ဖြစ်သွား ရောတဲ့လား"

"အင်း . . . ဘုရင်ကြီး အိပ်ရာကနိုးလို့ ညီလာခံလည်းထွက် လာရော မှူးမတ်ရဲမက်ဗိုလ်ပါတွေခမျာ တအံ့တဩနဲ့ဝိုင်းကြည့်ကြသတဲ့၊ ဘုရင်ကြီးကလည်း ငါ့ရဲ့ယောက်ျားပီသ တောင့်တင်းသန်မာတဲ့ကိုယ်ခန္ဓာကို ကြည့်ပြီး ဒီကောင်တွေအံ့သြကုန်ကြပြီလို့တွေးမိပြီး သူတောထဲမှာရုက္ခစိုးနဲ့ တွေ့လို့ ဆုတောင်းပြည့်ခဲ့တဲ့အကြောင်း အားပါးတရပြောချလိုက်တာပေါ့"

"ဒီတော့. . . "

"ဒီတော့. . . ဘုရင်ကြီးနဲ့အတူ တောကစားလိုက်ထွက်ခဲ့ကြတဲ့ ရဲမက်တွေက 'အရှင်မင်းကြီး ဒီကနေ့စီးသွားတဲ့မြင်းဖြူကြီးဟာ မြင်းမကြီးပါ ဘုရား' လို့ မဝံ့မရဲလျှောက်တင် လိုက်ကြပါလေရောတဲ့ဗျာ"

"ဟိုက်. . . သေလိုက်ပါတော့၊ ကိုယ်စီးလာတဲ့မြင်းကို အထီးမှန်း

အမမှန်းသိအောင် မလေ့လာ၊ မစူးစမ်း၊ သတိမထားဘဲ ဆုတောင်းမှားမိတဲ့ ဘုရင်ကြီးခမျာ ဘုန်းကညာတစ်ပါး လုံးရာကပြားရပါပေ့လားနော်"

"ပုံပြင်လေးကတော့ ဒါပါပဲဗျာ၊ ဟာသပုံပြင်လေးဆိုပေမယ့် အသေအချာတွေးကြည့်ရင် လူတွေဟာကိုယ်လုပ်နေတဲ့အလုပ်ရဲ့ အဓိပ္ပာယ်အနှစ်သာရကို အကောင်းအဆိုး၊ အကြောင်းအကျိုးမခွဲခြား မဝေဖန်ဘဲ သတိလက်လွတ်ပြုမူကြမယ်ဆိုရင် လိုချင်တာကတစ်ခု၊ ရလာတာကတစ်ခု၊ တလွဲတချော်ဖြစ်တတ်တယ်ဆိုတဲ့ သင်ခန်းစာရနိုင်တာပေါ့ ကိုလင်းရာ"

"အင်း . . . ဒါကြောင့်လည်းဗုဒ္ဓမြတ်စွာဟာ သူ့ရဲ့တပည့်သာဝကတွေကို သတိလက်လွတ်မပြုကြဖို့ အစဉ်သတိရှိကြဖို့ ဆိုဆုံးမတော်မူခဲ့တာကိုး"

"မှန်တာပေါ့ဗျာ၊ ဘယ်အလုပ်ပဲလုပ်လုပ် အရာရာကိုအပေါ်ယံ အသွင်သဏ္ဍာန်လောက်သာရှုပ်မကြည့်ကြဘဲ သတိတရားလက်ကိုင် ထားပြီး လုပ်ဆောင်ချက်တိုင်းရဲ့ အနှစ်သာရသဘောအဓိပ္ပါယ်ကို ရေရေရာရာနားလည်အောင် လေ့လာသုံးသပ်သင့်တယ်။ ပြီးမှဆုံးဖြတ်ချက်ချမှတ်လုပ်ကိုင်သင့်တယ်ဗျ၊ နို့မဟုတ်ရင်တော့ အသံမှာတူသယောင် ရှိနေပေမယ့် အကြောင်းအရာချင်း တလွဲစီဖြစ်နေတဲ့ သံတူကြောင်းကွဲတွေကို မခွဲခြားတတ်ရင် မနစ်နာသင့်ဘဲနစ်နာတတ်ကြရတယ်"

"ကိုင်း . . . စကားပြောလို့တော့ကောင်းပါရဲ့ ကိုဝင်းရယ်၊ အခု လောက်ဆို ဟိုသားအမိတွေလည်း ကိစ္စပြီးလောက်ရောပေ့ါ၊ သူတို့ကိုလည်း အိမ်ရောက်မှ ဗုဒ္ဓရုပ်ပွားတော်ကို ပူဇော်ပါတယ်ဆိုတဲ့ အသံချင်းတူပေမယ့် ရည်ရွယ်ချက် သဘောအဓိပ္ပာယ်ဆိုတဲ့ အကြောင်းအရာချင်း ဆန့်ကျင်ကွဲလွဲပုံတွေကို တရားပြပြီးနားချဦးမယ်၊ အခုတော့ ဇနီးမယားနဲ့သမီး သားတွေကို သွားကြိုရဦးမှာမို့ ဒီမှာတင်ကျွန်တော်တို့ရဲ့ ဆွေးနွေးပွဲလေးတစ်ခန်းရပ်ပြီး နောက်တစ်ပတ်မှဆက်ကြဦးစို့ ကိုဝင်းရေ'

"ကောင်းပါပြီဗျာ"

(၃၁-၁-၉၂)

ဓမ္မရံသီ၊ ၁၉၉၂ခုနှစ်၊ မေလနှင့် ဇွန်လ။

# အနာဂတ်ကို သိလို သော်

"ဟေ့ ကိုလင်း၊ တစ်ယောက်တည်း ဘာတွေများမှိုင်တွေငေးမော တွေးတောနေတာတုံးဗျ"

"ဪ. . . ကိုဝင်းပါလား ထိုင်ဗျာ၊ အဖြစ်ကတော့ မနှစ်ကနဲ့မတူ ဆိုသလိုပါပဲ"

"ဆိုစမ်းပါဦး၊ ဘာပြဿနာတွေများကြုံနေရလို့တုံး၊ ကိုယ်တတ်နိုင် ရင်လဲ ကူညီရတာပေါ့"

"ဒီလိုဗျ ကိုဝင်းရဲ့၊ ကျွန်တော်တို့ရုံးမှာ နိုင်ငံခြားပညာတော်သင် သွားဖို့ စာမေးပွဲတစ်ခုလုပ်တယ်လေ။ အဲဒါ ကျွန်တော်အပါအဝင် ဖြေတဲ့လူ ငါးယောက်ထဲကမှ တစ်ယောက်တည်းရွေးမှာဗျ"

"ဒီတော့ ခင်ဗျားကမဖြေနိုင်ခဲ့လို့ စိတ်ညစ်နေတာလား"

"ဒီလိုလည်းမဟုတ်ဘူးဗျ၊ အတော်လေးလည်းဖြေနိုင်ခဲ့ပါတယ်၊ ဒါပေမယ့် ကိုယ့်ကိုယ်ကိုစိတ်မချတာနဲ့. . ."

"စိတ်မချတော့ကော ဘာများထပ်လုပ်လို့ရဦးမှာလဲ။ ဖြေပြီးမှတော့ ရရ၊ မရရ စိတ်ကိုတုံးတုံးချထားလိုက်ပါတော့ဗျာ။ ကိုယ့်ဘက်ကဖြေဆိုရမယ့် တာဝန်ကျေပြီပဲ"

"ကျွန်တော်လည်း အစကဒီလိုပဲ သဘောထားမလို့ပါ။ ခက်တာက ကျုပ်ဇနီးမအေးလေဗျာ၊ သူကမနေနိုင်မထိုင်နိုင် ဗေဒင်မေးကြည့်ချင်လှ ချည့်ရဲ့ဆိုလို့ နာမည်ကြီးကြေးကြီး အကြားအမြင်ဆရာဆီမှာ တကူးတက ကြိုတင် ဘွတ်ကင်တွေဘာတွေလုပ်ပြီး သွားမေးမိပါတယ်ဗျာ"

"ဘာတဲ့လဲ၊ ခင်ဗျားမပါနိုင်ဘူးလို့ ဟောလိုက်လို့လား"

"ဒီလို အပြတ်ဟောလိုက်ရင်လည်း ကောင်းတာပေါ့ ကိုဝင်းရာ၊ စိတ်လျှော့ပြီး ပုံမှန်နေလိုက်ရုံပေါ့။ အခုတော့ ဆရာကြီးကကျွန်တော်ရဖို့ ရာနှုန်းငါးဆယ်လောက်ပဲ သေချာတယ်တဲ့။ အတိုက်အခိုက်တွေ အများ ကြီးရှိနေတယ်၊ အဲဒီအတိုက်အခိုက် အနှောင့်အယှက်တွေကို ကျော်လွှား နိုင်ဖို့ ယတြာလုပ်ရမယ်တဲ့ဗျာ"

"ဒါနဲ့ပဲ ခင်ဗျားတို့ ရတနဒီပံဆေးဖယောင်းတိုင်ဖိုး ချောခဲ့တယ်ဆို ပါတော့"

"ဖယောင်းတိုင်ဖိုး ရာဂဏန်းလောက်ဆို ဘာအကြောင်းလဲ ကိုဝင်းရာ၊ အခုဟာက ကျပ်မှာ ဒီကိစ္စအတိုက်အခိုက်တွေအပြင် အသက် အန္တရာယ်ရှိနေတယ်၊ အလုပ်ပြုတ်ကိန်း၊ အိမ်ထောင်ရေးပြိုကွဲမဲ့ကိန်း တွေလည်း မြင်နေရတယ်၊ ဒါ့ကြောင့် ဆရာကြီးကိုယ်တိုင်အဓိဋ္ဌာန်ဝင်ပြီး အထူးစီမံထားတဲ့ ဉာဏ်တော်သုံးလက်မအမြင့်ရှိတဲ့ ပန်းပေါင်းစုံသစ်သား ဆင်းတုတော်တစ်ဆူကို ထုလုပ်ကိုးကွယ်ပြီး သာသနာပွဲပေးရမယ်၊ ဒါတွေ အားလုံးအတွက်စရိတ်က သုံးသောင်းကျော်ကုန်မယ်တဲ့ဗျာ"

"အားပါး၊ မနည်းပါလား၊ ခင်ဗျားဟာက နိုင်ငံခြားအနံ့တောင် မရ သေးဘူး ယတြာဖိုးက သောင်းချီထွက်တော့မှာပါလားဟရို့"

"အဲဒါ ကျွန်တော့်အိတ်ထဲမှာကလည်း ထောင်ဂဏန်းလောက်ပဲ ပါတာနဲ့ ဆရာကြီးရယ် ဒီယတြာထက်အကုန်သက်သာမယ့် တခြားယတြာ တစ်ခုခုနဲ့ အစားထိုးလို့မရဘူးလား၊ ကျွန်တော်တို့က ဝန်ထမ်းတွေဆိုတော့ ဆရာကြီးသိတဲ့အတိုင်းပဲ၊ ဘာညာပြောတာတောင် သူက 'ဒါ မင်းတို့ကို သနားလို့ အညှာတာဆုံးလုပ်ပေးတာကွတဲ့၊ ငါ့အတွက်ဘာမှအကျိုး အမြတ်မရှိဘူး၊ သတ္တဝါတွေကိုကယ်တင်ချင်လို့ သာသနာပြုတဲ့အနေနဲ့ လုပ်ပေးရမှာ၊ မင်းတို့ကိုငါ့ဆီလာဖို့ အတင်းအဓမ္မခေါ်ပြီး ဟောတာလည်း မဟုတ်ဘူး၊ အခုလည်း ငါကလုပ်ပါလို့ အတင်းမတိုက်တွန်းပါဘူး၊ အခုလို ဂြိုဟ်ကောင်း နက္ခတ်ကောင်းတွေနဲ့ ကြုံကြိုက်တုန်း သုံးရက်အတွင်းလုပ်ရင် လုပ်၊ မလုပ်ရင်တော့ ငါလည်းဘယ်လိုမှ မကယ်နိုင်တော့ဘူး' တဲ့ဗျာ"

"အမလေး ကြောက်စရာကြီးပါလားနော်၊ သုံးရက်အတွင်းမှ သူ့ဆီ ပြန်သွားပြီးယတြာမလုပ်ခဲ့ရင် ခင်ဗျားအတွက်ဘေးအန္တရာယ်ဆိုးတွေနဲ့ ရင်ဆိုင်ရတော့မလိုပါပဲလားဗျာ"

"ကျွန်တော့်ဇနီးမအေးဆိုရင် လက်ထဲမှာလည်းငွေကမရှိတော့ မစားနိုင်မအိပ်နိုင်နဲ့ သုံးရက်မစေ့ခင် ရှိတာလေးပေါင်နှံပြီး ဆရာကြီးဆီ သွားပေးရတော့မလိုဖြစ်နေပြီ၊ သူ့ခမျာ ကျွန်တော်နိုင်ငံခြားက ပြန်လာရင် ပါလာမယ့် မော်တော်ကားကြီးစီးပြီး အင်ဒိုနီးရှားပါတိတ်ဝမ်းဆက် ရောင်စုံ ဝတ်လိုက်မဟဲ့ဆိုတဲ့ စိတ်ကူးယဉ်အိပ်မက်လေးတောင် ဝအောင်မမက်နိုင်ရှာ တော့ပါဘူး၊ အလုပ်ပြုတ်ကိန်း၊ အိမ်ထောင်ရေးပြိုကွဲကိန်း မြင်တယ်ဆိုတာ နဲ့တင် မျက်ကလဲဆန်ပြာဖြစ်နေရှာတယ်ဗျာ"

"နေစမ်းပါဦး ကိုလင်းရာ၊ ခင်ဗျားတို့ လင်မယားကရော အဲဒီ အကြားအမြင်ဆရာကြီး ပြောသမျှ ယုံတာပဲလား"

"မယုံလို့ ဘယ်ဖြစ်မလဲဗျ၊ အဲဒီဆရာကြီးက တကယ့်ဂရိတ်တွေ ကိုးကွယ်အားထားခံရတဲ့ ပုဂ္ဂိုလ်ကြီးဗျ၊ သူ့ဆီလာသမျှ စပရင်တာ၊ အက်(စ်)အီး၊ သရီးတူးသရီးတွေနဲ့ချည်းပဲ၊ ကိုယ့်ဖိနပ်ကိုယ်ဖိပြီး ဖိယက်စီး လာတာဆိုလို့ ကျုပ်တို့လင်မယားလောက်ပဲရှိတာ၊ လာသမျှလူတွေကလည်း သူလုပ်ပေးလိုက်လို့ရာထူးတက်တဲ့လူနဲ့၊ ကငွေချီကြီးပွားသွားတဲ့လူနဲ့ အတော့်ကို ယုံယုံကြည်ကြည်ဆည်းကပ်ကြတာဗျ"

"ခင်ဗျားကလည်း သူတို့ယုံတာမြင်တာနဲ့ ရောယုံလိုက်ရောလား"

"ဒါလောက်နဲ့ဘာဟုတ်ဦးမလဲဗျာ၊ ကျွန်တော်တို့အလှည့်ရောက်လို့ ဝင်သွားတယ်ဆိုရင်ပဲ - 'မင်းတို့အတွက် အရေးကြီးတဲ့အချိန်ရောက်နေပြီတဲ့၊ ကိုယ်လုပ်ထားတာလေး အောင်မြင်ပါ့မလားလို့ စိုးရိမ်နေကြတယ်မဟုတ် လားတဲ့' ကျွန်တော် စာမေးပွဲဖြေထားတာကို ကြိုသိနေတယ်ဗျ။ နောက်ပြီး ကျွန်တော်အရင်ကဖြစ်ခဲ့တဲ့ အဖြစ်အပျက်လေးတွေကိုလည်း အတော် အတန်မှန်အောင်ပြောနိုင်တယ်ဗျ"

"မဟုတ်သေးပါဘူး ကိုလင်းရာ၊ ဗေဒင်လာမေးမှတော့ တစ်ရာမှာ ကိုးဆယ့်ကိုးယောက်က အရေးကြီးတဲ့ကိစ္စတစ်ခုခု ပါလာတတ်စမြဲပဲ၊ အဲဒီ ကိုယ်လုပ်လာတဲ့ကိစ္စ ကိုယ်ထင်သလိုဖြစ်လာနိုင် မဖြစ်လာနိုင်သိချင်လို့ လာမေးကြတာချည့်ပဲဗျ၊ ဒီအထာကိုညက်နေတဲ့ ခင်ဗျာ့ဆရာကြီးက ခင်ဗျား တို့မျက်နှာတွေကြည့်ပြီး လက်တန်းဟောချလိုက်တာပဲ"

"ဒါဖြင့် ကျုပ်တို့နောက်ဖြစ်တွေကို ဟောနိုင်တာကရောဗျာ"

"ဒါလည်း မထူးဆန်းပါဘူးဗျာ၊ အခုခေတ်မှာ အနောက်တိုင်း စိတ်ညှို့ပညာရှင်တွေဆိုရင် ခင်ဗျာ့ဆရာကြီးလိုနောက်ဖြစ်လေး သုံးလေးခု ကိုမဆိုထားနဲ့ လူတစ်ယောက်ရဲ့ အတိတ်ကာလကဖြစ်ခဲ့တဲ့ အဖြစ်အပျက် အားလုံးလိုလိုကိုတောင် ကာယကံရှင်ကိုယ်တိုင် နှုတ်ကပြောလာတဲ့အထိ အိပ်မွေ့ချပြီးထုတ်ဖော်ပေးနိုင်နေပြီပဲ ကိုလင်းရဲ့"

"ဘာပဲ ဖြစ်ဖြစ်လေဗျာ၊ လူတစ်ယောက်ရဲ့ အတိတ်ကို မှန်အောင် ဟောနိုင်မှဖြင့် အနာဂတ်ကိုလည်း သိနိုင်မှာပေါ့"

"ဟား ဟား ဟား၊ အဲဒီမှားယွင်းတဲ့ကောက်ချက်ကြောင့် ခင်ဗျားတို့ အညာခံနေကြရတာပဲဗျ။ ခင်ဗျားပြောသလို လူတစ်ယောက်ရဲ့ အတိတ်ကို သိတာနဲ့ အဲဒီလူရဲ့ အနာဂတ်ကိုလည်း သိနိုင်တယ်ဆိုရင် ခင်ဗျားကို

ကျွန်တော် တစ်ခုမေးမယ်ဗျာ”

“ဆိုစမ်းပါဦး”

“ခင်ဗျားလူမှန်းသိစ အရွယ်ကစပြီး ခုချိန်ထိလူမသိအောင် ခိုးကြောင်ခိုးဝှက် လုပ်ခဲ့တဲ့ကိစ္စလေးတွေပါ အပါအဝင်ပေါ့ဗျာ၊ ခင်ဗျား လုပ်ခဲ့သမျှကို ခင်ဗျားထက် ပိုသိတဲ့လူ လောကမှာရှိပါဦးမလား”

“အင်း. . . ဒါတော့မရှိနိုင်ဘူးဗျ”

“ခင်ဗျားတို့ အခုမေးခဲ့တဲ့ အကြားအမြင်ဆရာကြီးကရော ခင်ဗျားရဲ့ ဘဝနောက်ဖြစ်တွေကို ဟောတဲ့နေရာမှာ ဘယ်နေ့ဘယ်ရက်၊ ဘယ်နေရာမှာ ဘယ်သူနဲ့ဘာပြောပြီး ဘာတွေဖြစ်ခဲ့တယ်ဆိုတာ အတိအကျ ပြောနိုင်လို့လား”

“အဲဒီလောက်တော့ သူမပြောနိုင်ဘူးဗျ၊ သူပြောနိုင်တာက ငယ်ငယ်က ကျန်းမာရေးချူချာတယ်၊ ပညာထူးချွန်ခဲ့တယ်၊ ငယ်ငယ် ရွယ်ရွယ်နဲ့ အိမ်ထောင်ကျခဲ့တယ်။ ဒါလောက်ပါပဲ၊ အကြမ်းဖျင်းပေါ့ဗျာ”

“ဒါဆိုရင် ခင်ဗျားရဲ့အတိတ်က အဖြစ်အပျက်တွေကို ခင်ဗျားတို့ ဆရာကြီးက ခင်ဗျားလောက် အတိအကျမသိတာ သေချာတာပေါ့”

“ဒါတော့အမှန်ပဲ”

“ဒီလိုဆိုခင်ဗျားပြောသလို အတိတ်ကိုသိတဲ့လူဟာ အနာဂတ် ကိုလည်း သိနိုင်တယ်ဆိုရင် ခင်ဗျားရဲ့အတိတ်ကို ရေရေရာရာတိတိကျကျ မသိသေးတဲ့ ခင်ဗျားတို့ရဲ့ဆရာကြီးနဲ့စာရင် ခင်ဗျားရဲ့အတိတ်ကို ရေရေ ရာရာ တိတိကျကျသိတဲ့ ခင်ဗျားကိုယ်တိုင်ကမှ ခင်ဗျားရဲ့အနာဂတ်ကို အနီး စပ်ဆုံး၊ အမှန်ကန်ဆုံး သိနိုင်မှာပေါ့၊ မဟုတ်ဘူးလားဗျာ”

“ဒီလိုတော့လည်း အဟုတ်သားဗျ”

“ဟုတ်ရမယ်လေ၊ လူတစ်ယောက်ရဲ့ အနာဂတ်ကံကြမ္မာဟာ အတိတ်နဲ့ ပစ္စုပ္ပန်လုပ်ရပ်တွေကိုအခြေပြုပြီး မွေးဖွားလာခဲ့ရတာပဲ၊ ဒီတော့ ခင်းဗျားရဲ့အနာဂတ်ကို အနီးစပ်ဆုံး၊ အမှန်ကန်ဆုံးမှန်းဆချင်ရင် ခင်ဗျားရဲ့ အတိတ်နဲ့ ပစ္စုပ္ပန်လုပ်ရပ်တွေအပေါ်သာ အခြေပြုမှန်းဆနိုင်တော့မှာပေါ့ ကိုလင်းရာ”

“အေးဗျ၊ ပစ္စုပ္ပန်လုပ်ရပ်ဆိုတာကလည်း စက္ကန့်တိုင်းမှာ ပြောင်းလဲ နေတဲ့ဖြစ်စဉ်ဆိုတော့ လူတစ်ယောက်ရဲ့အနာဂတ်ဟာလည်း စက္ကန့်တိုင်းမှာ အပြောင်းအလဲ ရှိနေနိုင်တာပဲနော်”

“ဒါပေါ့ဗျာ၊ လူတစ်ယောက်ရဲ့အတိတ်ကို ပြောပြနိုင်တာဟာ ဆန်း

သလိုလိုရှိပေမယ့် အဲဒီလူအတွက် ဘာမှသိပ်ပြီးအကျိုး မထူးလှပါဘူးဗျာ၊ ဒါတွေဟာ ဘယ်သူမဆို သမာဓိအားကောင်းအောင်ကျင့်ယူရင် အနည်းနဲ့ အများဆိုသလို ပြောနိုင်ဟောနိုင်ကြတာပဲ ကိုလင်းရဲ့၊ ဒါလေးအပေါ် လူတွေ အထင်ကြီးအောင် အရှိန်အဝါယူပြီး လုပ်စားနေကြတာပဲ။ သူတို့ အရည် အချင်း လောက်ကိုမပြောနဲ့၊ လူတစ်ယောက်ရဲ့ အတိတ်ကဖြစ်ရပ်များစွာကို ဖော်ထုတ်ပေးနိုင်တဲ့ စိတ်ညှို့ပညာရှင်ကြီးတွေတောင် အဲဒီလူရဲ့အနာဂတ် ကို အတိအကျ မမှန်းဆနိုင်ကြပါဘူးဗျာ"

"ကိုဝင်းပြောသလိုဆိုရင် ကျွန်တော်တို့ဆရာကြီးဟာ ရှိစုမဲ့စု သမာဓိလေးနဲ့ လူတွေရဲ့နောက်ဖြစ်ကို ယောင်ဝါးဝါးဟောပြီး ယုံကြည်လာ အောင်လုပ်၊ လူတွေယုံကြည်ပြီဆိုတော့မှ သူရဲ့ဖြီးလုံး၊ ဖြန်းလုံး၊ မြှောက်လုံး၊ ခြောက်လုံးတွေသုံးပြီး လူတွေအိတ်ထဲကငွေကို ချူထုတ်နေတာပဲဗျ"

"ဒီလိုလူမျိုးတွေကိုထားဦး၊ သင်္ချာနည်းနဲ့ စနစ်တကျတွက်ချက် ရပြီး ပညာရပ်တစ်ခုအနေနဲ့ရပ်တည်နေတဲ့ ဝေဒပညာရှင်တွေတောင်မှ လူ တစ်ယောက်ရဲ့အနာဂတ်ကို မပီပိုးတဝါးခန့်မှန်းနိုင်တဲ့ အဆင့်မှာပဲရှိတယ်။ ဒါတောင် သူတို့ တွက်ချက်တဲ့ နေရာမှာ ကာယကံရှင်ရဲ့ အတိတ်ကဖြစ်ခဲ့တဲ့ အချက်အလက်တွေဖြစ်တဲ့ မွေးနေ့၊ မွေးရက်၊ မွေးတဲ့အချိန်၊ မွေးရပ်ဒေသ စတာတွေကို စုစည်းရယူရသေးတာပဲ၊ ဒီကြားထဲသွက်သွက်ခါအောင်မှားတဲ့ ဟောချက်တွေက အများကြီးဗျ"

"လူတစ်ယောက်ရဲ့ အနာဂတ်ကံကြမ္မာကို ဒက်ထိမှန်အောင် မဟောနိုင်ကြဘူးဆိုတော့ ပညာရပ်ရဲ့မပြည့်စုံမှုကြောင့်လားဗျာ"

"အခုနတင် ကျွန်တော်ပြောပြီးပါပကော၊ လူတစ်ယောက်ရဲ့ အနာဂတ်ဟာ အတိတ်နဲ့ပစ္စုပ္ပန်အပေါ် အခြေခံတယ်ဆိုတာလေ။ လူ တစ်ယောက်ရဲ့ပစ္စုပ္ပန်ဘဝ ကြံစည်ပြောဆိုလုပ်ဆောင်ချက်တွေဟာ သူ့ရဲ့ စိတ်စေတနာပေါ်မူတည်ပြီး အချိန်တိုင်းမှာအပြောင်းအလဲရှိနိုင်တယ် မဟုတ်လား၊ ဒီလိုပြောင်းလဲနေတဲ့ ပစ္စုပ္ပန်ပေါ်အခြေခံပြီး အနာဂတ်ကံ ကြမ္မာဟာလည်း အစဉ်ပြောင်းလဲနေတယ်ဗျ၊ ဒါ့ကြောင့် လူတစ်ယောက် ဟာ သူ့ရဲ့ပစ္စုပ္ပန်ကို သူကိုယ်တိုင် သူ့စိတ်ကြိုက်ဖန်တီးနေပြီး သူ့ရဲ့အတိတ် ဟာလည်း သူ့စိတ်ကြိုက်ဖန်တီးခဲ့တာဖြစ်တဲ့အတွက် သူ့ရဲ့အနာဂတ် ကံကြမ္မာကို အနီးစပ်ဆုံးနဲ့အမှန်ကန်ဆုံး ခန့်မှန်းသိရှိနိုင်တဲ့လူဟာ သူကိုယ်တိုင်ကလွဲရင် ဘယ်အကြားအမြင်ဆရာ၊ ဘယ်ဗေဒင်ဆရာ၊ ဘယ် တယ်လီပသီဆရာများ ဖြစ်နိုင်အုံးမှာလဲဗျာ"

"ဒါဆိုရင် လူတစ်ယောက်ရဲ့ အနာဂတ်ကံကြမ္မာကို ဖန်တီးသူဟာ အဲဒီလူ ကိုယ်တိုင်ပဲပေါ့နော်"

"ဒါပေါ့ဗျာ၊ ခင်ဗျားတို့ ကျွန်တော်တို့လို ဗုဒ္ဓဝါဒီတွေအဖို့ ဒီကိစ္စဟာ အထူးတလည် ရှင်းပြနေစရာတောင်မလိုပါဘူး။ ကောင်းတာလုပ်ရင် ကောင်းတာဖြစ်မယ်၊ မကောင်းတာလုပ်ရင် မကောင်းတာဖြစ်မယ်။ ကောင်းတာမလုပ်ခဲ့ဘဲနဲ့တော့ ကောင်းတာဖြစ်ချင်လို့ မရဘူးလေဗျာ"

"ဒါပေမယ့်ကိုဝင်းရေ၊ လူဆိုတာအခက်သားဗျ။ အရင်က ကောင်းတာမလုပ်ခဲ့ပေမယ့် အချိန်တန်တော့ ကောင်းတာလေးပဲဖြစ်ချင်တယ်၊ ဒီတော့ အားကိုးရှာကြတာပေါ့ဗျာ"

"ဒီလို လောကရဲ့သဘာဝကိုဆန့်ကျင်ပြီး တရားမျှတမှုကင်းမဲ့တဲ့ စိတ်ဓာတ်နဲ့ အချောင်လိုက်ချင်သူတွေကြောင့် လူလိမ်လူကောက်တွေ စားသာနေတာပေါ့ဗျာ၊ အခုပဲကြည့်လေ၊ ခင်ဗျားနိုင်ငံခြားသွားဖို့ စာမေးပွဲ ဖြေခဲ့ပြီးပြီ၊ ခင်ဗျားအနေနဲ့ ဒီစာမေးပွဲအတွက် ဘယ်အတိုင်းအတာအထိ ဖြေဆိုနိုင်ခဲ့တယ်၊ ပြိုင်ဘက်တွေနဲ့စာရင် ခင်ဗျားရဲ့အရည်အချင်း၊ အနေအထား ဘယ်လိုရှိတယ်၊ ရွေးချယ်မယ့်လူတွေကရော ခင်ဗျားအပေါ် ဘယ်လို သဘောထားခဲ့ကြတယ်ဆိုတာတွေကို ခင်ဗျားထက်ပိုသိတဲ့လူ ရှိပါဦးမလား၊ ဒီတော့ ခင်ဗျားရဲ့အနာဂတ်ကံကြမ္မာကို အနီးစပ်ဆုံးခန့်မှန်း နိုင်တဲ့လူဟာ ခင်ဗျားကလွဲရင် ဘယ်သူရှိတော့မှာလဲ၊ ရွေးချယ်မယ့်လူကြီး တွေတောင် ခင်ဗျားဖြေပြီးအမှတ်တွေကို ကြည့်ပြီးမှသိနိုင်မှာ၊ ခင်ဗျားက စာမေးပွဲခန်းထဲက ထွက်လာကတည်းက ကိုယ့်အခြေအနေကိုကိုယ်သိပြီး သားပါဗျာ။ ဒါကို စိတ်မချလို့ အကြားအမြင်တွေ၊ ဗေဒင်တွေ သွားမေးတော့ ဘာဖြစ်သလဲ၊ ငွေကုန်တယ်၊ လူပန်းတယ်၊ ဒါ့ထက် ခင်ဗျားတို့ဆရာကြီးက ယတြာဖိုးတောင်းလို့ကောင်းအောင် မဟုတ်မဟပ်လုပ်ဇာတ်တွေခင်းပြီး ဖြဲခြောက်လိုက်တော့ ခင်ဗျားတို့မှာ မအိပ်နိုင်မစားနိုင် တမှိုင်မှိုင်တတွေတွေနဲ့ ဒုက္ခရောက်ကြ ရတော့တာပေါ့"

"ဟုတ်ပါ့ဗျာ၊ ဗေဒင်သွားမမေးဘဲ နေရင်လည်းအောင်မယ့် စာမေးပွဲက အောင်မှာပဲ၊ မအောင်လို့ကျလည်း အရင်းအတိုင်းပဲပေါ့၊ အခုတော့ အကြားအမြင်ဆရာလိမ်ဆီသွားမေးမိကာမှ ငွေကုန်၊ အချိန်ကုန်၊ လူပန်း၊ စိတ်ဒုက္ခရောက်နဲ့ အကြီးအကျယ်အရှုံးပေါ်တော့တာပဲ ကိုဝင်းရာ"

"ခင်ဗျားတို့ ရှုံးတာကတော်ပါသေးတယ်ဗျာ၊ တချို့ဆိုရင် အဲဒီလို အားကိုးရှာရင်းနဲ့ ကိုယ့်ရဲ့ယုံကြည်မှုပါ ဆုံးရှုံးသွားတဲ့လူတွေအများကြီးဗျ"

"ယုံကြည်မှု ဆုံးရှုံးတယ်ဆိုတာက ဘယ်လိုများလဲဗျ"

"ဒီလိုလေဗျာ၊ ကောင်းတာမလုပ်ခဲ့ဘဲ ကောင်းတာဖြစ်ချင်တဲ့ လူတွေပေါ့ဗျာ၊ ဗုဒ္ဓဘာသာဝင်တွေအဖြစ် ခံယူထားပါရက်နဲ့ ဗုဒ္ဓမြတ်စွာ ကဖြင့် လောကုတ္တရာရေးကိုပဲ ဟောကြားခဲ့တာ၊ နိဗ္ဗာန်မရောက်ခင် လောကီ အောင်မြင်မှုတွေအတွက် ဘာမှဆောင်ကြဉ်းပေးနိုင်တာ မဟုတ်ဘူး။ ဒါကြောင့် ဆောင်ကြဉ်းပေးနိုင်တယ်ဆိုတဲ့ နတ်တွေ၊ စုန်းတွေ၊ ဝိဇ္ဇာဇော်ဂျီ တပသီဆိုတာတွေဆီ ချဉ်းကပ်ကိုးကွယ်ကြတယ်လေ၊ တချို့များဆိုရင် ကိုယ့်ဘုရားကို ဘေးချိတ်ပြီး ဗြဟ္မာ၊ ဗိဿနိုး၊ သီဝစတဲ့ နတ်ဘုရားကြီးတွေ၊ သူရဿတီ၊ လက်ချမီး၊ ကာလီစတဲ့ မယ်တော်နတ်သမီးဆိုတာတွေကိုပါ အိမ်မှာစင်ထိုး၊ ပန်းအိုးနဲ့ကိုးကွယ်ကြ၊ ဖခင်မြန်မာ၊ မိခင်မြန်မာ ဗုဒ္ဓဘာသာ စစ်စစ်ကမွေးထားပါရက်နဲ့ တစ်ကိုယ်လုံးအပ်တွေထိုး၊ နန္ဒင်းလူးပြီးမီးနင်း ပွဲမှာ တဂျိမ်းဂျိမ်းနဲ့နွှဲနေကြပြီဗျ"

"ဘုရားရေ. . .၊ ဒီလိုသာဆို အဲဒီလူတွေဟာ ဘယ်မှာလာဗုဒ္ဓ ဘာသာဝင် ဟုတ်တော့မှာလဲဗျ"

"ဒါပေါ့ ကိုလင်းရာ၊ ဗုဒ္ဓဘာသာဝင်တစ်ယောက်အနေနဲ့ ရတနာ သုံးပါးမှတစ်ပါး အခြားဆည်းကပ် ကိုးကွယ်ရာမရှိဆိုတဲ့ သရဏဂုံကျိုးပျက် သွားပြီဆိုတော့ မွေးရာပါ ဗုဒ္ဓဘာသာဝင်ဘဝလေးကိုပါ ဆုံးရှုံးရတော့တာ ပေါ့ဗျာ"

"ဟုတ်သဗျို့၊ ကျွန်တော့် သူငယ်ချင်းတစ်ယောက်ဆိုရင် ခင်ဗျား အခုနပြောတဲ့ ဗြာဟ္မဏနတ်တွေကို ကိုးကွယ်ရတာအားမရလို့ မဟာယာန တရုပ်ဗုဒ္ဓဘာသာဝင်တွေရဲ့ အဝလောကိတေဿရဘုရားအလောင်းတို့၊ ကွမ်ယင်မယ်တော်၊ ဘိုးတော်အန်းကုံးဆိုတာတွေတောင် ကိုးကွယ်ထား လိုက်သေးဗျာ၊ ဗမာဘိုးတော်၊ ကုလားဘိုးတော်တွေအပြင် သုံးဆယ့် ခုနစ်မင်းနတ်တွေလည်း ချန်မထားဘူးဗျ"

"ကိုယ့်အားကိုယ်မကိုးဘဲ အချောင်လိုချင်တဲ့စိတ်ကြောင့် စစ်မှန်တဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်ဘဝကို ဆုံးရှုံးရပြီး မဂ်ဖိုလ်နိဗ္ဗာန်နဲ့ အဝေးကြီးဝေးကြရတော့တာပေါ့ဗျာ။ တကယ်တော့ သူတို့လည်းခင်ဗျားတို့ လိုပဲ ဗေဒင်ယောင်ယောင်၊ အကြားအမြင်ယောင်ယောင် ဆရာကြီးတွေကို ချဉ်းကပ်မိရာက အဲဒီလူလိမ်လူကောက်တွေ ခိုင်းသမျှလုပ်မိရင်း ထေရဝါဒ ဗုဒ္ဓဘာသာလမ်းကြောင်းပေါ်က သွေဖည်လမ်းမှားကုန်ကြတာပေါ့"

"အင်း. . . သူတို့နဲ့စာရင် ကျွန်တော်တို့ ရှုံးခဲ့တဲ့အရှုံးက ပြန်ပြင်လို့

ရပါသေးတယ်”

“ဒါကြောင့် နောက်ဆိုရင်ငွေလည်းမကုန် လူလည်းမပန်း၊ စိတ်မနွမ်းဘဲအရှုံးမပေါ်ရအောင် ခင်ဗျားကို ကျွန်တော်အကောင်းဆုံးဗေဒင်နည်းတစ်ခု ပေးပါ့မယ်ဗျာ”

“ဗေဒင်ဆိုရင်တော့ ကြောက်ပါပြီဗျာ”

“အခုကျွန်တော်ပြောမှာက ကိုလင်းထင်သလို မဟုတ်ပါဘူးဗျာ၊ ထေရဝါဒဗုဒ္ဓဘာသာဝင်တိုင်း လက်ကိုင်ထားသင့်တဲ့ ဗုဒ္ဓမြတ်စွာအလိုကျ ကိုယ့်ဘဝရဲ့အနာဂတ်ကို ကိုယ်တိုင်တွက်ချက်နည်းပါဗျ”

“ဒါဆိုလည်း ရှင်းစမ်းပါဦးကိုဝင်းရာ”

“ဗုဒ္ဓမြတ်စွာပရိနိဗ္ဗာန်မပြုမီ လပိုင်းအလိုလောက်ကပေါ့ဗျာ၊ ဝေနေယျသတ္တဝါတွေကို တရားရေအေးလှည့်လည်တိုက်ကျွေးရင်း ညီတော်အာနန္ဒာနဲ့အတူ နာတိကရွာမှာခရီးတစ်ထောင့် နားတော်မူသတဲ့။ အဲဒီအချိန်မှာအရှင်အာနန္ဒာက ဗုဒ္ဓဘုရားရှင်ကိုချဉ်းကပ်ပြီး ကွယ်လွန်သွားပြီဖြစ်တဲ့ သူ့မိတ်ဆွေရွာသားများရဲ့လားရာဂတိကို ဖြေကြားပေးဖို့ မေးမြန်းလျှောက်ထားတော့ ဗုဒ္ဓမြတ်စွာက *ချစ်သားအာနန္ဒာ-ကွယ်လွန်လေပြီးသောပုဂ္ဂိုလ်တိုင်း၏ လားရာဂတိကိုဖြေကြားရလျှင် ငါဘုရားပင်ပန်းရုံသာရှိမည်၊ မည်သူ့ကိုမျှမမေးဘဲ မိမိလားရာဂတိကို မိမိကိုယ်တိုင်ဆုံးဖြတ်နိုင်ဖို့ရာ ဓမ္မာဒါသတည်းဟူသော တရားကြေးမုံမှန်ကြီးကို ငါပြတော်မူမည်* လို့ အမိန့်ရှိသတဲ့”

“ဟာ. . . တယ်အဖိုးတန်တဲ့ တရားပဲဗျ၊ ဒါကိုသာရလိုက်ရင် အခုခေတ်လူတွေ လေချွန်နတ်တို့ဘာတို့တောင် သွားမေးနေစရာမလိုတော့ဘူး၊ ကဲ. . ဆက်ပါဦးဗျာ”

“ဗုဒ္ဓမြတ်စွာဆက်ဟောတာက *အာနန္ဒာ-အရိယာဖြစ်တော်မူသော ငါဘုရား၏ တပည့်သာဝကဖြစ်သူသည် အကြင်တရားကြေးမုံမှန်ကြီးနှင့် ပြည့်စုံသော မိမိကိုယ်ကိုမိမိ သိမြင်ရသောအခါ ငါ့မှာ ငရဲ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် အပါယ်ဒုဂ္ဂတိသို့ကျဖို့ရာ အကြောင်းကုန်ပြီ၊ ငါသည် သောတာပန်ဖြစ်ရပြီဟု မိမိကိုယ်ကိုဖြေဆိုနိုင်ပြီ၊ ထိုသို့ဖြေဆိုနိုင်ကြောင်းဖြစ်သော တရားကြေးမုံမှန်ကြီးကား ဗုဒ္ဓဂုဏ်၊ ဓမ္မဂုဏ်၊ သံဃာဂုဏ်တို့၌ ပညာဉာဏ်နှင့်ယှဉ်လျက်၊ မတုန်မလှုပ် သက်ဝင်ယုံကြည်ခြင်းနှင့် အရိယာတို့ နှစ်သက်မြတ်နိုးအပ်သော ငါးပါးသီလကိုမကျိုးပေါက်အောင် ထိန်းသိမ်းစောင့်ရှောက်ခြင်းတို့နှင့် ပြည့်စုံခြင်းပင်တည်း။ ဤတရားကြေးမုံ*

*မှန်ကြီးကိုကြည့်၍ မိမိကိုယ်ကို စဉ်းစားကြည့်သောအခါ မိမိကိုယ်ကို အပါယ်တံခါးပိတ်၍ သောတာပန်ဖြစ်လေပြီဟု ဖြေဆိုနိုင်လေပြီ* လို့ အတိအလင်း မြွက်ကြားခဲ့ပါတယ်ဗျာ"

"သဘောကတော့ ရတနာမြတ်သုံးပါးအပေါ် အသိနဲ့ယှဉ်ပြီး မတုန်မလှုပ်ယုံကြည်သက်ဝင်တဲ့ သဒ္ဓါတရား၊ ဗုဒ္ဓဝါဒရဲ့ အခြေခံကျင့်ဝတ်ဖြစ်တဲ့ ငါးပါးသောသီလတရားတွေနဲ့ ပြည့်စုံတဲ့သူတစ်ယောက်အဖို့ ကိုယ့်ရဲ့လားရာ ဂတိကို ဘယ်သူ့မှမေးမနေနဲ့၊ ဒုဂ္ဂတိဘုံအပါယ်တံခါး ပိတ်သွားပြီး ကောင်းရာသုဂတိကိုရောက်ဖို့သာ သေချာသွားပြီလို့ ဗုဒ္ဓမြတ်စွာက ရဲရဲကြီး အာမခံလိုက်တာပဲဗျနော"

"ဒါပေါ့ဗျာ၊ တစ်နည်းဆိုရရင် လူတိုင်းလူတိုင်းရဲ့ အနာဂတ်ကံကြမ္မာဟာ အတိတ်နဲ့ပစ္စုပ္ပန်မှာပြုခဲ့သမျှ ကောင်းမှုမကောင်းမှုတွေ အပေါ်မှာသာအခြေခံနေတာမို့ ကိုယ့်ရဲ့အနာဂတ်ကိုသိချင်ရင် ဘယ်သူ့မှ အချိန်ကုန်ခံပြီးမေးမနေနဲ့၊ ကိုယ့်ရဲ့ကြံစည်ပြောဆိုမှု၊ ပြုမူမှုတွေအပေါ် ကြည့်ပြီး ကိုယ့်ဘာသာကိုယ် ဝေဖန်ဆုံးဖြတ်ပေတော့လို့ ဗုဒ္ဓမြတ်စွာက ကိုယ့်အနာဂတ်ကို ကိုယ်တိုင်သိအောင်တွက်ချက်နည်း ပေးခဲ့တာပဲဗျာ"

"ဒီလိုဆို ရတနာသုံးပါးကိုဘေးချိတ်ပြီး တခြားပုဂ္ဂိုလ်တွေကို အားကိုးတကြီး ကိုးကွယ်ဆည်းကပ်နေကြတဲ့လူတွေ၊ ကိုယ်တိုင်ဖြင့် ငါးပါးသီလကိုလုံအောင်မစောင့်ထိန်းနိုင်ခဲ့၊ ကောင်းတာမလုပ်ခဲ့ဘဲ အချိန်တန် တော့ ကောင်းတာလေးပဲဖြစ်ချင်ကြတဲ့ အချောင်သမားတွေအဖို့ကတော့ အပါယ်တံခါးပွင့်နေ၊ ငရဲလမ်းကဝဲလ်ကမ်းလုပ်နေမြဲပေါ့"

"သိပ်မှန်တာပေါ့ ကိုလင်းရာ၊ ကောင်းတာလုပ်ခဲ့ရင် ကောင်းတာဖြစ်သလို မကောင်းတာလုပ်ရင် မကောင်းတာဖြစ်မယ်ဆိုတဲ့ သဘာဝရဲ့ ကမ္မနိယာမတရားကို ဘယ်တန်ခိုးရှင်၊ ကယ်တင်ရှင်၊ ဘယ်ဗေဒင်ဆရာ၊ ဘယ်ယတြာနဲ့မှ ချေဖျက်ပြောင်းလဲပစ်လို့မရဘူးဗျ၊ ဒါကို နားလည်သဘောပေါက်ထားတဲ့ ထေရဝါဒဗုဒ္ဓဝါဒီ တစ်ယောက်အနေနဲ့ကတော့ ကိုယ့်အားကိုယ်ကိုးပြီး ကိုယ့်ကြမ္မာကိုယ်ဖန်တီးကြရုံပဲပေါ့ဗျာ"

"ကိုဝင်းက ကိုယ့်အားကိုယ်ကိုးဆိုလို့ ကျွန်တော်တစ်ပိုင်းတစ်စ ရထားတဲ့ ဟိုသီချင်းလေးကိုသွားသတိရသဗျာ"

"သတိရရင်ဆိုစမ်းပါဦးဗျာ၊ ဒီကနေ့ ကျွန်တော်တို့စကားဝိုင်းကို ခင်ဗျားရဲ့သီချင်းလေးနဲ့ ပွဲသိမ်းကြတာပေါ့"

"ဟဲ ဟဲ ဟဲ. . . ပရိတ်သတ်က ပွဲတောင်းတော့လည်း ဖိုးဆိုချင်

ပီပီ တစ်ချိတစ်မောင်းဟဲရသေးတာပေါ့၊ အမှားပါရင်လည်း ခွင့်လွှတ် သည်းခံနားဆင်ပေတော့ဗျာ၊ သီချင်းလေးက ဘာတဲ့. . . ‘သောတရှင်များ ထိုထို x x အကျိုးမျှော်ကာ နှိုးဆော်ရသကို x x ကိုယ့်ကိုယ်ကို အားကိုးကြပါ၊ အားကိုးကြပါ၊ အားကိုးကြပါ x x သူတစ်ပါးကို ယုံစားနေရန်မလို x x မိဘဆွေမျိုး အားကိုးနေသလိုလို x x သူငယ်ချင်းအပေါင်းအသင်း အားကိုးနေသလိုလို x x ကိုယ်ကတော့ထာဝရအဟုတ်ပင် ဘာမှမလုပ်ချင် ပျင်းရိနေတာအပိုအပို x x ပျင်းရိနေတာအပိုအပို x x ကိုယ့်ဟာကိုယ် မကြိုးစားရင် မိုးသိကြားတောင် ကယ်နိုင်ပါဘူးဗျို x x ။”

(၁၅-၉-၉၁)

မမွှရုံသီ ၊ ၁၉၉၁ခုနှစ်၊ ဒီဇင်ဘာလ။

# သူရဿတီ ဆိုသည်မှာ

"ဟော. . . ကိုလင်းပါလား၊ ဒီတစ်ခါ စောစောစီးစီးလာပုံ ထောက်တော့ ဆွေးနွေးစရာများများစားစား ပါလာပြီထင်တယ်"

"သေချာတာပေါ့ ကိုဝင်းရာ၊ ဟောဒီ ၁၉၉၁ ခုနှစ် ဖေဖော်ဝါရီလထုတ် ဓမ္မရံသီဓမ္မမဂ္ဂဇင်းထဲမှာ ခင်ဗျားရေးခဲ့တဲ့ အပြုအဖျက်ဤနှစ်ချက်ကို . . ဆိုတဲ့ဆောင်းပါးလေးနဲ့ ပတ်သက်လို့ပဲဗျ"

"ဟုတ်ပြီ-ကျွန်တော်မှတ်မိပြီ၊ ထေရဒါဒဗုဒ္ဓဘာသာဆိုင်ရာ သာသနိက အဆောက်အအုံတချို့ပေါ်မှာ ထေရဝါဒဗုဒ္ဓဘာသာနဲ့ ဆန့်ကျင်တဲ့အယူဝါဒတွေကို ကိုယ်စားပြုသူများရဲ့ ရုပ်တုဆင်းတုတွေကို တခမ်းတနားဘုရားနဲ့အပြိုင် ပူဇော်မထားသင့်ကြောင်း တင်ပြခဲ့တာပဲ။ ဒါကို နားလည်နှစ်သက်မိကြောင်း စာရေးသားအားပေးခဲ့တဲ့ တနင်္သာရီတိုင်း၊ ပုလောမြို့၊ ဗိုလ်မှူးဗထူးလမ်းကဦးဘိုးဦးရဲ့စာကို ဓမ္မရံသီအယ်ဒီတာအဖွဲ့က တစ်ဆင့်ရလို့ ကျေးဇူးတင်ဝမ်းမြောက်ရပါသေးတယ်"

"အဲဒီဆောင်းပါးမှာ ထေရဝါဒဗုဒ္ဓဘာသာဝင် အတော်များများက ပိဋကတ်သုံးပုံစောင့် မယ်တော်ကြီးအဖြစ်ယူဆကြတဲ့ သူရဿတီနတ်သမီးဟာ ဗြာဟ္မဏဝါဒက ဆင်းသက်လာတာဖြစ်ပြီး၊ အခုလေးငါးနှစ်အတွင်း မြန်မာဗုဒ္ဓဘာသာဝင်တွေအကြား ပေါ်ပြူလာဖြစ်လာတဲ့ ပြည်ကြီးသူကွမ်ရင်မယ်တော်ဟာလည်း မဟာယာနဗုဒ္ဓဘာသာဝင်တို့ရဲ့ အဝလောကိတေဿရ ဘုရားအလောင်းကို ဣတ္ထိလိင်အသွင်ဆောင်ထားတာသာ ဖြစ်တယ်လို့ ရေးခဲ့တယ်မဟုတ်လား"

"ဒါ အမှန်အတိုင်းရေးခဲ့တာပဲ ကိုလင်းရဲ့"

"ခင်ဗျားက မှန်တယ်ဆိုပေမယ့် ကျွန်တော့်အနေနဲ့ စောဒကတက်စရာလေးတွေ ရှိနေတယ်ဗျ၊ ပထမဦးဆုံး သူရဿတီမယ်တော်ကြီးနဲ့ ပတ်သက်လို့ပေါ့ဗျာ"

"ဆိုစမ်းပါဦးဗျာ၊ ကျွန်တော်ဘာများ မှားသွားပါလိမ့်မလဲ"

"ဒီလိုဗျ၊ ကိုဝင်းကသာ သူရဿတီမယ်တော်ဟာ ဗုဒ္ဓသာသနာ

တော်နဲ့ ဘာမှမသက်ဆိုင်ပါဘူးလို့ဆိုထားပေမယ့် ဗုဒ္ဓရဲ့တပည့်သားသံဃာကျမ်းတတ်မထေရ်ကြီး တချို့ကတောင် မယ်တော်ကြီးကိုအလေးအမြတ်ထားခဲ့ကြတဲ့ အထောက်အထားတွေရှိနေတယ်ဗျ။ သီဟိုဠ်ရဟန်းတော်အရှင်သံဃရက္ခိတ မထေရ်ကြီးက သူ့ရဲ့သုဗောဓာလင်္ကာရကျမ်းဦးအစမှာ *မုနိန္ဒဝဒနမ္ဗောဇ၊ ဂဗ္ဘသမ္ဘဝသုန္ဒရီ။ သရဏံ ပါဏိနံဝါဏီ၊ မယှံပီယတံ မနံ* လို့ရေးသားခဲ့တာတွေ့ရတယ်။ အဓိပ္ပာယ်ကတော့ *မြတ်စွာဘုရား၏ နှုတ်တွင်းတော်ဆိုသည့် ကြာတိုက်တွင်ဖြစ်သည့်အတွက် ကောင်းမြတ် တင့်တယ်သတ္တဝါတို့ကိုးကွယ်ရာ သူရဿတီနတ်သမီးသည် တပည့်တော်၏စိတ်နှလုံးကို နှစ်သိမ့်အောင် ပြုပေးတော်မူပါစေသတည်း* လို့ တိုင်တည်ထားတာပဲဗျ။ နောက်ပြီး ဘိုးတော်ဘုရားလက်ထက် စလင်းဆရာတော်က ပရိတ်ကြီးနိဿယကို စီရင်တဲ့အခါမှာလည်း *ဒေဝတုဗောဓ္ဓ မုခမ္ဗောဇ၊ ဝနေ ဟံသာဝ မာဟ မာဝမေ။ ဝါစသိရမဘံ နိစ္စံ၊ သဗ္ဗာ သုတ္တာ သရဿတီ* ရယ်လို့ သူရဿတီနတ်သမီးကို တောင့်တပြီး ပဏာမစခဲ့တယ်လေ။ အဓိပ္ပာယ်ကတော့ *ကိုယ်လုံးဖြူသော၊ တင့်တယ်သော၊ ပဒုမတောတွင် မွေ့လျော်သည့် ဟင်္သာမင်းသို့ လိမ္မာစွာသော၊ သူမြတ်တို့ခံတွင်းဟူသည့် ပဒုမတော၌ မွေ့လျော်လေ့ရှိသော၊ အသုံးစုံဖြူစင်သည့် ကိုယ်နှုတ်အကျင့်ရှိသော သူရဿတီနတ်မြတ်သည် ငါ၏နှုတ်၌မပြတ် မွေ့လျော်ပါစေသတည်း* ပေါ့ဗျာ”

“အင်း . . . ကိုလင်းက ထောက်ပြဝေဖန်လာတော့ ကျွန်တော်ကလည်း ဖြည့်စွက်ပေးရသေးတာပေါ့ဗျာ၊ မန်လည်ဆရာတော်ဘုရားကြီးကိုယ်တိုင်ကလည်း သူ့ရဲ့မဟာသုတကာရီ မဃဒေဝလင်္ကာသစ်ကိုဖွဲ့ဆိုတဲ့အခါမှာ သီဟိုဠ်ရဟန်းတော် အရှင်သံဃရက္ခိတမထေရ်ရဲ့ ဂါထာကိုပဲ မြန်မာလို *သုံးပုံပိဋကတ်၊ ဝါဏီမြတ်ဟု၊ သူရဿတီ နတ်ဒေဝီလည်း၊ ယှဉ်မီနိစ္စ၊ မပြတ်မရှု၊ ငါ့နှလုံးတိုက် ရွှေကြာသိုက်၌ ပျော်ပိုက်စေပြီး . . .* လို့ ပြန်ဆို ပဏာမပြုခဲ့သေးတယ်ဗျ”

“ဒီလို မထေရ်ကြီးတွေကိုယ်တိုင် မယ်တော်ကို ရှေးအစဉ်အဆက်အလေးအနက်ပြုခဲ့တာသိနေရက်နဲ့ ဘာလို့များသူရဿတီမယ်တော်ဟာစစ်မှန်တဲ့ဗုဒ္ဓဘာသာနဲ့ မသက်ဆိုင်ပါဘူး၊ မကိုးစားထိုက်ပါဘူးလို့ ငြင်းနေချင်ရတာတုံး”

“မဟုတ်သေးဘူး ကိုလင်း၊ ဆရာတော်ကြီးတွေက ဒီလိုရေးထားခဲ့ရုံနဲ့ သူတို့ဟာသူရဿတီနတ်သမီး တကယ်ရှိတယ်၊ ကိုးကွယ်ပူဇော်ထိုက်

တယ်လို့ ဆိုလိုလိုက်တာမဟုတ်ဘူးဗျ။ ဥပမာတစ်ခုပြောရရင် အလောင်းမင်းတရားကြီးလက်ထက်မှာ လက်ဝဲနော်ရထာက တောင်တွင်းဆရာတော်ခင်ကြီးဖျော်ကို *သူရဿတီနတ်သမီးကိုလည်း မည်သည့်တွင် အခွင့်အလမ်းရ၍ ပိဋကတ်တခေပများမှာ သွတ်သွင်းဘိုကွယ်ကြသည်ကို သိချင်ပါသည်လို့* လျှောက်ထားမေးမြန်းဖူးတယ်လေ”

“ဒီတော့ဆရာတော်က ဘယ်လိုများဖြေရှင်းပေးခဲ့သလဲဗျာ”

“ဆရာတော်က *သူရဿတီနတ်သမီးသည် ကမ္ဘာဦးကနတ်ဖြစ်သည်၊ တန်ခိုးကြီးသည်၊ စကားတတ်သည်။ ထိုနတ်သမီးစောင့်လျှင် စကားကောင်းကိုသာ ဆိုမိတတ်သည်ဟူ၍ လောကဝါဒအယူရှိသောကြောင့် ရာမကျမ်း၊ သမ္မကျမ်း၊ ဗေဒ်ကျမ်းအစရှိသော လောကီကျမ်းများမှာ သူရဿတီနတ်သမီးကို ရှိခိုးတောင့်တပဏာမပြု၍ ကျမ်းပြုကုန်သည်။ သာသနာဝင်ကျမ်းများမှာမူကား သူရဿတီနတ်သမီးကို ဥပမာပြု၍ ပိဋကတ်သုံးပုံကို ရှိခိုးတောင့်တပဏာမပြုသည်* လို့ အမိန့်ရှိခဲ့တယ်ဗျ”

“ဒါဆို ဆရာတော်ကြီးတွေဟာ သူရဿတီနတ်သမီးအစစ်ကို ရှိခိုးတောင့်တခဲ့တာမဟုတ်ဘဲ ဗုဒ္ဓမြတ်စွာဟောကြားခဲ့တဲ့ ပိဋကတ်သုံးပုံကို သူရဿတီနတ်သမီးအဖြစ် ပမာပြုတင်စားပြီး ရှိခိုးတောင့်တခဲ့တာလို့ ဆိုလိုတာပေါ့”

“ဒါပေါ့ဗျာ၊ သီဟိုဠ်အရှင်သံဃရက္ခိတရဲ့ ကျမ်းဦးဂါထာက **‘ဝါဏီ’** ဆိုတဲ့စကားလုံးဟာ သူရဿတီနတ်သမီးကိုသာ ဆိုလိုတာမဟုတ်ဘူးဗျ၊ *နံတွင်းမှထုတ်ဖော်ပြောကြားသော အနက်အဓိပ္ပာယ်ရှိသည့် စကား၊ ကဗျာ လင်္ကာ စာပေ အနုသုခုမ ပညာရပ်အားလုံး* လို့ ဖွင့်ဆို နိုင်တယ်။ ဒါ့ကြောင့် ဆရာတော်က သူ့ရဲ့အလင်္ကာကျမ်းရေးတဲ့အခါမှာ စာပေအနုသုခုမဈာန် ဝင်စားပါစေတော့လို့ တောင့်တပဏာမပြုခဲ့တာပါ”

“ဆရာတော်က စာပေအနုသုခုမလမိုင်းကပ်လိုတဲ့ ဆန္ဒကို ထုတ်ဖော်လိုက်တာ၊ Mood ဝင်ချင်တဲ့သဘောလို့ ခင်ဗျားဆိုလိုတာပေါ့”

“ဟုတ်ပါတယ်၊ စလင်းဆရာတော်ကြီးကလည်း သူရဿတီနတ်သမီးကို တကယ်ရှိတယ်လို့ယုံကြည်ပြီး ရေးခဲ့တာမဟုတ်ပါဘူး၊ လောကီကျမ်းဆရာတွေက သူရဿတီဟာ စာပေအနုသုခုမပညာရပ်အားလုံးရဲ့ အရှင်သခင်နိမိတ်ပုံသင်္ကေတအဖြစ် တင်စားကြတာကိုအတုယူပြီး ငါ့ရဲ့ပြောဆိုရေးသားမှုဟာလည်း စာပေအနုသုခုမပညာရပ်အားလုံးရဲ့

အရှင်သခင်တစ်ဦး ပြောဆိုရေးသားဘိအလား ပြေပြစ်ပြောင်မြောက်ထူးချွန်ပါစေတော့လို့ ဆန္ဒပြုခဲ့တာပါပဲ”

“မန်လည်ဆရာတော်ဘုရားကြီး ကျတော့ရောဗျာ”

“ဆရာတော်ဘုရား မြန်မာလိုပြန်တာကို သေသေချာချာဖတ်ပြီး တွေးခေါ်ကြည့်မယ်ဆိုရင် သိသာပါတယ်ဗျာ၊ သူရဿတီနတ်ဒေဝီကို သူ့နှလုံးအိမ်မှာကိန်းဝပ်စေလိုတယ်လို့ ပြောတာမှမဟုတ်ဘဲ။ သူရဿတီ ကို သက်သေတပြုပြီး ဗုဒ္ဓမြတ်စွာဟောကြားတော်မူခဲ့တဲ့ ပိဋကတ်သုံးပုံဟာ သူ့ရဲ့နှလုံးအိမ်မှာတည်ပြီး ဓမ္မစေတီထိုက်တဲ့ မထေရ်မြတ်တစ်ပါး ဖြစ်ပါရစေလို့တောင့်တခဲ့တာပဲ ကိုလင်းရ”

“ဒါပေမယ့် *သမုဒ္ဒဇာ တန္နိဝါသာ၊ ဟံသယာနေန စာရိနီ၊ ပစ္ဆာ ကေလာသ ကေလာသေ၊ ပဗ္ဗတေ နိစ္စ ဝါသိနီ* ဆိုတဲ့ပါဠိအရ သူရဿတီ မယ်တော်ကြီးဟာ တောင်သမုဒ္ဒရာမှာ မွေးဖွားနေထိုင်ခဲ့ပြီး ဟင်္သာယာဉ်နဲ့ သွားလာတတ်ကြောင်း၊ နောင်အခါ ဖြူဖွေးတောက်ပတဲ့ ကေလာသ အမည်ရှိတောင်ထွတ်မှာ အမြဲနေတဲ့အကြောင်း ဣရုဝေဒဏ္ဍဝကျမ်းကို ရည်ညွှန်းပြီး သူရဿတီမယ်တော် တကယ်ရှိတယ်လို့ အထောက်အထားပြု ရေးသားထားတာကိုလည်း ဖတ်ခဲ့ရဖူးတယ်ဗျ”

“အဲဒါ ကျွန်တော်တို့ မြန်မာအတော်များများရဲ့ ပျော့ကွက်ပေါ့ဗျာ၊ ပါဠိလိုရေးထားတာမြင်တိုင်း ဗုဒ္ဓဘာသာဆိုင်ရာ ဂါထာတွေပဲလို့ မှတ်ယူပြီး စစ်မှန်တဲ့ ဗုဒ္ဓသာသနပညာရှင်တွေကို ချဉ်းကပ်မေးမြန်း စုံစမ်းသမှုမပြုဘဲ မျက်စိစုံမှိတ်ယုံကြည်ကြတာကိုး”

“ဒါတော့ ကျွန်တော်တို့လည်း ပါဠိမတတ်တော့ သူများပြန်ဆို တာပဲ မှတ်သားရတာကိုး၊ အဲဒီဂါထာနဲ့တဆက်တည်းမှာပဲ သူရဿတီဟာ မဟာ မုဒိရသေ့ကြီးနဲ့ သမုဒ္ဒနတ်မိဖုရားကမွေးဖွားလာကြောင်း၊ ပထမတော့ သမုဒ္ဒရာမှာနေပြီး နောက်တော့ဟိမဝန္တာရဲ့တောင်ထွတ်တစ်ခုဖြစ်တဲ့ ကောလာသ တောင်ကို ပြောင်းရွှေ့သွားခဲ့ကြောင်း၊ အဲဒီလိုဟင်္သာယာဉ်ကြီး စီးပြီး ပြောင်းရွှေ့သွားစဉ် သူ့ကိုယ်ကကျလာတဲ့ ရေစက်ရေပေါက်တွေကနေ မြစ်တစ်စင်းဖြစ်လာတဲ့အကြောင်း၊ အဲဒီမြစ်ကို သူရဿတီမြစ်ရယ်လို့ မှည့်ခေါ်ကြောင်းတွေပါ ရေးသားထားတယ်လေ”

“အင်း. . ပါဠိလိုရေးထားတာမြင်တိုင်းလည်း ဗုဒ္ဓမြတ်စွာနဲ့တကွ တပည့်သားသံဃာတွေ ရေးသားစီရင်ထားတာလို့ တထစ်ချမယုံ လိုက်လေနဲ့ ကိုလင်းရေ၊ တကယ်တော့ ခင်ဗျားအခုနရွတ်ပြတဲ့ ဂါထာဟာ ဗြာဟ္မဏ

ဝါဒီတွေက သက္ကတဘာသာနဲ့ ရေးသားထားတဲ့ ဝေဒကျမ်းဂန်လာ သက္ကတဂါထာတွေကို မာဂဓဘာသာ (ပါဠိ) အဖြစ်နဲ့ ပြန်ဆိုရေးသားထား တာဗျ"

"ဝေဒကျမ်းဂန်ဆိုတာ ကိုဝင်းတစ်ခါကပြောဖူးတဲ့ ဝေဒလေးပုံကို ဆိုလိုတာလား"

"ဟုတ်ပါ့ဗျာ၊ မြန်မာလိုတော့ ဗေဒင်လေးပုံပေါ့၊ ဒါကို ရှင်ကုမာရကဿပရဲ့ဓမ္မရာသီပျို့မှာ *လေးသွယ်ဗေဒင်၊ ခေါ်တွင်ဣရှု၊ ယဇုမည်ရ၊ သာမတစ်ဆယ်၊ အာထဗ္ဗဏ၊ ဘက္ခဘတ်ကုံ၊ သွန်ပြည့်စုံမူ* လို့တောင် မှတ်လွယ်အောင် ရေးဖွဲ့ခဲ့သေးတယ်လေဗျာ၊ သက္ကတလိုတော့ **ရိဂ်ဝေဒ** (*Rig Veda*)၊ **ယဇုဝေဒ** (*Yajwr Veda*)၊ **သာမဝေဒ** (*Sama Veda*)၊ **အာထဗ္ဗဏဝေဒ** (*Atharve Veda*) လို့ခေါ်သဗျ၊ သူရဿတီနတ်သမီးအကြောင်း ချီးမွမ်းဖွဲ့ဆိုထားတဲ့ဂါထာတွေကတော့ ရိဂ်ဝေဒ (ခေါ်) ဣသျှုဝေဒ (ခေါ်) ဣရုဝေဒထဲမှာ စတင်ပါဝင်ခဲ့တာ တွေ့ရတယ်ဗျ"

"ဒါ့ထက် မြန်မာတွေကဗေဒင်လေးပုံလို့ ခေါ်နေပုံထောက်တော့ အဲဒီဝေဒလေးကျမ်းဟာ နက္ခတ္တဗေဒင်ပညာတွေချည့်ပဲလားဗျ"

"ဘယ်ဟုတ်ပါ့မလဲ ကိုလင်းရယ်၊ အဲဒီဝေဒလေးကျမ်းထဲမှာ ရှေးပဝေသဏီက အိန္ဒိယပြည်အနောက်မြောက်ဘက်ကနေ စတင်ဝင်ရောက်ခဲ့တဲ့ ရှေးအာရိယန်အနွယ်လူမျိုးစုတွေရဲ့ ဘာသာရေး၊ ယဉ်ကျေးမှု၊ အတွေးအခေါ်တွေ အများဆုံးပါဝင်တယ်ဗျ၊ ကျွန်တော်တို့ဆီမှာ ခေတ်စားနေတဲ့ ဗေဒင်ပညာလို့ခေါ်တဲ့ **ဝေဒင်္ဂ** ဆိုတာက အဲဒီဝေဒကျမ်းဂန်တွေရဲ့ နောက်ဆက်တွဲအစိတ်အပိုင်း **သုတ္တကျမ်း** တွေထဲက **ဇောတိသဝေဒင်္ဂကျမ်း** ကိုသာ အဓိကအခြေပြုထားတာဗျ။ နောက်အလျဉ်းသင့်မှ ဒီဝေဒကျမ်းဂန်တွေနဲ့ပတ်သက်ပြီး ဆက်ဆွေးနွေးကြသေးတာပေါ့ဗျာ၊ အခုကျွန်တော်တို့ ဆွေးနွေးနေတဲ့ သူရဿတီနဲ့ပတ်သက်နေတာကတော့ ရိဂ်ဝေဒပဲဗျ"

"ဆိုစမ်းပါဦး၊ ရိဂ်ဝေဒထဲမှာ သူရဿတီနဲ့ပတ်သက်ပြီး ဘယ်လို များဖော်ပြထားလို့တုံး"

"တကယ်တော့ ရိဂ်ဝေဒကျမ်းဟာ အလွန်ရှေးကျတယ်ဗျ၊ သက်မဲ့တော၊ တောင်၊ ရေ၊ မြေ၊ လေ၊ မီး၊ မိုးကောင်းကင်၊ လျှပ်စီး၊ နေ၊ နက္ခတ်၊ တာရာစတဲ့ သက်မဲ့အဝိညာဏကတွေကိုရော လူတွေရဲ့စိတ်သန္တာန်မှာ ဖြစ်ပေါ်လာတဲ့ ချစ်ခြင်း၊ မုန်းခြင်း၊ ကြောက်ခြင်း၊ ရွံ့ခြင်းစတဲ့ စိတ္တဇနာမ်တွေကိုပါ သက်ရှိနတ်ဒေဝတာတွေ၊ ဒေဝီတွေ၊ တန်ခိုးဣဒ္ဓိပါဒ်ရှင်တွေအဖြစ် မှတ်ယူကြောက်လန့် ကိုးစားခဲ့တဲ့ခေတ်လောက်က စတင်ပေါ်ပေါက်ခဲ့တာ

ပဲဗျ၊ သမိုင်းပညာရှင်တွေကတော့ ဘီစီနှစ်ထောင် ဝန်းကျင်လောက်မှာ ရိဂ်ဝေဒ စတင်ပေါ်ပေါက်နိုင်ကောင်းရဲ့လို့ မှန်းဆကြတယ်"

"သဘာဝတရားကို ကြောက်ရွံ့ထိတ်လန့်ကိုးကွယ်ရာအဖြစ် ယူဆခဲ့တဲ့ခေတ်ဆိုတော့ အတော့်ကိုရှေးကျမှာပေါ့နော်"

"ဒါပေါ့ဗျာ၊ သဘာဝတရားအားလုံးလိုလိုကို နတ်ဘုရားတွေ အဖြစ်ယူဆပြီး စိတ်ကူးတည့်ရာအမည်နာမမျိုးစုံနဲ့ ထောမနာပြုချီးမွမ်းတဲ့ လင်္ကာ၊ ဂါထာပေါင်း (၁၀၂၈)ပုဒ်အထိ ရိဂ်ဝေဒထဲမှာပါဝင်ခဲ့တယ်၊ ဒါပေမဲ့ နတ်ဘုရားချင်းအတူတူတောင် အဆင့်အတန်းတော့ခွဲထားသေးတယ်ဗျ၊ တန်ခိုးအကြီးဆုံးပါဆိုတဲ့ နတ်သမီးတွေဟာ တန်ခိုးအနိမ့်ဆုံး၊ အညံ့ဆုံး နတ်သားတွေနဲ့မှ တန်းတူသတ်မှတ်ကြတယ်"

"ဟာ . . . အဲဒီခေတ်ကတည်းက အမျိုးသမီးတွေကိုနှိမ့်ချတဲ့ အယူအဆ ထွန်းကားနေပြီကိုး"

"ဟုတ်ပါတယ်၊ အဲဒီလို နတ်သမီးတွေကိုအဆင့်နှိမ့်တဲ့ထဲမှာ **သရသွတီ** (*Saraswati*) ဆိုတဲ့ မြစ်နတ်သမီးလည်း အပါအဝင်ပေါ့ဗျာ"

"သရသွတီက ဘယ့်နှယ်နတ်သားအဖြစ်ကိုမရဘဲ နတ်သမီး အဆင့်ကိုအချခံရတာတုံး"

"ဒါကတော့ သက္ကတသဒ္ဒါအရ မြစ်တို့ချောင်းတို့ကို က္လတ္တိလိင် အဖြစ်သတ်မှတ်လို့ပဲဗျ၊ အင်္ဂလိပ်သဒ္ဒါမှာ သဘော်နဲ့ပတ်သက်ပြီး **နာမ်စား** (*Pronoun*) သုံးတဲ့အခါ **သူ** (*He*) လို့၊ **သူ့ရဲ့ဟာ** (*His*) လို့မသုံးဘဲ သူမ (*She*) ၊ **သူမရဲ့ဟာ** (*Her*) လို့သုံးသလိုပေါ့ဗျာ၊ ဒါ့ကြောင့်အိန္ဒိယပြည် အနောက်မြောက်ဘက် **ပန်ဂျပ်နယ်** (*Panjub*) မှာရှိခဲ့တဲ့ သရသွတီမြစ်ရဲ့ မြစ်စောင့်နတ်ဟာလည်း **သရသွတီ (ခေါ်) သူရဿတီနတ်သမီး** ဖြစ်ခဲ့ရတာ ပေါ့ဗျာ၊ ရိဂ်ဝေဒထဲမှာ က္လန္တုမြစ်ကို ထောမနာပြုတဲ့ လင်္ကာတစ်ပုဒ်၊ ဝိပါနဲ့ သုတုဒ္ဒိချောင်းတို့ကို ချီးကျူးထောမနာပြုတဲ့ လင်္ကာတစ်ပုဒ်ပါဝင်ပြီး သရသွတီ မြစ်ကို ချီးကျူးထောမနာပြုတဲ့ လင်္ကာသုံးပုဒ်ပါဝင်တာတွေ့ရ တယ်ဗျ"

"ကိုဝင်းပြောသလိုဆိုရင် ရှေးခေတ်အီဂျစ်တွေဟာ သူတို့လယ်ယာ စိုက်ပျိုးအသက်မွေးနိုင်အောင်၊ လမ်းပန်းဆက်သွယ် သွားလာနိုင်အောင်၊ ကောင်းကျိုးပြုနေတဲ့ နိုင်းလ်မြစ်ကြီးကို **ဖခင်နိုင်းလ်** (*Father Nile*) အဖြစ် တင်စားမှတ်ယူပြီး ပူဇော်ပသမှုပြုကြသလိုပေါ့"

"သိပ်ဟုတ်တာပေါ့ဗျာ၊ အဲဒီတုန်းကဆို ဖခင်နိုင်းလ်ကို ယဇ်ပူဇော် ပသတဲ့အနေနဲ့ မိန်းမပျိုလေးတွေကို နိုင်းလ်မြစ်ထဲအရှင်လတ်လတ် ရေနှစ်

သတ်ခဲ့ကြသေးတာပဲ၊ သက်မဲ့တွေကိုသက်ရှိတွေအဖြစ် မှတ်ယူကိုးစားတဲ့ အလေ့ကတော့ အဲဒီခေတ်က တစ်ကမ္ဘာလုံးအနှံ့ ထွန်းကားခဲ့တာပါပဲ၊ အိန္ဒိယမှာဆိုရင် အခုခေတ်တိုင်အောင် သူတို့ရဲ့ကျေးဇူးရှင် ဂင်္ဂါမြစ်ကြီးကို **မိခင်ဂင်္ဂါ** (*Mother Ganges*) အဖြစ် အလေးအမြတ်ထားနေကြတုံးပဲ။ ဒီလိုပါပဲ၊ ရှေးဟောင်းအာရိယန်တွေကလည်း သူတို့အခြေချရာ ပန်ဂျပ်နယ်တစ်ဝိုက်က ဂျမ္ဗုနားမြစ်နဲ့ ဆတ္တလက်မြစ်တို့အကြားမှာရှိခဲ့ပြီး မြေဆီသြဇာကောင်းမွန်တဲ့ မြစ်ဝှမ်းနဲ့ ရေကိုပေးစွမ်းနိုင်တဲ့သရဿတီမြစ်ကို အလေးအမြတ်ပြုကြတာပေါ့ဗျာ။ ဒါကြောင့် မြစ်နတ်သမီးတွေထဲမှာ အရေးအပါဆုံး၊ အမြင့်မြတ်ဆုံး အဖြစ်သဘောထားပြီး ရိဂ်ဝေဒထဲက ဓမ္မလင်္ကာတစ်ပုဒ်မှာ သရဿတီကို ***မိခင်များ၊ မြစ်များ၊ နတ်သမီးများအနက် အမြင့်မြတ်ဆုံးဖြစ်သည်။ မပြတ်ယိုစီးနေသော သူမ၏သားမြတ်သည် အမျိုးမျိုးသော စီးပွားချမ်းသာတို့ကို ပေးကမ်း၏။ စည်းစိမ်ဥစ္စာ အစာအာဟာရ၊ သားသမီးတို့ကိုလည်း ပေးကမ်း၏*** လို့ ချီးမွမ်းဖွဲ့ဆို ထားတာကိုလည်းတွေ့ရသဗျ"

"စီးဆင်းနေတဲ့ သရဿတီမြစ်ရေအလျဉ်ကို သရဿတီနတ်သမီးရဲ့ သားမြတ်ကယိုစီးလာတဲ့နို့ရည်အဖြစ် တင်စားထားတာပေါ့နော်"

"မှန်ပါတယ်၊ ရှေးခေတ်အာရိယန်တွေဟာ သရဿတီမြစ်ကို ဘယ်လောက်အားကိုးကြတယ်ဆိုတာ ထင်ရှားတာပေါ့ကိုလင်းရာ၊ သူတို့က **သရ** ဆိုတာ '**အားကိုးမြတ်နိုးသတိရထိုက်သူ**'၊ **သွတီ** ဆိုတာ '**သစ္စာရှိသူ**' လို့တောင် အဓိပ္ပာယ်ဖွင့်ဆိုကြပြီး သရဿတီဆိုတာ အားကိုးထိုက်တဲ့ **သစ္စာရှင်နတ်သမီး** အဖြစ် ယုံကြည်ကြတယ်၊ ယုံကြည်တဲ့အလျောက် အဲဒီခေတ်အခါတုန်းက မြစ်ကမ်းပါးမှာ သရဿတီနတ်သမီး ပူဇော်ပွဲတွေကျင်းပခဲ့ကြတယ်"

"အဲဒီအလေ့အထရဲ့ အဆက်အနွယ်ထင်ပါ့ဗျာ၊ နီပေါမှာဆို တစ်နှစ်မှာတစ်ရက်ကို သူရဿတီမယ်တော် ပူဇော်ပွဲနေ့အဖြစ်သတ်မှတ်ပြီး သူရဿတီပူဇန္တိယပွဲ ခြိမ့်ခြိမ့်သဲ ကျင်းပကြတယ်ဆိုပဲ၊ ဒါ့ထက် သူရဿတီနဲ့ သရဿတီဆိုတဲ့ အခေါ်အဝေါ်နှစ်ခုဟာ အတူတူပဲလားဗျာ"

"အတူတူပါပဲ ကိုလင်း၊ မဟာဇေယျသင်္ခယာဘွဲ့ခံ သံတော်ဆင့် အမတ်မင်းစီရင်တဲ့ ဝေါဟာရလီနတ္ထဒီပနီမှာ- 'မြန်မာဘာသာ သူရဿတီ နတ်သမီးခေါ်ကြသည်မှာ အမရကောသအဘိဓာန်ကျမ်းတွင် **ဗြဟ္မီ** = ဗြဟ္မာ၌ဖြစ်သော သူရဿတီနတ်၊ **ဘာရတီ** = စကားကိုဝေဖန်တတ်သော သူရဿတီနတ်၊ **သရဿတီ** = ရေအိုင်နေရာ၌ရှိသော သူရဿတီနတ်ဟူ၍

ပရိယာယ် သုံးပုဒ်ပြသည်။ **သရဿွတီကို မြန်မာဘာသာအားဖြင့် သူရဿတီ ခေါ်သည်။** သရဿွတီ မူလဘာသာမှတ်ရမည်။ ဤသုံးပုဒ်ကား စကားကို အစိုးရသော သူရဿတီနတ်၌လည်းဖြစ်သည်။ စကား၌လည်းဖြစ်သည်ဟု အမရကောသဋီကာ၊ ဒီပနီနှစ်စောင်တို့တွင်ဆိုသည်။ သရဿွတီသဒ္ဒါ၏ အနက်ကား ရေအိုင်နေရာရှိသော နတ်သမီးကိုဆိုလိုသည်’ လို့ဖွင့်ဆို ထားတာတွေ့ရတယ်လေ။ အဲဒီခေတ်က သရဿွတီမြစ်ဝှမ်းဒေသ တစ်ဝိုက် မှာ သိုးမွေးနဲ့အဝတ်အထည် ရက်လုပ်မှုပညာတွေ ထွန်းကားခဲ့တယ်လို့ သိရပါတယ်”

“ဒါ့ထက် ခင်ဗျားအခုနပြောတဲ့ ဝေါဟာရလီနတ္ထ ဒီပနီမှာ သူရဿတီကို **ပြဟ္မာ၌ဖြစ်သော သူရဿတီနတ်** လို့ အမရကောသ အဘိဓာန်ကဖွင့်ဆိုကြောင်း ပါတာကရောဗျာ”

“ဒါကတော့ အိန္ဒိယမှာဝေဒကျမ်းဂန်တွေ ရေးသားပြုစုသီကုံး ကြလို့ ပြီးပြည့်စုံလောက်တဲ့ဝေဒခေတ်နှောင်းပိုင်းမှာ ပေါ်ထွန်းလာတဲ့ ပြာဟ္မဏကျမ်း၊ ပူရာဏ်ကျမ်းတွေက အဆင့်မြင့်ပေးလိုက်တာပဲဗျ၊ အဲဒီ **ပြာဟ္မဏကျမ်းဂန်တွေ ထွန်းကားတဲ့ခေတ်** (*Age of Bramana*) မှာတော့ သူရဿတီဟာ သာမန်မြစ်စောင့်နတ်သမီးတစ်ပါး အဖြစ်သာမဟုတ် တော့ဘဲ လောကရဲ့ဖန်ဆင်းရှင်မဟာပြဟ္မာကြီးရဲ့ သန့်စင်တဲ့သွေးက ဖြစ်ပေါ်လာတဲ့သမီးတော်ဖြစ်ပြီး မဟာပြဟ္မာကြီးရဲ့ခွင့်ပြုချက်အရ ဝေဒ လေးပုံအပါအဝင် လောကရဲ့ဘာသာစကား စာပေအားလုံးကို ဖန်ဆင်း ပေးခဲ့သူအဖြစ်ပါ အမွှမ်းတင်ရေးသားလာကြတယ်၊ **ဝါစာ** လို့ ခေါ်တဲ့ စကား ဆိုင်ရာနတ်သမီး၊ ဝိဇ္ဇာသိပ္ပံပညာ၊ အနုသုခုမပညာအရပ်ရပ်ကို ပေးစွမ်းနိုင်တဲ့နတ်သမီး၊ ပူဇော်ကိုးစားသူအပေါင်းကို ကောင်းမြတ်ချိုသာ သောစကားကိုသာ ပြောဖြစ်အောင်၊ ပီယသိဒ္ဓိသျှိပြီးအောင် စောင်မနိုင်တဲ့ နတ်သမီးအဖြစ် စိတ်ကူးတည့်ရာ အလွန်အကြူးချီးမြှောက်ဖွဲ့ဆိုခဲ့ကြတယ်၊ ပူရာဏ်ကျမ်းဆရာတွေ ဉာဏ်သွားရင်သွားသလောက် သူရဿတီရဲ့ဂုဏ်ကို အမျိုးမျိုးစိတ်ကူးယဉ်ပြီး မြှင့်တင်ခဲ့ကြတယ်ဗျ”

“ခင်ဗျား တစ်ခါကပြောတုန်းက သူရဿတီဟာ မဟာပြဟ္မာရဲ့ ဇနီးဆိုပြီး အခုကျတော့ မဟာပြဟ္မာရဲ့သွေးနဲ့ဖန်ဆင်းလိုက်တဲ့သမီး ဖြစ်သွား ပြန်ပါရောလား”

“ဟုတ်ပါတယ်၊ ဣရုဝေဒဏ္ဍဝကျမ်းမှာ ***ဝီသနု သိဝေါ မဟာဗြဟ္မာ၊ ဧတေသံ ပါရိ စာရိကာ၊ လက္ခမီပါရနေဒဝီစ၊ သရဿတီ ကမာမကာ*** လို့လည်း

ဆိုထားတာကိုး၊ အဓိပ္ပာယ်ကတော့ ဗိဿနိုး၊ သီဝ၊ မဟာဗြဟ္မာဟူသည့် နတ်မင်းသုံးပါးတို့၏ အလုပ်အကျွေးမိဖုရားတို့ကား လက်ချမီး၊ ပါရဒေဝီ၊ သူရဿတီဟု အစဉ်အတိုင်းသိအပ်၏တဲ့ဗျား"

"ဟား . . . ကျုပ်တော့ မျက်စိတွေလည်း လည်ကုန်ပါပြီဗျာ"

"လည်ရမယ်ကိုလင်းရေ လည်ရမယ်၊ ပူရာဏ်ကျမ်းတစ်ခုမှာဆိုရင် ဗြဟ္မာ၊ ဗိဿနိုးနဲ့ သီဝတို့ သုံးဦးပေါင်းပြီး လောကကြီးတစ်ခုလုံး ထွန်းပြောင်စေတဲ့ နတ်သမီးတစ်ပါးအဖြစ် သူရဿတီကိုဖန်ဆင်းခဲ့တယ်၊ အဲဒီနတ်သမီးဟာ ဗိဿနိုးနဲ့ဆက်ဆံတော့ လက်ချမီး၊ သီဝနဲ့ဆက်ဆံတော့ ပါရပတီဒေဝီ (ကာလီမယ်တော်) လာဖြစ်တယ်၊ မဟာဗြဟ္မာနဲ့ဆက်ဆံတဲ့အခါကျတော့ သူရဿတီပဲပေါ့ဗျာ၊ တချို့ပူရာဏ်ကျမ်းတွေမှာ ဒီထက်ဆိုးသေးတယ်၊ မဟာဗြဟ္မာက သူ့သမီးတော်ကို ပြစ်မှားဖို့ကြံစည်တာ သီဝကမိသွားလို့စိတ်ဆိုးပြီး ဗြဟ္မာကြီးရဲ့ဦးခေါင်းငါးလုံးအနက် တစ်လုံးကို ဖြတ်ယူပြီး သူ့ရဲ့တတိယမျက်လုံးကိုဖွင့်ခဲ့ဆိုပဲ"

"ဒါကြောင့် အခုဗြာဟ္မဏဘာသာဝင်တွေကိုးကွယ်တဲ့ မဟာဗြဟ္မာရုပ်ထုတွေမှာ ခေါင်းလေးလုံးပဲရှိတော့တာထင်ပါရဲ့၊ လားမားဗုဒ္ဓဘာသာဝင်တွေပြောနေတဲ့ တတိယမျက်လုံး (*Third Eye*) အယူအဆဟာလည်း ဒီပုံပြင်က ဆင်းသက်လာတာပဲ ဖြစ်ရမယ်။ အင်း . . . ခင်ဗျားပြောမှပဲ အဲဒီကျမ်းဂန်တွေရဲ့ အဆိုအမိန့်တွေဟာ အားထားထိုက်-မထိုက်ပေါ်လွင်လာတော့တယ်၊ ဒါပေမဲ့ ယုံကြည်သူတွေကတော့ သူရဿတီမယ်တော်ဟာဝေဒလေးကျမ်းအပြင် ကမ္ဘာ့ဘာသာစာပေအားလုံးရဲ့ဖန်ဆင်းရှင် ဝိဇ္ဇာသိပ္ပံအတတ်ပညာ၊ အသိပညာအားလုံးကို ပေးစွမ်းနိုင်သူအဖြစ်အလေးထား ပူဇော်နေကြတုန်းပဲဗျ"

"ယုံကြည်ကိုးကွယ်မှုဆိုတာ သူတစ်ပါးကို မထိခိုက်သရွေ့ လွတ်လပ်စွာ ယုံကြည်ကိုးကွယ်ခွင့် ရှိပါတယ်ဗျာ၊ ကျွန်တော်တို့ ရေးနေပြောနေတာတွေကလည်း တခြားဘာသာဝင်တွေရဲ့ လွတ်လပ်စွာယုံကြည်ကိုးကွယ်မှုကို ထိပါးပုတ်ခတ်ရှုတ်ချလိုတဲ့ဆန္ဒ လုံးဝမရှိပါဘူး၊ ဗြာဟ္မဏဘာသာဝင်တွေအဖို့ ဝေဒဆိုတာသူတို့ရဲ့လက်စွဲ ကိုးကွယ်ရာကျမ်း (*Bible*) ပဲ၊ ဒါကြောင့် ဝေဒ၊ ဗြာဟ္မဏ၊ ပူရာဏ်၊ ဥပနိသျှဒ်စတဲ့ ကျမ်းဂန်တွေကလာတဲ့ အယူအဆတွေကို ဗြာဟ္မဏဝါဒီလို့ခံယူထားသူတွေအဖို့ ယုံကြည်ရမှာပဲဗျ၊ ဒါပေမယ့် ဗြာဟ္မဏဝါဒနဲ့ဘာမှမဆိုင်တဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ အနေနဲ့ကတော့ အဲဒီကျမ်းဂန်လာအယူအဆတွေကို လုံးဝ ယုံကြည်

စရာ အမှိုသဟဲပြုနေစရာမလိုဘူး။ ကျွန်တော်တို့ကလည်း ကြမ်းပိုး မြင်လျက်နဲ့လိပ်ကြီးပါလို့ ဇွတ်မှိတ်ပြီးမယုံနိုင်ဘူး၊ လိပ်မဟုတ်မှန်းသိသူတွေကလည်း ဒါကြမ်းပိုးပါလို့ မသိသူတွေကိုသိအောင်ပြောဖို့ တာဝန်ရှိတယ်လို့ ကျွန်တော်ထင်တယ်လေ၊ ဒါ့ကြောင့်လည်း သူရဿတီမယ်တော်တို့၊ ကွယ်ရင်မယ်တော်တို့ဆိုတာ ထေရဝါဒဗုဒ္ဓဘာသာနဲ့ ဘာမှမသက်ဆိုင်ပါဘူး၊ ယုံကြည်ကိုးကွယ်နေစရာမလိုပါဘူးလို့ ပြောဆိုရေးသားနေရတာပေါ့ ကိုလင်းရာ"

"ဒါဖြင့်ရင် ဒီသူရဿတီကိုးကွယ်မှုဟာ ဘယ်နည်းဘယ်ပုံ ဗြာဟ္မဏဝါဒကနေ ထေရဝါဒဗုဒ္ဓဘာသာဝင်လောကထဲ ထိုးဖေါက်ဝင်ရောက်လာရတာတုံးဗျာ"

"အကျဉ်းချုံးပြောရရင် မြန်မာအပါအဝင် အရှေ့အာရှနိုင်ငံတွေနဲ့ အင်ဒိုချိုင်းနားကျွန်းဆွယ်ဒေသတစ်ဝိုက်ကို ဗုဒ္ဓသာသနာရောက်မလာခင်ကတည်းက ဗြာဟ္မဏဝါဒကရောက်ရှိနေနှင့်တယ်ဗျ။ သီရိလင်္ကာ၊ မြန်မာ၊ ထိုင်း၊ ကမ္ဘောဒီးယား၊ လာအို၊ မာလာယု၊ ဆူမားတြား၊ ဂျာဗား၊ စင်ကာပူ စသဖြင့်ပေါ့ဗျာ၊ တစ်ဒေသနဲ့တစ်ဒေသ ကူးလူးဆက်ဆံကြရာက အိန္ဒိယနွယ်ဖွား ဗြာဟ္မဏဘာသာဝင်တွေဆီကနေ ဝေဒကျမ်းဂန်လာနတ် ဒေဝတာတွေကို ကိုးကွယ်ပူဇော်ပသတဲ့ အလေ့အထတွေ ပါလာတာပေါ့ဗျာ"

"ဟုတ်ပြီ၊ ဟုတ်ပြီ၊ ပုဂံပြည့်ရှင် အနော်ရထာမတိုင်မီ ပုဂံသားတွေကိုးကွယ်ခဲ့ပြီး အခုအခါမှာ **အတွင်း (၃၇)မင်း** လို့ယူဆကြတဲ့ နတ်တွေဟာ အဲဒီဗြာဟ္မဏနတ်တွေပေါ့နော်"

"သေချာတာပေါ့ဗျာ၊ အဲဒီ (၃၇) မင်းနတ်ထဲမှာအခုထိတိုင် ဗုဒ္ဓဘာသာဝင်လောကမှာ ချွတ်မရအောင်အရိုးစွဲကျန်ရစ်တဲ့ သူရဿတီလည်းပါခဲ့တာပေါ့။ သူရဿသီကို နတ်ဝတ်တန်ဆာဆင်မြန်းပြီး လက်နှစ်ဖက်မှာကြာပန်းကိုင်လို့ ဟင်္သာငှက်ယာဉ်ပေါ်ထိုင်နေဟန် ထုတ်လုပ်ကိုးကွယ်ခဲ့ကြတယ်။ အံ့ဩဖို့ကောင်းတာက အဲဒီအတွင်း (၃၇)မင်းထဲမှာ လက်ဝဲ၊ လက်ယာ လက်ဆယ်ချောင်းစီပါပြီး လက်နက်အမျိုး (၂၀) ကိုင်ဆောင်ထားတဲ့ **မာရ်နတ်** မင်းကြီးပါ ပါဝင်ခဲ့တာပဲဗျ"

"ဟိုက် . . . မာရ်နတ်ကိုပါကိုးကွယ်ကြမှတော့ ဘယ်မှာလာ ဗုဒ္ဓဘာသာဝင် ဖြစ်ပါတော့မလဲနော်"

" အင်း . . . ချင့်သာတွေးပေတော့ ကိုလင်းရေ၊ အဲဒီမာရ်နတ်က ဗုဒ္ဓဝင်ထဲက မာရ်နတ်ဟုတ်-မဟုတ်ဆိုတာလည်း နောက်တော့ဆက်ပြီး သုတေသန လုပ်ကြည့်ကြသေးတာပေါ့"

"လက်စသတ်တော့ သူရဿတီကလည်း မာရ်နတ်နဲ့တစ်ဖွဲ့တည်း ပဲကိုး၊ ဒါထက် တချို့ပြဟ္မဏဘာသာဝင်တွေအိမ်မှာ ချိတ်ဆွဲထားတဲ့ သူရဿတီနတ်သမီး ပုံတွေမှာတော့ ဟသ်ာမစီးဘဲဒေါင်းငှက်စီးတဲ့ပုံ ရေးဆွဲထားတာတွေ့ရသဗျ၊ လက်တစ်ဖက်ကစောင်းကိုကိုင်ပြီး တစ်ဖက်ကစာအုပ် ကိုင်ထားတယ်၊ သူတို့အဆိုကတော့ စောင်းကအနုသုခုမပညာ၊ ကဗျာ၊ လင်္ကာ၊ ဂီတကိုရည်ညွှန်းပြီး စာအုပ်ကတော့ ဝိဇ္ဇာသိပ္ပံအတတ်ပညာကို ရည်ညွှန်းတယ်ဆိုပဲ။ ဟိန္ဒူမိတ်ဆွေတစ်ယောက်ကတော့ သူရဿတီ မယ်တော်ကိုပူဇော်တဲ့ ဂါထာလေးတစ်ပုဒ်ပေးဖူးတယ်"

"ဆိုစမ်းပါဦး"

"ဂါထာလေးကတိုပါတယ်၊ *သူရဿတီ မယာဗိဋ္ဌာ၊ ဝီနာ ဝေပါတ္တကာ ဝါရိဏီ၊ ဟသာဝါဟန၊ သံယုတ္တာ၊ ဝိဇ္ဇာဒါန ကရောတုမေ* တဲ့ဗျ၊ အဓိပ္ပာယ်ကတော့ *စောင်းနှင့်ပေစာကို ကိုင်ဆောင်လေ့ရှိသော ဟသ်ာရှင်သူရဿတီ နတ်သမီး၊ အကျွန်ုပ်အား အတတ်ပညာပေးပါလော့* လို့ဆိုလိုတယ်တဲ့ဗျ"

"ပြာဟ္မဏဝါဒီတွေက သူတို့ကိုးစားရာ ဝေဒကျမ်း၊ ပြာဟ္မဏကျမ်း တွေမှာလာတဲ့အတိုင်း သူရဿတီကိုအိန္ဒိယဟန်နဲ့အညီ ရေးဆွဲထုလုပ် ကိုးကွယ်ကြ၊ မန္တန်တွေစီရင်ပြီး ချီးမွမ်းထောမနာပြုကြတာကို ထေရဝါဒ ဗုဒ္ဓဘာသာဝင်တွေက ဘုမသိဘမသိနဲ့အတုယူပြီး စာပေကိုအစိုးရသော နတ်သမီး၊ ပိဋကတ်သုံးပုံကို စောင့်သောနတ်သမီးဆိုပြီး ပြောင်းလိုက်ကြ တာပဲ ကိုလင်းရဲ့၊ ဥပမာတစ်ခုပြရရင် ဟံသာဝတီရောက်မင်းလက်ထက် စာဆိုတော်ပညာရှိအမတ် မင်းရာဇာစပ်ဆိုတဲ့ဟိတကာရီလင်္ကာမှာ *ဟသ်ာဖြူစင်၊ ယာဉ်သက်နွှင်၍၊ ဆင်းသွင်ဖြူစွာ၊ ကိုယ်ရောင်မွတ်လျှက်၊ ကြီးမြတ်ဉာဏ၊ ဘုန်းတေဇဖြင့်၊ လက်လှဘယ်ညာ၊ နှစ်ဖက်မှာကား၊ ပဒုမာဖြူ စိန်ရောင်တူကို၊ စွဲယူအံ့ဖွယ်၊ လွန်တင့်တယ်သည့်၊ မိမယ် သူရဿတီ* စသဖြင့်ပေါ့ဗျာ၊ သူရဿတီဝန္ဒနာဆုတောင်းလင်္ကာ စပ်ဆိုခဲ့ ပြန်တယ်လေ"

"ဒါပေမယ့် မျက်မှောက်ခေတ်တိုးတက်တဲ့ ပြာဟ္မဏဝါဒီတွေ ကတော့သူရဿတီကို သက်ရှိနတ်ဒေဝီတစ်ဦးထက် ဝိဇ္ဇာသိပ္ပံအတတ် ပညာကိုကိုယ်စားပြုတဲ့ နိမိတ်သင်္ကေတ (*Symbol*) တစ်ခုအဖြစ်သာ အသိ အမှတ်ပြုလာကြပြီဗျ။ ဟိန္ဒူအဘိဓာန်တွေမှာ သူရဿတီကိုမြစ်တစ်စင်း- နတ်တစ်ပါးအဖြစ်သာမကဘဲ ဝိဇ္ဇာ၊ ပညာ၊ ဉာဏ်အဖြစ်ပါဖွင့်ဆိုကြတာမို့ သူရဿတီကို အလေးအမြတ်ထားခြင်းဟာ ဝိဇ္ဇာ၊ ပညာ၊ ဉာဏ်ကိုအလေးထား မြတ်နိုးရာ ရောက်တယ်လို့ ယူဆကြတယ်၊ ဒါကြောင့်လည်း အိန္ဒိယမှာရှိတဲ့

ဟိန္ဒူစာသင်ခန်းတွေမှာ သူရဿတီပုံကို ချိတ်ဆွဲလေ့ရှိကြတာဗျ”

“ကိုလင်းက ဒါကိုကောင်းမြတ်တဲ့ အလေ့အထအဖြစ်အတုယူပြီး ထေရဝါဒဗုဒ္ဓဘာသာဝင်တွေကလည်း ပိဋကတ်သုံးပုံနဲ့တကွ ပညာဉာဏ်ကို ကိုယ်စားပြုတဲ့ သင်္ကေတတစ်ခုအနေနဲ့ သူရဿတီကိုလက်ခံသင့်တယ်လို့ ဆိုချင်တာလား”

“အင်းပေါ့ဗျာ၊ အကျိုးမယုတ်တန်ကောင်းဘူးလို့ ထင်တာပဲ”

“ဒါနဲ့ပတ်သက်ပြီး အချက်နှစ်ချက်ကို ထည့်စဉ်းစားသင့်တယ်ဗျ၊ ပထမအချက်က ပိဋကတ်သုံးပုံနဲ့တကွပညာဉာဏ်တို့ရဲ့ ကိုယ်စားပြု သင်္ကေတတစ်ခုအဖြစ် လက်ခံပူဇော်စရာ ကျွန်တော်တို့ထေရဝါဒဗုဒ္ဓ ဘာသာဝင်တွေမှာ တခြားမရှိတော့ဘူးလားဆိုတာပဲ၊ ကိုလင်းစဉ်းစား ကြည့်ဗျာ၊ ဒီပိဋကတ်သုံးပုံကိုဟောကြားခဲ့သူ မူလအရင်းအမြစ်ပုဂ္ဂိုလ်ဟာ ဘယ်သူလဲဆိုတာ”

“ဗုဒ္ဓမြတ်စွာဘုရားသခင်ပေါ့ဗျ”

“ဟုတ်ပြီ-ဉာဏ်ပညာအရာမှာ စဉ်းစားမယ်ဆိုရင်ကော ဗုဒ္ဓ ဘာသာဝင်တစ်ယောက်အနေနဲ့ လောကမှာဉာဏ်ပညာအကြီးဆုံး အတုမဲ့ ပုဂ္ဂိုလ်အဖြစ် ဘယ်သူ့ကိုသတ်မှတ်မလဲ”

“ဗုဒ္ဓမြတ်စွာဘုရားသခင်ပဲပေါ့ဗျာ”

“ကိုင်း . . . ဒါဆိုရင်ရှင်းပါပြီဗျာ၊ ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓ ဘာသာဝင်တွေက ပညာဉာဏ်ကို မြတ်နိုးတန်ဖိုးထားတဲ့အနေနဲ့ သင်္ကေတပြု ပူဇော်ချင်တယ်၊ ပညာဉာဏ်ရဲ့ဂုဏ်ကျေးဇူး ဘယ်လောက်ကြီးမားတယ် ဆိုတာ အစဉ်သတိရပြီး ပညာကိုအပတ်တကုတ် ကြိုးပမ်းရှာဖွေလိုစိတ် အစဉ်နိုးကြားအောင် စေ့ဆော်ပေးနိုင်စွမ်းသူအဖြစ် အမြတ်တနိုးအာရုံပြု ချင်တယ်ဆိုရင် တခြားဘာသာကလာတဲ့ နတ်သား-နတ်သမီးပုံတွေ ထုလုပ် ရေးဆွဲပူဇော်နေစရာ မလိုပါဘူးဗျာ။ ကိုယ့်ဘာသာ ကိုယ့်သာသနာရဲ့ အရှင် သခင်လည်းဖြစ်၊ ပိဋကတ်သုံးပုံအပါအဝင် လောကမှာသိသင့်သိထိုက်တာ မှန်သမျှ အကြွင်းမဲ့သိရှိနားလည်ပြီး၊ ဘုန်းတော်အနန္တ ဉာဏ်တော်အနန္တနဲ့ ပြည့်စုံသူလည်းဖြစ်ပြီး ယုတ္တိကင်းတဲ့ဒဏ္ဍာရီပုံပြင်ထဲက ဇာတ်ကောင်မဟုတ်ဘဲ ယခုထက်တိုင် ခေတ်အဆက်ဆက်ပေါ်ပေါက်ခဲ့တဲ့ ဗီလိုဆော်ဖာတိုင်းက အလေးအမြတ်ထားခဲ့ရတဲ့၊ သက်ရှိထက်ရှားရှိခဲ့တဲ့ ဗုဒ္ဓမြတ်စွာရဲ့ရုပ်ပွားတော် ပုံတော်တွေကိုပူဇော်ရုံနဲ့တင် ပြီးပြည့်စုံနေပြီပဲမဟုတ်လားဗျာ”

“ဟာ . . . ဟုတ်တယ်ဗျို့၊ ဗုဒ္ဓမြတ်စွာရဲ့ ဂုဏ်တော်ကိုးပါးထဲက

**ဝိဇ္ဇာစရဏသမ္ပန္န** ဆိုတဲ့ ဂုဏ်တော်တစ်ခုတည်းကို အောက်မေ့ရုံနဲ့တင် **ဝိဇ္ဇာ** ဆိုတဲ့အသိပညာ၊ အတတ်ပညာအပေါင်းသာမက၊ **စရဏ** ဆိုတဲ့ လူတွေစောင့်ထိန်းအပ်တဲ့ လူ့ကိုယ်ကျင့်တရားကိုပါ တန်ဖိုးထားမြတ်နိုးရာရောက်နေပြီပဲ ကိုဝင်းရ"

"ဒါကြောင့် ကိုယ့်ဘုရားမှာရှိတဲ့ ဂုဏ်တော်အနန္တကိုတော့ အလေးမပြုမိဘဲ တခြားဘာသာအယူဝါဒတွေရဲ့ နိမိတ်ပုံတွေ၊ သင်္ကေတတွေနောက်ကို လိုက်စားနေသူတွေကတော့ တံလျှပ်ကိုရေထင် ရွှေသမင်အလိုက်မှားဆိုသလို ဖြစ်နေကြရှာတာပေါ့ဗျာ"

"အေးဗျ၊ မလိုအပ်တဲ့ကိစ္စတွေမှာ ငွေကုန်၊ လူပန်းခံနေလိုက်ကြတာ၊ တချို့များဆိုစာမေးပွဲအောင်ဖို့ သူရဿတီမယ်တော်ကို အုန်း၊ ငှက်ပျောပွဲထိုးရတာနဲ့၊ ပဝါဆက်ရတာနဲ့၊ ပန်းအမွှေးနံ့သာပူဇော်ရတာနဲ့၊ တစ်ရွာတစ်ပုဒ်ဆန်းနေတဲ့ သူရဿတီဂါထာအမျိုးမျိုးကို ရွတ်ရဖတ်ရ၊ ပုတီးစိပ်ရနဲ့သနားစရာပါဗျာ။ အထူးသဖြင့် ကျောင်းသူကျောင်းသားလေးတွေများတာပေါ့၊ တချို့မိဘတွေကလည်း ဒါကိုအမှန်တရားထင်ပြီး အားပေးကြသေးတယ် ကိုဝင်းရေ့၊ ကိုင်း . . . ဒုတိယအချက်ကလေး ဆက်ပါဦး"

"ဒုတိယအချက်ကတော့ အယူဝါဒရေးရာ ပြတ်သားဖို့လိုတယ်ဆိုတဲ့အချက်ပဲဗျ။ လူဆိုတာ ကာလဒေသတစ်ခုမှာ မူတစ်ခုကိုပဲစွဲကိုင်သင့်တယ်ဗျ၊ လူတစ်ယောက်ဟာ ကာလဒေသတစ်ခုတည်းမှာပဲ မူနှစ်ခွဖြစ်နေရင်တော့ အဲဒီလူဟာ သာမန်မဟုတ်တော့ဘူး၊ ရှူးကြောင်ကြောင် မူမမှန်စိတ်နှစ်ခွရှိသူလို့ ဆိုရလိမ့်မယ်။ ဒီနေရာမှာ ခင်ဗျားကိုမေးခွန်းတစ်ခု ထုတ်ရလိမ့်ဦးမယ်"

"ထုတ်ပါဗျာ၊ ထုတ်ပါ"

"အခုကျွန်တော်တို့ ဆွေးနွေးခဲ့ကြရသလောက် ထင်ရှားလာတဲ့အတိုင်းဆိုရင် သူရဿတီနတ်သမီးကို ကိုးကွယ်ထိုက်ကြောင်း ချီးမွမ်းထောမနာပြုခဲ့တဲ့ဝါဒဟာ ဘာဝါဒလဲဗျာ"

"ပြာဟ္မဏဝါဒပေါ့ဗျာ၊ ဝေဒလေးကျမ်းကို လက်ခံထားတဲ့ဝါဒပဲပေါ့"

"ဟုတ်တယ်၊ ဗုဒ္ဓမြတ်စွာပွင့်တော်မူမလာမီကတည်းက အိန္ဒိယမှာ ဝေဒကျမ်းတွေကိုလက်ခံကျင့်သုံးတဲ့ **ဝေဒိက** ဂိုဏ်းသားများလို့ခေါ်ဆိုနိုင်တဲ့ **ပြာဟ္မဏ** တွေနဲ့ ဝေဒကျမ်းဂန်လာ အယူအဆအားလုံးကိုပစ်ပယ်တဲ့ **အဝေဒိက** ဂိုဏ်းသားများလို့ခေါ်ဆိုနိုင်တဲ့ **သမဏ** တွေ ဆိုပြီး သိသိသာသာကွဲကွဲပြားပြား ရှိခဲ့ဖူးတယ်ဗျ"

"ဂေါတမဗုဒ္ဓ ပွင့်လာတော့ကောဗျာ"

"ဂေါတမဗုဒ္ဓကိုတော့ အဝေဒိကဂိုဏ်းဝင်လို့ သတ်မှတ်နိုင်တယ်ဗျ၊ ဘာလို့လဲဆိုတော့ ဗုဒ္ဓမြတ်စွာဟာ ဝေဒကျမ်းဂန်လာအယူအဆတွေကို ဆန့်ကျင်ခဲ့တဲ့ ခေတ်ပြိုင်ဘာသာရေးခေါင်းဆောင်တွေထဲမှာ သူမတူအောင် ပြောင်ပြောင်မြောက်မြောက် ဆန့်ကျင်နိုင်ခဲ့သူတစ်ဦးပဲဗျ။ ဗုဒ္ဓမြတ်စွာရဲ့ အနတ္တဒေသနာဟာ ဝေဒိကဂိုဏ်းဝင် ဗြာဟ္မဏတွေရဲ့ အတ္တဝါဒကိုလွှမ်းကျော်နိုင်ခဲ့တယ်၊ ဒါကြောင့် ဗုဒ္ဓရဲ့အနတ္တဝါဒကို လက်ခံယုံကြည်ပါတယ်ဆိုတဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေဟာ ဆန့်ကျင်ဘက်အတ္တဝါဒကို အခိုင်အမာတည်ဆောက်ထားတဲ့ ဝေဒကျမ်းဂန်လာဘာသာရေး အယူအဆတွေကို လုံးဝလက်မခံသင့်ဘူးဗျ။ လူတစ်ဦးဟာ ကာလဒေသတစ်ခုမှာ မူတစ်ခုကိုသာ စွဲကိုင်အားထားသင့်တယ် မဟုတ်လား"

"ဟုတ်လိုက်လေ ကိုဝင်းရာ၊ ဒီနှစ်ချက်တည်းနဲ့တင် ထေရဝါဒဗုဒ္ဓဘာသာဝင်တွေအနေနဲ့ သူရသတီကို ကိုးကွယ်အားထားနေစရာ၊ မြတ်နိုးပူဇော်စံပြုနေစရာ လုံးဝမလိုဘူးဆိုတာ ထင်ရှားနေပါပြီဗျာ"

"ကိုင်း . . . ဒီတစ်ပတ်တော့ ကျွန်တော်တို့ စကားဝိုင်းကို ဒီမျှနဲ့ နားလိုက်ကြဦးစို့ဗျာ၊ နောက်တစ်ပတ်ကျမှ ခင်ဗျားအခုနက ပြောခဲ့သလို မြန်မာဗုဒ္ဓဘာသာဝင်တွေအကြား ပေါ်ပြူလာဖြစ်လာတဲ့ ပြည်ကြီးသူကွမ်ယင်အကြောင်း ဆက်ဆွေးနွေးကြသေးတာပေါ့ဗျာ"

(၂၇-၇-၉၂)

မဇ္ဈိမရံသီ ၊ ၁၉၉၂ ခုနှစ်၊ ဇူလိုင်လနှင့် ဩဂုတ်လ။

# ကွမ်ယင်ဆိုသည်မှာ

"ကိုဝင်းရေ၊ ခင်ဗျားတို့ရပ်ကွက်က ဆိုင်းသံဗုံသံတညံညံနဲ့ တယ်လည်းမြိုင်ဆိုင်နေပါလားဗျို့"

"ဆိုင်းသံဗုံသံညံဆို မိရိုးဖလာ နတ်ကန္နားပွဲလေဗျာ"

"ဒါနဲ့ ခင်ဗျားနည်းနည်း နားစွင့်ကြည့်စမ်းပါဦး၊ အခုတင်ပြောင်း လိုက်တဲ့တီးလုံးက နတ်ဒိုးသံလည်းမဟုတ်တော့ပါလား၊ မောင်းသံလိုလို ကြေးလင်ပန်းသံလိုလိုနဲ့ တီးကွက်ကအဆန်းသားဗျ"

"ဟားဟား . . ကိုလင်းကသာဆန်းနေတာ၊ ကန္နားပွဲတွေထဲဒီ တီးလုံးမျိုးဝင်လာတာ သုံး,လေးနှစ်တောင်ရှိရော့မယ်"

"ဟုတ်လား၊ အမယ်အသေအချာ နားထောင်ကြည့်တော့ ထောင်ကဲတို့အကြိုက်ပဲဗျ"

"သြော်. . . ခင်ဗျားနှယ်၊ကျားကိုက်ပါတယ်ဆိုမှ နာတာရှည်လား ဆိုသလိုဖြစ်နေပြီ၊ အဲဒါ ကွမ်ယင်မယ်တော်ကိုပင့်နေတာဗျ"

"ဟိုက် . . ပြည်ကြီးသူကွမ်ယင်ခမျာ ကျုပ်တို့ဆီရောက်မှပဲ ကန္နားပွဲထဲ ဝင်နွှဲနေရပါရော့လား၊ ကန္နားစီးတို့ကတော့ လုပ်ချလိုက်ပြန်ပြီ"

"ထေရဝါဒဗုဒ္ဓဘာသာ ဘုရားကျောင်းကန်တချို့ပေါ်မှာတောင် တဆောင်တယောင် တခမ်းတနားရောက်နေမှတော့ နတ်ကန္နားပွဲထဲ ဝင်နွှဲတာ ဘာဆန်းတော့မှာလဲ ကိုလင်းရာ"

"အင်း . . . ကိုယ့်လူတွေကတော့ အကျိုးရှိတယ်လို့ နှစ်ခွန်း မပြောလိုက်နဲ့၊ ဘာရယ်ညာရယ်မစဉ်းစားတော့ဘူး။ ကိုးကွယ်ရာစာရင်းထဲ ပစ်သွင်းလိုက်တော့တာပါပဲ။ ခင်ဗျားတစ်ခါကပြောလို့ ကွမ်ယင်ဆိုတာ မဟာယာန ဗုဒ္ဓဘာသာအနွယ် တန္တရ၊ မန္တရဂိုဏ်းဝင်တွေရဲ့ ကိုးကွယ်ရာ ဗောဓိသတ္တ အဝလောကိတေသွရကို မိန်းမအသွင်ဆောင်ထားတယ် ဆိုတာ သဘောလောက်တော့သိပါရဲ့၊ ဒါထက် အဲဒီအဝလောကိတေသွရ ကိုးကွယ်မှုအယူအဆ ဖြစ်ပေါ်လာပုံလေးလည်း နည်းနည်းထပ်ရှင်းပြ စေချင်တယ်ဗျာ"

— — — — — — — — — — — — — — — — — — — — —

"အဝလောကိတေသွရအကြောင်းပြောရင် မဟာယာန ဗုဒ္ဓဘာသာအကြောင်းကိုပါ မပြောမဖြစ် ထည့်ပြောရတော့မှာပဲဗျ"

"ကောင်းတာပေါ့ ကိုဝင်းရာ၊ ဒါမှလည်း ထေရဝါဒ၊ မဟာယာန၊ ဟိနယာနဆိုတဲ့ ဝေါဟာရတွေရဲ့ သဘောသဘာဝတွေကိုပါ ကွဲကွဲပြားပြား နားလည်လာတော့မှာပေါ့"

"ပြောရရင်တော့ ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း သုံးရာလောက်အတွင်း အဖြစ်အပျက်တွေကစရမှာပဲ၊ အိန္ဒိယတိုက်ငယ်ရဲ့ အရှင်သခင် အသောကမင်းကြီးလက်ထက် တတိယသင်္ဂါယနာမတိုင်ခင် သံဃာ့ဂိုဏ်းပေါင်းစုံအကြား ဖြစ်ပေါ်ခဲ့တဲ့ အယူဝါဒကွဲလွဲမှုတွေပေါ့ဗျာ"

"ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်တစ်ရာမှာလုပ်ခဲ့တဲ့ ဒုတိယ သင်္ဂါယနာကစပြီး သံဃာ့ဂိုဏ်းကွဲမှုတွေရှိခဲ့တာ မဟုတ်လားဗျ"

"ဟုတ်ပါတယ် ပထမသင်္ဂါယနာနောက်ပိုင်း ဝေသာလီပြည်သား ရဟန်းတစ်စုက အရက်စင်စစ်မဖြစ်သေးတဲ့ သေရည်အနုစားမျိုး၊ ကျွန်တော်တို့အညာမှာတော့ ရှေးကတန္တရဗုဒ္ဓဘာသာအနွယ်ဝင် အရည်းကြီးရဟန်းတွေ ကြိုက်တတ်လို့ ရဟန်းကြီးကြိုက်လို့ခေါ်တဲ့ ပင်ကျ ထန်းရည်လို၊ အခုခေတ်ဘီယာလိုဟာမျိုး သောက်ခွင့်ရှိရမယ်၊ ရွှေငွေ ရတနာအသုံးပြာကို အလှူခံယူကိုင်တွယ် သုံးစွဲခွင့်ရှိရမယ်၊ နေမွန်းလွဲ ပြီးနောက် အရိပ်လက်နှစ်သစ်ထွက်တဲ့အထိ ဆွမ်းစားခွင့်ရှိရမယ်၊ ကိုယ့် ဆရာကပြောတာဆိုရင် ဘုရားဟောနဲ့ ညီညီမညီညီ လုပ်ကောင်းတယ် စတဲ့ ရဟန်းဝိနည်းသိက္ခာပုဒ်ဆိုင်ရာ ပြင်ဆင်ချက် ၁၀-ခုကို ပြဌာန်းကျင့်သုံး လာခဲ့ကြတယ်၊ ဒီလိုဝိနည်းသိက္ခာပျက် ရဟန်းတွေရဲ့လုပ်ရပ် မှားယွင်း ကြောင်း သီလ၊ သမာဓိ၊ ပညာနဲ့ ပြည့်စုံတဲ့ မထေရ်မြတ်ကြီးတွေက ဆုံးဖြတ် ပေးခဲ့တယ်၊ အဲဒီနောက် ပထမသင်္ဂါယနာမူအတိုင်း ဗုဒ္ဓမြတ်စွာရဲ့ဓမ္မနဲ့ ဝိနယတွေကို ရှေးမူမပျက် ဆက်လက်ထိန်းသိမ်းဖို့ အားလုံးညှိနှိုင်းတိုင်ပင်ပြီး ဒုတိယသင်္ဂါယနာ တင်ခဲ့ကြပါတယ်။ ဒါကိုမကျေနပ်တဲ့ ဝိနည်းသိက္ခာပျက် ရဟန်းဆိုးတွေက အုပ်စုဖွဲ့၊ သူတို့ကိုယ်ကို မဟာသံဃိကဂိုဏ်းလို့ သမုတ်ပြီး သူတို့အလိုကျ စင်ပြိုင်သင်္ဂါယနာ တင်ခဲ့ကြတော့တာပါပဲ"

"ဒါဆို ဒုတိယသင်္ဂါယနာတင်ခေတ်ကစပြီး သံဃာ့ဂိုဏ်းကွဲမှု စခဲ့တာပေါ့နော်"

"အင်း . . . တချို့သုတေသီတွေကတော့ အေဒီ ၆၂၉ လောက်မှာ မဇ္ဈိမဒေသကိုရောက်ခဲ့တဲ့ တရုပ်ရဟန်းတော် **ဟူယင်ဆင်** *(Hiuentsang)*

ရဲ့မှတ်တမ်းအရ ပထမသင်္ဂါယနာတင်တုန်းကတည်းက ကွဲခဲ့ကြတယ်လို့ အယူရှိတယ်၊ ပထမသင်္ဂါယနာတင်ရာ သတ္တပဏ္ဏိကလိုဏ်ဂူရဲ့ အနောက်ဘက်တစ်ယူဇနာအကွာ ပဏ္ဍဝလိုဏ်ဂူမှာ ပထမစင်ပြိုင် သင်္ဂါယနာတင်ခဲ့တယ်လို့ အဲဒီမှတ်တမ်းကဆိုပေမယ့် အထောက်အထား မခိုင်လုံတဲ့အတွက် ပညာရှင်တွေလက်ခံလောက်တဲ့ အယူအဆတစ်ရပ် ဖြစ်မလာခဲ့ဘူး၊ သာသနာနှစ်တစ်ရာမှာလုပ်တဲ့ ဒုတိယသင်္ဂါယနာကစပြီး သံဃာဂိုဏ်းကွဲခဲ့တဲ့ အခါမှာတော့ မူလဝိနည်းကိုမဖောက်မဖျက် ဆက်လက်ကျင့်သုံးချင်တဲ့ မထေရ်ကြီးတွေရဲ့ အယူအဆအတိုင်းလိုက်နာခဲ့တဲ့ သံဃာတော်တွေကို ထေရဝါဒသံဃာဂိုဏ်း လို့ ခေါ်တွင်ခဲ့တယ်၊ အဲဒီခေတ်အခါကစပြီး ဗုဒ္ဓသာသနာရှေ့မှာ ထေရဝါဒဆိုတဲ့ဝိသေသ အထူးတပ် ခေါ်ဝေါ်ပညတ်ခဲ့ပေမယ့် ထေရဝါဒဗုဒ္ဓသာသနာဆိုတာ ဗုဒ္ဓတရားတော်တွေကို ထပ်ပြီးဖြည့်စွက် အဆန်းထွင်ထားတာမဟုတ်ဘဲ ဗုဒ္ဓမြတ်စွာရှိစဉ်အခါက သာသနာတော် မူရင်းအတိုင်းပဲဆိုတာ သိထားကြဖို့လိုတယ်ဗျ"

"အဲဒီနောက်ပိုင်း ထေရဝါဒထဲက ဂိုဏ်းခွဲထွက်ခဲ့ကြတာကော ရှိသေးလား"

"ရှိတာပေါ့ ကိုလင်းရာ၊ ထေရဝါဒသံဃာတော်တွေထဲကနေပဲ ဗုဒ္ဓဝါဒနဲ့ပတ်သက်လို့ အယူအဆကွဲလွဲပြီး မဟိသာသက၊ ဝဇ္ဇီပုတ္တက၊ သဗ္ဗတ္ထိဝါဒ စတဲ့ဂိုဏ်းပေါင်း (၁၁)ဂိုဏ်း ကွဲထွက်သွားကြတယ်၊ မဟာသံဃိကထဲကလည်း ဂေါကုလိက၊ ဧကဗျောဟာရိက စတဲ့ ဂိုဏ်းခွဲပေါင်း ခြောက်ဂိုဏ်းကွဲထွက်သွားတာ အားလုံးပေါင်း (၁၈)ဂိုဏ်း ဖြစ်သွားပါရော၊ ဒါ့အပြင် အဲဒီခေတ်အခါကအိန္ဒိယမှာ ဗုဒ္ဓသာသနာရွှေခေတ်လို့ ဆိုရလောက်အောင် ဗုဒ္ဓသာသနာတော်ကို နိုင်ငံအဝန်းကြည်ညို ကိုးကွယ်ကြတယ်လေ၊ ဒီတော့ ဗုဒ္ဓသာသနာနွယ်ဝင်ရဟန်းတွေအဖို့ လာဘ်လာဘ ပေါကြွယ်သလောက် သာသနာပြဗြာဟ္မဏပုဏ္ဏားတွေ၊ ဂျိမ်းရဟန်းတွေခမျာ အခြေအရံပရိသတ်နည်းပါးလာပြီး အတော်လေး စားဝတ်နေရေးခက်ခဲလာကြတယ်၊ ဒါကြောင့် သူတို့ထဲကတချို့ဟာ ဗုဒ္ဓဝါဒကိုတကယ်မယုံကြည်ပေမယ့် အခြေအနေအရလေ့လာသင်ကြားပြီး ဗုဒ္ဓဘာသာအမည်ခံဂိုဏ်း တွေ ထူထောင်လာကြတယ်၊ သူတို့ရဲ့မူလဘူတ ဗြာဟ္မဏဝါဒ၊ ဂျိမ်းဝါဒတွေနဲ့ ဗုဒ္ဓဝါဒကိုရောမွှေထားတဲ့ အယူအဆတွေကိုပဲ ဗုဒ္ဓဝါဒအစစ်အမှန်ဖြစ်သယောင် ဟောပြောလာကြတယ်၊ သူတို့က အန္ဓရာတိုင်းမှာအခြေချခဲ့တာမို့ အန္ဓကဂိုဏ်းတွေလို့လည်း ခေါ်ဝေါ်သမုတ်ခဲ့ကြတယ်၊ နောက်ပိုင်း အန္ဓက

ဂိုဏ်းချည်းပဲ ကိုးဂိုဏ်းရှိခဲ့တယ်လို့ ထေရဝါဒမှတ်တမ်းတွေအရ သိရတယ်ဗျ"

"လောကကို ထာဝရဘုရားက ဖန်ဆင်းတယ်လို့ ယုံကြည်တဲ့ ဗြာဟ္မဏတွေနဲ့ ဘုရားပေါင်းအသင်္ချေ နိဗ္ဗာန်ဘုံမှာသက်ရှိထင်ရှား စံမြန်းနေတယ်လို့ ယုံကြည်ကြတဲ့ ဂျိမ်းရဟန်းလူထွက်တွေ ထူထောင်ထားတဲ့ ဗုဒ္ဓဝါဒမျိုးဟာ ဘယ်မှာလာသန့်စင်တဲ့ဗုဒ္ဓဝါဒ ဖြစ်လာပါတော့မလဲနော်"

"ဒါပေါ့ဗျာ၊ အဲဒီအန္ဓကကိုးဂိုဏ်းထဲမှာ ပါဝင်တဲ့ ဝေတုလ္လဝါဒ ဟာ ခေတ်အဆက်ဆက် ထေရဝါဒဗုဒ္ဓသာသနာတော်ကို နည်းအမျိုးမျိုးနဲ့ ထိုးဖောက်စိမ့်ဝင် ဖျက်ဆီးခဲ့ကြတယ်ဗျ။ ဗုဒ္ဓသာသနာရဲ့ နောက်ဆုံးခံတပ်လို့ တင်စားခေါ်ဝေါ်ခံခဲ့ရတဲ့ သီရိလင်္ကာနိုင်ငံမှာတောင် အဲဒီဂိုဏ်းရဲ့အဆက်အနွယ် သံဃမိတ္တ ရဟန်း ရဲ့စနက်ကြောင့် သာသနာသက္ကရာဇ်ကိုးရာစုလောက်မှာ ထေရဝါဒသံဃာတော်တွေ အကြီးအကျယ် ဒုက္ခရောက်ခဲ့ရဖူးသေးတယ်"

"အဲဒီဝေတုလ္လဂိုဏ်းရဲ့ အယူအဆကရော ဘယ်လိုများလဲဗျ"

"သူတို့ပြုစုတဲ့ ဝေတုလ္လပိဋကတ် အလိုအရဆိုရင် ဗုဒ္ဓမြတ်စွာ အစစ်အမှန်ဟာ တုသိတာနတ်ပြည်မှာပဲစံမြန်းနေခဲ့ပြီး လူ့လောကကို ဆင်းမလာခဲ့ဘူး၊ လူသားတွေကိုကယ်တင်ဖို့ နိမ္မိတရုပ် ကိုယ်ပွားတော်ဖန်ဆင်းပြီး လူ့လောကကို တရားဟောစေလွှတ်ခဲ့တာဖြစ်တယ်၊ ဒါ့ကြောင့် ဗုဒ္ဓမြတ်စွာဟာ လူသားစင်စစ်မဟုတ်ဘဲ လူသားအသွင်ခေတ္တဆောင်ထားတာသာ ဖြစ်ပြီး သူ့ကိုလှူဒါန်းပူဇော်သမျှ လူတွေကျေနပ်အောင် သုံးဆောင်ဟန်ပြခဲ့တာသာဖြစ်တယ်တဲ့ဗျာ"

"ဗိဿနိုးနတ်ဘုရားကြီးက လူ့လောကကိုဆင်းသက်လာပြီး ကယ်တင်ရှင် အဝတာရအဖြစ်နဲ့ သတ္တဝါတွေကို ကယ်တင်လေ့ရှိတယ်ဆိုတဲ့ အယူအဆကို ဗုဒ္ဓဝါဒထဲယဉ်ယဉ်ကလေး သွပ်သွင်းလိုက်တာပဲနော်"

"ဒါပေါ့ဗျာ၊ သက်ရှိထင်ရှားရှိခဲ့တဲ့ဗုဒ္ဓကို မမြင်ရမကြားရတဲ့ နတ်ပြည်နတ်နန်းကလာသူအဖြစ် အသွင်ပြောင်းလိုက်တာကိုပဲ ကိုယ့် ဘုရားကို အဆင့်မြှင့်ပေးလိုက်တာလို့ထင်ပြီး အဲဒီဝါဒကို လက်ခံယုံကြည်တဲ့ လူပြိန်းတွေကတော့ သဘောကျကြတာပေါ့။ ဒီလိုပါပဲ၊ အန္ဓက ကိုးဂိုဏ်းထဲက ဂုဠ္ဌဝိနယကျမ်းကိုပြုစုခဲ့တဲ့ ဝါဇီရိယဂိုဏ်းကလည်း သူတို့ရဲ့ကျင့်စဉ် အတိုင်းလိုက်နာကျင့်ကြံကြမယ်ဆိုရင် လူ့ခန္ဓာကိုယ်ဟာ စိန်လိုမာကျော ခိုင်ခံ့ပြီး ~~သက်တမ်းအသင်္ချေ နေနိုင်တယ်၊ ထာဝရအသက်ကို ရနိုင်တယ်လို့~~

ဟောပြောကြပြန်သဗျ"

"ဒါလည်း ရှေးခေတ်အိန္ဒိယက သာသနာပယောဂီတွေရဲ့အယူအဆကို ပုံတူကူးထားတာပဲ၊ ကျွန်တော်တို့ဆီက ဝိဇ္ဇာမိုရ်လမ်းလိုက်နေကြတဲ့ ဘိုးတော်၊ ဘွားတော်တွေ ထွက်ရပ်ပေါက်ပြီး သက်တမ်းအသင်္ချေ နေနိုင်ရေးအတွက် ထုံကူးကြ၊ ဖိုဝင်ကြတယ်ဆိုတာ ဒီအယူအဆတွေက ဆင်းသက်လာတာပဲ ဖြစ်မယ်ထင်တယ်"

"အဲဒီဂိုဏ်းကွဲတွေရဲ့ အဆိုးရွားဆုံးအယူအဆ တစ်ခုကတော့ ရဟန်းဟာ အမျိုးသမီးတစ်ယောက်နဲ့ တူနှစ်ကိုယ်နိဗ္ဗာန်ကူးဖို့ ဆုထူးငယ်ပန်ထားကြတယ်ဆိုရင် အဲဒီအမျိုးသမီးနဲ့သံဝါသပြုနိုင်တယ်၊ ရဟန္တာဖြစ်စေကာမူ မာရ်နတ်ရဲ့ပယောဂကြောင့် သုက်လွှတ်နိုင်သေးတယ်ဆိုတာတွေပဲ"

"အင်း . . . အာသဝေါတရားကလည်းမကုန်ခန်းသေး၊ ရဟန္တာအဖြစ်နဲ့လည်းကျော်စောချင်ဆိုတော့ ကိုယ်လုပ်ချင်ရာလုပ်လို့ရအောင် တီထွင်ထားတဲ့ ဝါဒတွေထင်ပါရဲ့၊ မြန်မာပြည်မှာ တစ်ချိန်ကစိုးမိုးသွားခဲ့တဲ့ အရည်းကြီးတွေဟာ အဲဒီဂိုဏ်းကွဲတွေရဲ့ အဆက်အနွယ်တွေများလားဗျာ"

"သေချာတာပေါ့ ကိုလင်းရယ်၊ အခုခေတ် ထေရဝါဒဗုဒ္ဓဘာသာဝင်အမည်ခံတချို့ ကိုးကွယ်ကြတဲ့ရှင်မထီးဆိုတာ အဲဒီဂိုဏ်းတွေရဲ့ အဆက်အနွယ်တန္တရဂိုဏ်းဝင် အရည်းကြီးရဟန်းတစ်ဦးပဲဗျ၊ အဲဒီအယူအဆတွေဟာ နီပေါ၊ တိဗက်၊ ဘူတန်၊ တရုတ်၊ ကိုရီးယား၊ ဂျပန်စတဲ့ မြောက်ပိုင်းဗုဒ္ဓဘာသာနိုင်ငံ အတော်များများကို ပျံ့နှံ့သွားခဲ့ကြတာပေါ့၊ ဂျပန်ပြည်က တချို့ဗုဒ္ဓဘာသာဂိုဏ်းဝင် ရဟန်းတွေနဲ့မယ်သီလတွေဟာ ဇနီးမောင်နှံအဖြစ် ပေါင်းသင်းနေထိုင်ခွင့်ရှိကြတယ်ဗျ၊ အဲဒီလိုဖောက်ပြန်တဲ့ အယူအဆတွေကို ဗုဒ္ဓဝါဒထဲဆွဲသွင်းလာလိုက်ကြတာ ဒုတိယသင်္ဂါယနာအပြီး မူလသံဃိကအစည်းအရုံးကနေခွဲထွက်ခဲ့တဲ့ မဟာသံဃိကဂိုဏ်းဝင်ရဟန်းတချို့ကလည်း ပြာဟ္မဏတွေရဲ့ ထာဝရဘုရားအယူအဆကို အတုယူပြီး 'ဗုဒ္ဓမြတ်စွာဟာ နိဗ္ဗာန်ဘုံမှာ အသင်္ချေအနန္တကာလပတ်လုံး စံမြန်းနေတယ်' လို့ ဆိုလာကြပြန်တယ်။ တစ်ခါဂျိမ်းဝါဒကို အားကျပြီး 'ဂင်္ဂါဝါဠုသဲစုမကပွင့်ပြီးသမျှ ဗုဒ္ဓတွေဟာအရပ်ဆယ်မျက်နှာမှာ သက်ရှိထင်ရှားပျံ့နှံ့တည်ရှိနေတယ်' လို့ဟောကြပြန်တယ်၊ ထေရဝါဒဂိုဏ်းက ခွဲထွက်ခဲ့တဲ့ မဟိသာသကဂိုဏ်းကတော့ 'သင်္ခါရတရားတို့ကင်းလွတ်ရာ အသင်္ခတဓာတ်ဟာ အာကာသကောင်းကင်ကြီးပဲဖြစ်တယ်၊ ဒါကြောင့် ကောင်းကင်ဟာနိဗ္ဗာန်ပဲ' လို့ အယူလွဲကြသလို ဝဇ္ဇီပုတ္တကဂိုဏ်းကလည်း

'သတ္တဝါတိုင်းရဲ့ ခန္ဓာကိုယ်ထဲမှာ ဘဝတစ်ခုကနေတစ်ခုကို ကူးပြောင်းနိုင်တဲ့ အတ္တဝိညာဉ်ကောင်ရှိတယ်' လို့ ခံယူလာကြပြန်တယ်ဗျ"

"ဗုဒ္ဓပရိနိဗ္ဗာန်ပြုအပြီး နှစ်သုံးရာလောက်အတွင်းမှာပဲ ဗုဒ္ဓဝါဒဟာ အတော့်ကို အဖျက်ဆီးခံလိုက်ရတော့တာပါကလား၊ ဗုဒ္ဓဟာ လူသားစင်စစ် မဟုတ်ဘူး၊ သက်တော်အနန္တ ရှည်လျားပြီး ဘုံနန်းတစ်ခုမှာ ထာဝရစံမြန်း နေတယ်၊ အာကာသကောင်းကင်နဲ့နိဗ္ဗာန် ထပ်တူညီတယ်၊ သတ္တဝါတွေရဲ့ ခန္ဓာကိုယ်ထဲမှာ ဝိညာဉ်ကောင်ရှိတယ်. . စတဲ့အယူအဆတွေဟာ ဗုဒ္ဓ ပွင့်ပြီးနောက် နှစ်ပေါင်းခြောက်ရာလောက်မှာထွန်းကားခဲ့တဲ့ ကောင်းကင် ဘုံမှာ ထာဝရဘုရားသခင်ကစံမြန်းနေပြီး လူသားတွေကိုကယ်တင်ဖို့ လူ့ဇာတိကိုခံယူကာ လူ့လောကကိုဆင်းသက်ခဲ့တယ်ဆိုတဲ့ အယူဝါဒမျိုးနဲ့ ဘာထူးတော့မှာလဲ ကိုဝင်းရာ"

"အဲဒီအယူအဆတွေအားလုံးလိုလိုကို အခုခေတ်မဟာယာန အနွယ် ဗုဒ္ဓဘာသာဂိုဏ်းကွဲအတော်များများက အမွေဆက်ခံထားကြ တယ်ဗျ။ အဲဒီတုန်းကရှိခဲ့တဲ့ ဥတ္တရာပထကဂိုဏ်း ဆိုရင် 'ဗုဒ္ဓမြတ်စွာရဲ့ ကျင်ကြီး၊ ကျင်ငယ်ဟာမွှေးရနံ့တွေ ကြိုင်လှိုင်နေတယ်' လို့တောင် ဟောပြောခဲ့ကြသေးတယ်ဆိုပဲ ကိုလင်းရဲ့"

"ဟား ဟား ဟား၊ အတော်ရယ်စရာကောင်းတဲ့ အယူအဆတွေ ပဲနော်"

"အဲဒီရယ်စရာတွေဟာ ဗုဒ္ဓဝါဒအစစ်အမှန်ကို ခံယူကျင့်သုံး ချင်တဲ့ ထေရဝါဒဂိုဏ်းဝင်သံဃာတော်တွေနဲ့ တပည့်ဒါယကာတွေအတွက် တော့ ငိုချင်စရာဖြစ်လာရတော့တာပါပဲ ကိုလင်းရေ့။ ဒီလိုမဟုတ်တရုတ် အယူအဆတွေ ပြန့်ပွားလာတာနဲ့အမျှ ဗုဒ္ဓသာသနာတော်ကြီး ညှိုးနွမ်း ပျက်စီးလာတော့မှာကို တွေးမြင်မိခဲ့တဲ့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်မြတ်ဟာ သာသနာ့ဒါယကာအသောကမင်းရဲ့ အကူအညီရယူပြီး ဗုဒ္ဓဝါဒအမည်ခံ အယူဝါဒမှားတွေနဲ့ အဲဒီအယူဝါဒမှားတွေကို ခံယူကျင့်သုံး သူတွေကို သာသနာတော်က ဖယ်ထုတ်သန့်စင်ပစ်ဖို့ ကြိုးစားခဲ့တယ်ဗျ"

"ဓမ္မစက်ကိုအာဏာစက်နဲ့ပံ့ပိုးပြီး သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးအတွက် လုပ်ကြတာပေါ့နော်"

"ဒါပေါ့ဗျာ၊ ရဟန်းတုရဟန်းယောင်လို့ ထင်ရှားသူမှန်သမျှ သာသနာတော်က ဖယ်ကြဉ်ပစ်ဖို့စီစဉ်ခဲ့ကြတယ်၊ အရှင်မဟာမောဂ္ဂလိပုတ္တ တိဿမထေရ်မြတ်ဟာ ရဟန်းတု၊ သံဃာယောင်ဂိုဏ်းဂဏတွေရဲ့ အယူဝါဒ

တွေနဲ့ သူတို့ရဲ့မှားယွင်းတိမ်းချော်ပုံတွေကို တိတိကျကျဖော်ထုတ်ထားတဲ့ ကထာဝတ္ထုကျမ်းကိုလည်း စီရင်ပြုစုပေးခဲ့တယ်၊ ပြီးတော့ သာသနာ သက္ကရာဇ် ၂၃၅ ခုနှစ်မှာ ထေရဝါဒဗုဒ္ဓသာသနာရဲ့ တတိယမြောက် သင်္ဂါယနာတင်ပွဲကြီးဖြစ်မြောက်အောင် ဆောင်ကြဉ်းပေးနိုင်ခဲ့တယ်ဗျ"

"အင်း . . . ထေရဝါဒဗုဒ္ဓသာသနာတော်အတွက်တော့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ရဲ့ ကျေးဇူးကြီးမားလှပါတယ်၊ ဒါနဲ့သာသနာတော်ကနေ အကြဉ်ခံသံဃာဂိုဏ်းတွေကရော သူတို့အမှားကို ဝန်ခံပြီး အယူမှန်ကိုလက်ခံကြသလား"

"အများစုကဘယ်လက်ခံပါ့မလဲဗျာ၊ သူတို့မှာလည်း မင်းစိုးရာဇာ အထက်တန်းလွှာက ကိုးကွယ်သူတပည့်ဒါယကာတွေနဲ့ အင်အားတောင့် ခဲ့တာဆိုတော့ ရာဇဂြိုလ်နဲ့မနီးမဝေးမှာရှိတဲ့ နာလန္ဒအရပ်မှာစုရုံးပြီး စင်ပြိုင် သင်္ဂါယနာတင်ခဲ့ကြတယ်လေ၊ နောက်တော့နာလန္ဒဟာ မဟာယာန ဗုဒ္ဓဘာသာဝင်တို့ရဲ့ အယူဝါဒဖြန့်ဖြူးရာဌာနချုပ်ကြီးတစ်ခု ဖြစ်လာခဲ့တယ်။ ပုဂံခေတ် အရည်းကြီးတွေတည်ထောင်တဲ့ ပွဲကျောင်းတွေမှာ တရားဓမ္မထက် ဓားခုတ်၊ လှံထိုး၊ မြင်းစီး၊ ဗေဒင်၊ ယတြာ၊ နီတိ စတဲ့လောကီပညာတွေကို ဦးစားပေး သင်ကြားပေးခဲ့ကြသလို နာလန္ဒတက္ကသိုလ်ကြီးဟာလည်း ဘာသာရေးကိုအခြေပြုပြီး ခေတ်ပြိုင် ဝိဇ္ဇာ၊ သိပ္ပံ၊ လောကဓာတ်ပညာတွေ ကိုပါ သင်ကြားပေးရာဌာနကြီးတစ်ခုအနေနဲ့ ကမ္ဘာကျော်ခဲ့တယ်၊ အခုခေတ် အနောက်တိုင်းမှာနာမည်ကြီးနေတဲ့ အောက်စဖို့ဒ်တို့၊ ကိန်းဘရစ်ချ်တို့လို ဘာသာရေးကိုအခြေပြုပြီး ထင်ရှားလာတဲ့တက္ကသိုလ်ကြီးတွေ ဘယ်ဆီ ရှိမှန်းမသိခင်ကတည်းက နာလန္ဒတက္ကသိုလ်ဟာကမ္ဘာကျော်ခဲ့တာမို့ အရှေ့ တိုင်းသားတွေအဖို့ ဂုဏ်ယူမယ်ဆိုရင် ယူစရာပေါ့ဗျာ"

"ဒါ့ထက် အပယ်ခံဂိုဏ်းကွဲတွေဟာ သူတို့ရဲ့အယူကွဲတွေကို ဘယ်လိုညှိနှိုင်းပြီး သင်္ဂါယနာတင်ခဲ့သလဲဆိုတာ စဉ်းစားစရာပဲနော်"

"ဒီနေရာမှာ ထေရဝါဒဂိုဏ်းနဲ့ အပယ်ခံဂိုဏ်းတွေအကြား ခံယူချက်ချင်းခြားနားကြပြန်တယ်၊ ထေရဝါဒသံဃာတော်တွေက 'အမှန်တရားသာလျှင်ခွန်အား' ဆိုတဲ့မူကို စွဲကိုင်ထားကြပေမယ့် အပယ်ခံ ဂိုဏ်းတွေကတော့ 'ခွန်အားသာလျှင်အမှန်တရား' ဆိုတဲ့မူကို လက်ကိုင် ပြုထားကြတယ်။ ထေရဝါဒသံဃာတွေအနေနဲ့ ဂိုဏ်းဝင်အရေအတွက်၊ တပည့်ဒါယကာအရေအတွက်ပေါ်များရေးကို ဦးစားမပေးဘဲ အမှန်တရား ကို လက်ခံယုံကြည်ကျင့်သုံးသူတွေနဲ့သာ ဗုဒ္ဓသာသနာတော်ကို သန့်သန့်

ရှင်းရှင်းထွန်းကားစေချင်ကြတယ်၊ အကြဉ်ခံဂိုဏ်းပေါင်းစုကတော့ ဗုဒ္ဓသာသနာတော်အစစ်အမှန် ပြန့်ပွားဖို့ထက် သူတို့ကိုကိုးကွယ်ဆည်းကပ်တဲ့တပည့်ဒါယကာ အင်အားတောင့်တင်းရေးကိုသာ ဦးစားပေးခဲ့ကြ တယ်။ ဒါ့ကြောင့် သိပ်ပြီးစီစီစစ်စစ်မလုပ်တော့ဘဲ အဲဒီအခါကအင်အား အတောင့်တင်းဆုံးဖြစ်တဲ့ သဗ္ဗတ္ထိဝါဒဂိုဏ်းရဲ့ဦးဆောင်မှုနဲ့ ဂိုဏ်းခွဲတွေစုရုံးပြီး သင်္ဂါယနာတင်ခဲ့ကြတယ်၊ သူတို့စိတ်ကြိုက်ဖန်တီးထားတဲ့ ပိဋကတ်တွေကို ဘုရားဟောအဖြစ် လုပ်ကြံဖန်တီးဖြည့်စွက်ခဲ့ကြတယ်ဗျ"

"ခိုင်မာညီညွတ်တဲ့ လမ်းညွှန်သဘောတရားမရှိဘဲ အမှန်တရားကို အင်အားသုံးပြီး ဖျက်ဆီးကြရမှာဆိုတော့ စည်းရုံးရေးတစ်ရပ်အနေနဲ့သာ လုပ်ခဲ့ကြတာထင်ပါရဲ့ဗျာ"

"အဲဒီလို အမှန်တရားကို ထိပါးနှောင့်ယှက်လာမယ့် အန္တရာယ်ရဲ့ အင်အားကိုခန့်မှန်းမိခဲ့တဲ့ အရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်နဲ့ အသောကမင်းကြီးတို့ဟာ သီရိလင်္ကာ၊ သုဝဏ္ဏဘူမိစတဲ့ ကိုးတိုင်းကိုးဌာနကို ထေရဝါဒဗုဒ္ဓသာသနာပြုအဖွဲ့တွေစေလွှတ်ပြီး သန့်ရှင်းစစ်မှန်တဲ့ ဗုဒ္ဓသာသနာတော် ပြန့်ပွားရေးဆောင်ရွက်စေခဲ့တယ်၊ အသောကမင်းကြီးလည်းလွန်ရော မဇ္ဈိမဒေသမှာ ဗုဒ္ဓသာသနာတော်ကို ချီးမြှောက်မှုယုတ်လျော့လာခဲ့ပြီး ဂျိမ်းဘာသာဝင်ရဟန်းတွေနဲ့ ဗြာဟ္မဏပုဏ္ဏားတွေသာ အကိုးကွယ်ခံဘဝမှာ ကြီးစိုးလာခဲ့ကြတယ်၊ ဒါကြောင့် ထေရဝါဒဂိုဏ်းဝင်သံဃာအများစုက တောင်ပိုင်းကိုပြောင်းရွှေ့ အခြေချလာခဲ့သလို အပယ်ခံဂိုဏ်းသားအများစုက မြောက်ပိုင်းကိုရွှေ့လျော နေရာယူခဲ့ကြရတယ်ဗျ၊ တချို့လည်း ထေရဝါဒသံဃာတော်တွေ သွားရာလိုက်ပြီး အပြိုင်အဆိုင်သာသနာပြုခဲ့ကြတယ်ဗျ"

"အဲဒီနောက်မှာရော သံဃာဂိုဏ်းကွဲမှုတွေ ရှိသေးလားဗျ"

"ထေရဝါဒအတွင်းမှာ မရှိသလောက်ဖြစ်သွားပေမယ့် အပယ်ခံဂိုဏ်းတွေအကြားမှာတော့ထပ်ပြီး အယူဝါဒကွဲလွဲမှုတွေရှိခဲ့တယ်၊ အိန္ဒိယအနောက်မြောက်ဘက်တစ်ဝန်းကို ပျံ့နှံ့အခြေချလာတဲ့ ဂရိအနွယ်ဖွားတွေနဲ့ အတူပါလာတဲ့ ဂရိအတွေးအခေါ်တွေကပါ ဗုဒ္ဓဘာသာဂိုဏ်းကွဲတွေ အကြားစိမ့်ဝင်ထိုးဖောက်လာခဲ့ပြန်တယ်။ နေရာဒေသနဲ့ အယူဝါဒကွဲပြားမှုကိုအစွဲပြုပြီး ဂိုဏ်းငယ်ကလေးတွေ အစိတ်စိတ်အမြွှာမြွှာဖြစ်လာခဲ့တယ်"

"အင်း . . . အစကတည်းက တစ်ကျောင်းတစ်ဂါထာ၊ တစ်ရွာ

တစ်ပုဒ်ဆန်းတွေကို စည်းရုံးရေးရှေးရှုပြီး စုစည်းခဲ့ရတာဆိုတော့ ဘိလပ်မြေနည်းနည်း၊ သဲများများနဲ့ဆောက်ထားတဲ့တိုက်တွေလို မကြာခင်အက်ကြောင်းလိုက်လာမှာအမှန်ပဲ ကိုဝင်းရေ့"

"သေချာတာပေါ့ဗျာ၊ သာသနာ ၆၀၀ ဝန်းကျင်ရောက်တော့ အိန္ဒိယပြည်အနောက်မြောက်ဘက်တစ်လွှား အင်အားကောင်းလာခဲ့တဲ့ သဗ္ဗတ္ထိဝါဒဂိုဏ်းထဲမှာကိုပဲ ဂန္ဓာရနဲ့ကသ္မီယဆိုပြီး ထပ်ကွဲပြားပြန်တယ်။ ဂိုဏ်းကွဲတွေနဲ့အတူ အယူဝါဒဆန်းတွေကိုလည်း အမျိုးမျိုးတီထွင်ကြံဆ ဟောပြောခဲ့ကြတယ်၊ အထူးခြားဆုံးကတော့ **တြိကာယ** *(Trikara)* အယူအဆပဲ"

"တြိကာယဆိုတော့ ကိုယ်ကာယသုံးခုပေါ့နော်"

"ဟုတ်တယ်၊ ဗုဒ္ဓမြတ်စွာရဲ့ မဖောက်မပြန် ထာဝရရှင်သန်နိုးကြားနေတဲ့ သဗ္ဗညုတဉာဏ်တော်ကြီးကို ဓမ္မကာယ ၊ စျာန်ဝင်စားပြီးသုခချမ်းသာကိုခံစားနေတဲ့ စျာန်ဗုဒ္ဓကိုတော့သမ္ဘောဂကာယ၊ လူ့လောကမှာလူ့သဏ္ဍာန်ဆောင်ပြီး တရားဟောခဲ့တဲ့ဂေါတမဗုဒ္ဓကိုတော့ နိမ္မာနကာယဆိုပြီး ဗုဒ္ဓကာယသုံးမျိုးရှိတယ်ဆိုတဲ့ အယူအဆပေါ့ဗျာ"

"ဒါဆို သန့်ရှင်းသောဝိညာဉ်တော်၊ အဘဘုရားသခင်၊ သားတော်သခင်ယေရှုသုံးပါးပေါင်း တစ်ဆူတည်းသောထာဝရဘုရားဆိုတဲ့ ခရစ်ယာန်တို့ရဲ့ **တြိနတိ** *(Trinity)* အယူအဆနဲ့အတော်တူနေတာပဲ ကိုဝင်းရဲ့"

"ဘာသာတရားတို့ရဲ့ဇစ်မြစ်ကို စူးစမ်းချင်သူတွေအတွက် စိတ်ဝင်စားစရာကောင်းတဲ့ သဲလွန်စလေးတစ်ခုဆိုရင် မမှားဘူးပေါ့ဗျာ၊ မှတ်တမ်းတွေအရတော့ တြိကာယအယူအဆဟာ တြိနတိအယူအဆထက်စောပြီး ပေါ်ပေါက်ခဲ့တယ်ဆိုပဲ၊ ဒါပေမယ့် ဟိန္ဒူတို့ရဲ့ **တြိမူရ်တိ** *(Tri Murthy)* လို့ခေါ်တဲ့ ဗြဟ္မာ၊ ဗိဿနိုး၊ သီဝ သုံးပါးပေါင်းတစ်ဆူဝါဒကလည်း တြိကာယထက်စောပြီး ပေါ်ပေါက်ခဲ့တယ်ဆိုတာ မမေ့သင့်ဘူးဗျနော်"

"တြိကာယအယူအဆအရဆိုရင် ဂေါတမဗုဒ္ဓဟာနိဗ္ဗာန်ဘုံမှာ စျာန်ဝင်စားပြီး သုခချမ်းသာခံစားနေတဲ့စျာနဗုဒ္ဓရဲ့ ကိုယ်ပွားလို့ဆိုရမှာပေါ့"

"သိပ်ဟုတ်တာပေါ့ဗျာ၊ အဲဒီလိုနိဗ္ဗာန်ဘုံမှာစျာန်ဝင်စားပြီး သုခချမ်းသာခံစားနေတဲ့ဗုဒ္ဓဟာ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေယုံကြည်ထား သလိုပါရမီဖြည့်ကျင့်လို့သဗ္ဗညုတဉာဏ်တော်ကိုရပြီး ဗုဒ္ဓဖြစ်လာသူမဟုတ်ဘူးတဲ့ဗျ၊ အသင်္ချေအနန္တကာလကတည်းက အလိုအလျောက်ဗုဒ္ဓဖြစ်နေတာတဲ့လေ၊ အဲဒီလို အစကတည်းက ဗုဒ္ဓဖြစ်နေသူမို့ အာဒိဗုဒ္ဓလို့လည်းခေါ်

သဗျ၊ သူတို့အယူအဆအရဆိုရင် နိဗ္ဗာန်ဘုံမှာစံမြန်းနေတဲ့အာဒိဗုဒ္ဓ ခြောက်ဆူရှိသတဲ့၊ အဲဒီထဲက အတိုင်းအဆမဲ့ ရောင်ခြည်တော်နဲ့ သပ္ပါယ်နေတဲ့ဘုရားလို့အမိပ္ပာယ်ရတဲ့ အမိတာဘာဗုဒ္ဓကအထင်ရှားဆုံးပေါ့ဗျာ၊ အတိုင်းအဆမဲ့ သက်တော်အနန္တရှည်လို့ အမိတာယုလို့လည်းခေါ်သဗျ၊ သူကလူသားတွေကို တရားဟောဖို့ နိမ္မာနကာယတွေဖြစ်တဲ့ ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမတို့ကိုစေလွှတ်လေ့ရှိသလို နိမ္မာနကာယ ဗုဒ္ဓတွေ တစ်ဆူနဲ့တစ်ဆူအကြား မပွင့်မီကာလမှာလည်း သားတော်ဘုရား အလောင်းဗောဓိသတ္တတွေကို လူ့လောကကိုစေလွှတ်လေ့ရှိသတဲ့ဗျာ"

"အဲဒီဗောဓိသတ္တတွေက လူ့လောကကိုပါရမီဖြည့်ဖို့ လာတာလား"

"မဟုတ်ဖူး ကိုလင်းရဲ့၊ သူတို့က အာဒိဗုဒ္ဓရဲ့သားတော်တွေမို့ သာမန်လူသားတွေလို ပါရမီဖြည့်ဖို့မလိုဘူး။ သစ္စာလေးပါးကို အလို အလျောက် ပိုင်းခြားသိမြင်ပြီးသားတဲ့၊ သက်ရှိဆိုရင် မြူမှုံလောက်တောင် မကျန်အောင် နိဗ္ဗာန်ရွှေပြည်ကို ပို့ဆောင်ပြီး နောက်ဆုံးကျမှ နိဗ္ဗာန်မင်္ဂဖိုလ်ကို မျက်မှောက်ပြုမယ်ဆိုတဲ့ ကရုဏာမေတ္တာတော်အနန္တနဲ့ လောကသား တွေကို ကြည့်ရှုစောင့်ရှောက်ဖို့ ဆင်းသက်လာတဲ့ ကယ်တင်ရှင်မဟာသတ္တ တွေတဲ့ဗျ။ ဗောဓိသတ္တတွေထဲမှာ 'လောကကိုအစိုးရ၍ ကြည့်ရှုစောင်မသူ' လို့ အဓိပ္ပာယ်ရတဲ့ အဝလောကိတေဿရက အထင်ရှားဆုံးပေါ့ဗျာ၊ ဗောဓိသတ္တတွေကို ကယ်တင်ရှင်ကြီးတွေအဖြစ် ယုံစားကိုးကွယ်ကြသလို သတ္တဝါတိုင်းမှာလည်း ဗေဓိသတ္တဖြစ်နိုင်တဲ့ စွမ်းအင်ဓာတ်သဘောတွေ (ဗောဓိဉာဏ်မျိုးစေ့) ရှိကြတယ်လို့ ယူဆဟောပြောလာခဲ့ကြပြန်တယ်"

"ဒါဆို အဲဒီအပယ်ခံ ဗုဒ္ဓဘာသာဂိုဏ်းကွဲတွေထဲမှာ ဗောဓိသတ္တတွေ အတော်ပေါမှာပေါ့နော်"

"ဗောဓိသတ္တတွေပေါ်ဆို ဗုဒ္ဓဘာသာဝင်တိုင်းဟာ ဘုရားဆုပန် ကြရမယ်၊ ဘုရားအဖြစ်ကိုရလို့ သတ္တဝါတွေကိုတရားဓမ္မဟောကြား၊ ချွေချွတ်ပြီးမှ ပရိနိဗ္ဗာန် ပြုကြရမယ်၊ ဒါမှ မြင့်မြတ်တဲ့လမ်းစဉ်ကို ကျင့်သုံးရာ ရောက်တယ်ဆိုတဲ့အယူဝါဒတွေပါ တစ်ဆက်တည်းထွန်းကားလာခဲ့ ကြတယ်ဗျ"

"ရိုးရိုးရဟန္တာဘဝ၊ ပစ္စေကဗုဒ္ဓဘဝမျိုးနဲ့ နိဗ္ဗာန်မင်္ဂဖိုလ်ကို မျက်မှောက်ပြုချင်သူတွေကျတော့ ဘယ့်နှယ်လုပ်မတုံး"

"အဲဒီလူတွေဟာ တစ်ကိုယ်ကောင်းဆန်ပြီး စိတ်ဓာတ်ရေးရာ အောက်တန်းကျသူတွေဖြစ်တယ်လို့ ဘုရားအလောင်းဝါဒီတွေက ဖိနှိမ်

ပြောဟောလာကြတယ်ဗျ။ ဒီလိုနဲ့ အပယ်ခံဗုဒ္ဓဘာသာ ဂိုဏ်းကွဲတွေထဲမှာကိုပဲ ဘုရားအလောင်း (ဗောဓိသတ္တ) ဝါဒ လက်ခံသူတွေကတော့ သူတို့ကိုယ်ကိုသူတို့ ကြီးကျယ်မြင့်မြတ်တဲ့လမ်းစဉ်ကိုလိုက်သူတွေလို့ အဓိပ္ပာယ် ရတဲ့ မဟာယာနဝါဒီတွေလို့ သမုတ်ကြပြီး ဘုရားအလောင်းဝါဒလက်မခံသူကိုတော့ နိမ့်ကျတဲ့လမ်းစဉ်ကိုလိုက်သူတွေလို့ အဓိပ္ပာယ်ရတဲ့ ဟီနယာနဝါဒီတွေအဖြစ် ချိုးနှိမ်ခေါ်ဝေါ်ခဲ့ကြတယ်။ အဲဒီလို အိန္ဒိယပြည်အနောက်နဲ့ အနောက်မြောက်ဘက်၊ အခုခေတ်တော့ ပါကစ္စတန်နဲ့အာဖဂန်ဒေသတစ်ဝန်းမှာအခြေကျနေတဲ့ ဗုဒ္ဓဘာသာဂိုဏ်းကွဲတွေအကြား မဟာယာန၊ ဟီနယာန၊ ကသ္မီယ၊ ဂန္ဓရ စတဲ့ဝါဒ၊ ဌာနလိုက်ပြီး အစိတ်စိတ်အမွာမွာကွဲနေတာကိုမရှုဆိတ်နိုင်တဲ့ ကုရှန်းမျိုးနွယ်ဂန္ဓာရပြည့်ရှင် ကန်နစ်သျှကမင်းကဂိုဏ်းပေါင်းစုံစုစည်းပြီး သင်္ဂါယနာတင်ဖို့အကြံရလာခဲ့တယ်"

"ကန်နစ်သျှကမင်းဆိုတာ ကျွန်တော်တို့မြန်မာဗေဒင်ကျမ်းတွေမှာ သာလိဝါဟနသကမင်းလို့ထင်ရှားတဲ့ ပုဂ္ဂိုလ်ပဲမဟုတ်လား"

"ဟုတ်ပါတယ်၊ သူက သဗ္ဗတ္တိဝါဒဂိုဏ်းက အရှင်ဝသုမိတြနဲ့ အရှင်အသဃောသတို့ကို သံဃနာယကနေရာထားပြီး သာသနာသက္ကရာဇ် (၆ဝဝ) လောက်မှာ သင်္ဂါယနာတင်ခဲ့တယ်၊ ဒါဟာ အပယ်ခံဂိုဏ်းတွေအဖို့ နောက်ဆုံးနဲ့တတိယအကြိမ်မြောက် သင်္ဂါယနာလို့ဆိုရမှာပဲ၊ ဒီနောက်မှာတော့ ကာလဒေသ ရွေ့လျောပြောင်းလဲလာတာနဲ့တကွ အယူဝါဒတွေ ကွဲလွဲလာလိုက်ကြတာ အခုခေတ်တိုင်အောင် ဘယ်လိုမှစုစည်းညှိနှိုင်းလို့မရတော့တဲ့အခြေအနေ ရောက်သွားတော့တာပဲဗျာ"

"ဒါ့ထက် အဲဒီသင်္ဂါယနာပွဲမှာ ဘယ်ဘာသာစကားကို သုံးခဲ့ကြတာလဲဗျ၊ ကျွန်တော်တို့ဆီက ပါဠိတော်တွေကိုပဲလား"

"မဟုတ်ဘူး ကိုလင်းရဲ့၊ ဗြာဟ္မဏဝါဒီတွေသုံးလေ့ရှိတဲ့ သက္ကတဘာသာနဲ့ သင်္ဂါယနာတင်ခဲ့ကြတာ။ အခု နီပေါ၊ ဘူတန်၊ တိဗက်၊ တရုတ်၊ ဂျပန်စတဲ့ မြောက်ပိုင်းဗုဒ္ဓဘာသာနိုင်ငံတွေမှာရှိတဲ့ မဟာယာနပိဋကတ်အများစုဟာ သက္ကတဘာသာကနေ ပြန်ဆိုခဲ့ကြတာပဲ"

"အေးဗျ၊ ဒါ့ကြောင့်ထင်တယ်၊ အဲဒီနိုင်ငံတွေက ဗုဒ္ဓဘာသာနဲ့ ပတ်သက်တဲ့ အခေါ်အဝေါ်ဝေါဟာရတွေဟာ သက္ကတဘာသာရဲ့အရိပ်အငွေ့မကင်းတာတွေ့ရတယ်၊ ဥပမာ-တိဗက်က ပင့်ဆောင်လာတယ်ဆိုတဲ့ ဆင်းတုတော်တစ်ဆူရဲ့ဘွဲ့က 'မဟာသွံသာရ' ဆိုလားပဲ"

"ဟုတ်တယ်၊ ကျွန်တော်တို့ ထေရဝါဒပိဋကတ်သုံး ဘာသာ

စကားက မာဂဓဘာသာစကားဗျ၊ မဟာယာနနဲ့ ထေရဝါဒပိဋကတ်တို့ အကြား အယူအဆသာမဟုတ်ဘဲ သုံးစွဲတဲ့ဘာသာစကားပါ ကွဲပြားခြား နားမှုရှိတာကိုတွေ့ရတယ်။ သဗ္ဗတ္ထိဝါဒဂိုဏ်းသား အရှင်အသဃောသဟာ သူကိုယ်တိုင် သက္ကတဘာသာနဲ့စီရင်ခဲ့တဲ့ ဗုဒ္ဓစာရိတကျမ်းစာကိုပါ သူတို့ရဲ့ သင်္ဂါယနာတင်ပွဲမှာ ဘုရားဟောပိဋကတ် အဆင့်မျိုးမှာထားပြီး အတည်ပြု ပေးခဲ့တယ်လို့ မှတ်တမ်းအချို့ကဆိုတယ်"

"ဗုဒ္ဓစာရိတကျမ်းစာရဲ့ အလိုကကော ဘယ်လိုများတုံးဗျ"

"ဗုဒ္ဓရဲ့ ဖြစ်စဉ်တွေကို ဖတ်ချင်စဖွယ် သာယာနာပျော်ဖွယ်ကောင်း အောင် ရေးသားစပ်ဆိုထားတဲ့ အလင်္ကာကျမ်းကြီးပေါ့ဗျာ၊ မှုသားမပါ လင်္ကာမချောဆိုသလို ဗုဒ္ဓရဲ့ဖြစ်စဉ်တွေကိုရေးသားရာမှာ သူ့ရဲ့စိတ်ကူး ယဉ်ချက်တွေကိုပါဖြည့်စွက်ပြီး ရေးသားခဲ့တာပေါ့။ အဲဒီမှာ အယူအဆ ပိုင်းနဲ့ပတ်သက်ပြီး အရေးကြီးတဲ့အချက်တစ်ရပ်ကို တွေ့ရတာကတော့ ဗောဓိသတ္တချီးမွမ်းခန်းတွေပဲဗျ၊ ဗောဓိသတ္တရဲ့ ကြီးကျယ်မြင့်မြတ်မှုကို အမွှမ်းတင်ရင်း ဗောဓိသတ္တဆိုတဲ့ ဘုရားအလောင်းဖြစ်ရေးလမ်းစဉ် မှန်ကန်ကြောင်း အတည်ပြုပေးခဲ့တာပေါ့ဗျာ။ အဲဒီကျမ်းမှာ ဗုဒ္ဓမြတ်စွာကို လောကရဲ့ အရှင်သခင်အဖြစ်လည်း သုံးနှုန်းရေးသားထားတာ တွေ့ရတယ်"

"ဒါဟာ ဗုဒ္ဓကိုဖန်ဆင်းရှင်၊ ကယ်တင်ရှင်အသွင် ပြောင်းလိုက် တာပဲ"

"အရှင်အသဃောသက သာဝကယာန၊ ပစ္စေကယာနဆိုတဲ့ သာမန်ရဟန္တာဘဝ၊ ပစ္စေကဗုဒ္ဓါဘဝနဲ့ ပရိနိဗ္ဗာန်စံဝင်ရေးလမ်းစဉ်ထက် ဗုဒ္ဓယာနလို့ခေါ်တဲ့ သဗ္ဗညုဗုဒ္ဓဖြစ်အောင်အားထုတ်ပြီး သတ္တဝါအပေါင်းကို ကယ်တင်ချွတ်ချွတ်ရေးလမ်းစဉ်ဟာ အလွန်တရာသာလွန်မြင့်မြတ်တယ်၊ သူကိုယ်တိုင်လည်း အဲဒီမြင့်မြတ်တဲ့ မဟာယာနလမ်းစဉ်ကို လိုက်နာ ကျင့်သုံးနေတယ်ဆိုတဲ့အကြောင်းတွေကိုပါ ရေးသားသီကုံးသွားခဲ့ တယ်ဗျ"

"ကဗျာဆရာအရှင်အသဃောသက သူ့ရဲ့ဗုဒ္ဓစာရိတထဲမှာ မဟာယာနဝါဒရဲ့မျိုးစေ့ကို ချပေးခဲ့တာပဲနော်"

"မှန်တာပေါ့ ကိုလင်းရာ၊ အဲဒီဝါဒရဲ့အကျိုးဆက်ကတော့ 'ကိုယ့်ကိုယ်ကို ဘုရားလောင်းအဖြစ် ခံယူထားတဲ့ရဟန်းတွေဟာ သူတို့က ဘုရားဖြစ်မယ့်သူတွေမို့ သာမန်ရဟန်းတွေထက်မြတ်တယ်၊ တစ်ဘဝတည်း ကျင့်ကြံအားထုတ်ပြီး နိဗ္ဗာန်ကိုမျက်မှောက်ပြုနိုင်ပါရက်နဲ့ သတ္တဝါတွေ အပေါ် အတိုင်းမသိညာတာတဲ့ ကရုဏာအနန္တနဲ့ ဘုရားဖြစ်တဲ့အထိ ဘဝ

အဆက်ဆက် ပါရမီဖြည့်ကျင့်မယ့်သူတွေမို့ သာမန်ရဟန်းတွေလို ဝိနည်းသိက္ခာပုဒ်တွေကို လိုက်နာနေစရာမလိုတော့ဘူး' လို့ ခံယူလာကြတယ်။ တချို့ဆို ရဟန်းလို့သာအမည်ခံထားပေမယ့် နေချင်သလိုနေ၊ ဝတ်ချင်သလိုဝတ်နဲ့ စည်းလွတ်ဝါးလွတ်ဖြစ်လာကြတယ်၊ ဝိနည်းအသစ်အဆန်းထွင်တဲ့လူတွေကထွင်လာကြတယ်"

"ကျွန်တော်တို့ဆီက လူဝတ်ကြောင်တချို့ သူတို့ကိုယ်ကိုသောတာပန်ဖြစ်နေပြီမို့ ပုထုဇဉ်ရဟန်းတွေကို ဦးချဝတ်ပြုနေစရာမလိုတော့ဘူး၊ လူဝတ်ကြောင်ပေမယ့် ပုထုဇဉ်ရဟန်းထက်မြင့်မြတ်သွားပြီဆိုတဲ့အယူအဆမျိုးနဲ့ ခပ်ဆင်ဆင်ပဲဗျနော"

"နှိုင်းယှဉ် စဉ်းစားသင့်တဲ့ကိစ္စတစ်ရပ်ပဲပေါ့ ကိုလင်းရာ၊ တစ်ချိန်တည်းမှာပဲ ဂရိနွယ်ဖွားဂန္ဓာရတိုင်းသားတွေရဲ့ ပန်းပုထုလုပ်မှုအတတ်ပညာထွန်းကားလာမှုနဲ့အတူ သကျမုနိဂေါတမဗုဒ္ဓ၊ အရိမေတ္တေယျဘုရားအလောင်းနတ်သား၊ အဝလောကိတေသွရစတဲ့ သူတို့ကိုးကွယ်ရာပုဂ္ဂိုလ်တွေရဲ့ပုံသဏ္ဌာန်ကို ကျောက်ဆစ်ရုပ်တွေထုလုပ်လာကြတယ်။ ပြီးတော့ကိုးကွယ်ဝတ်ပြုမှုတွေလုပ်လာကြတယ်။ ဗြာဟ္မဏဝါဒီတွေက သူတို့ကိုးကွယ်ရာနတ်ဘုရားကြီးတွေကို ပန်း၊ ရေချမ်း၊ ဆွမ်း၊ ဆီမီးကပ်လှူပူဇော်ကြတဲ့ **ဘက္တိ** *(Bhakti)* အယူအဆကိုအတုယူပြီး ဗုဒ္ဓဘက္တိကို တီထွင်လာကြပြန်တယ်လေ"

"အင်း . . . ဗုဒ္ဓရုပ်ပွားတော်ကိုးကွယ်မှုအစ မဟာယာနကလို့ဆိုရမှာပဲ၊ မဟာယာနဆိုတာကလည်း မူရင်းဗုဒ္ဓဝါဒကိုဟိန္ဒူဗြာဟ္မဏဝါဒနဲ့ ဂရိအတွေးအခေါ်တွေ ရောမွှေထားတာဆိုတော့ ဗုဒ္ဓရုပ်ပွားကိုးကွယ်မှုဆိုတဲ့ အသွင်သဏ္ဌာန်လောက်ပဲကျန်ခဲ့ပြီး အနှစ်သာရမှာတော့ မှားယွင်းဖောက်ပြန်တဲ့အယူတွေကသာ လွှမ်းမိုးထားတာပဲမဟုတ်လား"

"မှန်တာပေါ့ ကိုလင်းရာ၊ မဟာယာနဂိုဏ်းကွဲတစ်ချို့ဟာ ဘယ်လောက်အထိ ဖောက်ပြန်သွားသလဲဆိုရင် ဗုဒ္ဓမြတ်စွာထက်တောင် သူတို့ရဲ့ကယ်တင်ရှင်ဗောဓိသတ္တ အဝလောကိတေသွရက ပိုပြီးမြင့်မြတ်တယ်လို့ယူဆလာကြတယ်။ ဗုဒ္ဓဘုရားရှင်ကို အဖြစ်လောက်သာကိုးကွယ်ပြီး အဝလောကိတေသွရကို အထွတ်အမြတ်ထားလာကြတယ်။ အဝလောကိတေသွရကိုပဲ သူပိုင်ဆိုင်တဲ့စွမ်းအင်သတ္တိတွေအပေါ်ရည်စူးပြီး နာမည်အမျိုးမျိုးပေး၊ ပုံသဏ္ဌာန်အမျိုးမျိုး၊ မုဒြာအဖုံဖုံနဲ့ ထုလုပ်ကိုးကွယ်လိုက်ကြတာ စုစုပေါင်း (၁ဝ၈)မျိုးအထိ ရှိခဲ့တယ်ဆိုပဲ"

“အဲဒီ အဝလောကိတေသွရ ဘုရားအလောင်းကိုးကွယ်မှုဟာ ကျွန်တော်တို့ မြန်မာပြည်ကိုရော ရောက်ခဲ့သေးသလားဗျ”

“ဟာ. . သိပ်ရောက်ခဲ့တာပေါ့ ကိုလင်းရာ၊ ပုဂံပြည်မှာ မဟာယာန အနွယ် တန္တရ၊ မန္တရဂိုဏ်းဝင်အရည်းကြီးတွေ ကောင်းစားခဲ့စဉ်အခါက ဆိုရင် အဝလောကိတေသွရ၊ မဥ္ဇုသီရိ စတဲ့ဗောဓိသတ္တရုပ်ပုံတွေကို ထုလုပ် ရေးဆွဲ ကိုးကွယ်ခဲ့ကြတာပဲ။ အထူးသဖြင့် အပယ်ရတနာ၊ မြင်းကပါ၊ ဂူပြောက်ကြီး၊ မင်းနန်သူက ဘုရားသုံးဆူနဲ့ နန္ဒပညာဘုရားတို့မှာ တွေ့နိုင် တယ်။ ပုဂံက လောကဥဒ်းချောင်ဘုရားမှာဆိုရင် အဝလောကိတေသွရရဲ့ ကိုယ်ပွားတစ်ဦးဖြစ်တဲ့ လက်ရှစ်ဖက်ပိုင်ရှင် ဝဇိရပါဏိဗောဓိသတ္တပုံကို တွေ့ နိုင်တယ်။ ပုဂံမှာ မိုးခေါင်တဲ့အခါ အရည်းကြီးတွေဦးဆောင်မှုနဲ့ ပုဂံသား တွေဟာ ဝရဇိန်လက်နက်ပိုင်ရှင် ဝဇိရပါဏိဗောဓိသတ္တကို ပူဇော်ပသလေ့ ရှိကြတယ်ဆိုပဲဗျ။ အဝလောကိတေသွရကိုပဲ ပုဂံကစေတီပုထိုးတချို့မှာ လောကနတ်လို့ ကျွန်တော်တို့ခေါ်လေ့ရှိတဲ့ လောကနာထဗောဓိသတ္တ အဖြစ်နဲ့ ရေးဆွဲထုလုပ်ထားတာ တွေ့နိုင်ပါတယ်။ အခုခေတ်မှာတောင် ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓဘာသာဝင်တချို့ဟာ ဘုရားအလောင်း ဆင်းတု တချို့ကို ဘုရားဆင်းတုတော်အမှတ်နဲ့ မှားယွင်းပြီးကိုးကွယ်ပူဇော် နေကြတာ မကြာခဏတွေ့နိုင်ပါသေးတယ်။ အမှန်တော့ အဝလောကိ တေသွရဆိုတာကလည်း ဗြာဟ္မဏဝါဒီတို့ရဲ့ နတ်ဘုရားကြီးသိဝ (ခေါ်) မဟေသရကို အပယ်ခံဗုဒ္ဓဘာသာ ဂိုဏ်းသားတွေက အတုယူဖန်တီးထား တာပဲဆိုတာ ဆက်စပ်တွေးခေါ်ကြည့်ရင် သိနိုင်ပါတယ်”

“မဟေသရမှာ သူ့ရဲ့ရှတ်ကတိ(သတ္တိ)ကို ကိုယ်စားပြုတဲ့ ကြင်ရာတော်ပဗ္ဗတီ (ခေါ်) ကာလီနတ်သမီးကြီးရှိတယ်ဗျ၊ အခု မဟာယာန တို့ရဲ့ အဝလောကိတေသွရဗောဓိသတ္တမှာကော ကြင်ရာတော် ရှိရဲ့လား”

“ရှိပါ့ဗျာ၊ အဝလောကိတေသွရရဲ့ ကြင်ရာတော်ကတော့ ပညာ ပါရမီတာနတ်သမီးတဲ့လေဗျာ။ ပညာဉာဏ်နဲ့ကယ်တင်နိုင်တဲ့ အစွမ်း သတ္တိရှိသူလို့လည်း အဓိပ္ပာယ်ရသဗျ။ ဒါ့အပြင် အဝလောကိတေသွရမှာ ခမည်းတော်အမိတာဘာနဲ့ မယ်တော်ပါဏ္ဍရာနတ်ဘုရားမကြီးတို့တောင် ရှိသေးဗျ”

“ဟုတ်ပါ့မလားဗျာ၊ ကျွန်တော်တို့ဆီမှာခေတ်စားနေတဲ့ တိဗက်က လာတဲ့ဂါထာလေဗျာ၊ ဘာတဲ့ ‘ဥုံ မဏိပဒ္ဒ မေဟုံ’ ဆိုတဲ့ အဝလောကိ တေသွရကို ပူဇော်တဲ့ဂါထာမှာဖြင့် အဝလောကိတေသွရက ကြာပွင့်ထဲက

မွေးဖွားလာတာဆိုဗျ”

“ကြာပွင့်ဆိုတာ တင်စားချက်တစ်ခုပါဗျာ၊ အမှန်က တန္တရဂိုဏ်းဝင်တွေဟာ ကြာပွင့်ကိုအနက်အမျိုးမျိုးဖွင့်ကြရာမှာ မိန်းမရဲ့အင်္ဂါဇာတ်ဆိုတဲ့ အနက်ကိုလည်းပေးတယ် ကိုလင်းရေ့”

“ဟာ . . ဒီတန္တရ၊ မန္တရ ဆိုတာတွေကလည်း ရှုပ်မှရှုပ်ပါပဲဗျာ၊ ဒါ့ထက် ကြင်ရာတော်ပညာပါရမီတာနတ်သမီးကရော ဘယ်ကရောက်လာပါလိမ့်”

“ကျွန်တော်ဖတ်ဖူးသလောက် ပြောရရင်တော့ သာသနာသက္ကရာဇ် ခုနှစ်ရာစုဝန်းကျင်မှာ မဟာယာနဝါဒီ မဇ္ဈိမိကဂိုဏ်းခေါင်းဆောင် အရှင်နာဂဇ္ဇုနနဲ့ သူ့ရဲ့အစဉ်အဆက်တွေဟာ ဘုရားအလောင်းလမ်းစဉ်ကို လိုက်နာကျင့်ကြံကြရာမှာ ပညာပါရမီဟာအဓိကကျကြောင်း ဖော်ညွှန်းတဲ့ ပညာပါရမီတာကျမ်းစာတွေကို စီရင်ခဲ့ကြတယ်လို့အဆိုရှိတယ်”

“အရှင်နာဂဇ္ဇုနကလည်း အရှင်အဿဃောသရဲ့ အဆက်အနွယ် မဟာယာနခေါင်းဆောင်တစ်ဦးပဲ ဆိုပါတော့”

“ဟုတ်ပါ့ဗျာ၊ သူဟောခဲ့တဲ့တရားတွေကို နဂါးပြည်ကရခဲ့တာဖြစ်တယ်၊ ဗုဒ္ဓမြတ်စွာရှိစဉ်အခါက အဆင့်မြင့်ကျင့်စဉ်တွေကို လူ့ပြည်မှာမဟောဘဲ နဂါးပြည်မှာဟောခဲ့တယ်လို့လည်း သူ့ရဲ့အဆက်အနွယ်တွေက ယုံကြည်ခဲ့ကြတယ်ဗျ”

“ကြံကြံဖန်ဖန်ဗျာ၊ ဗုဒ္ဓက လောကမှာလူသာလျှင်အမြတ်ဆုံးလို့ ဟောကြားခဲ့ရက်နဲ့ အဆင့်မြင့်ကျင့်စဉ်တရားတွေကို အဟိတ်တိရစ္ဆာန် နဂါးတွေဆီမှာဟောခဲ့ပါ့မလား”

“လူတွေရဲ့ အထင်ကြီးလေးစားမှုကိုလိုချင်လို့ ပရိယာယ်သုံးခဲ့တာဖြစ်ပါလိမ့်မယ်၊ ရှေးခေတ်အခါတုန်းက အိန္ဒိယပြည် ဒေသခံတိုင်းရင်းသားအတော်များများဟာ မြွေတွေကို သူတို့ကိုးကွယ်ရာနတ်တွေအဖြစ် ယူဆခဲ့ကြတယ်၊ ဒေသခံမြွေကိုးကွယ်မှုနဲ့ နောက်ဝင်လာတဲ့အာရိယန်အတွေးအခေါ်တွေ ရောနှောသွားပြီး နဂါးဆိုတဲ့အဆင့်မြင့်သတ္တဝါတစ်မျိုးကို ဖန်တီးလိုက်ကြတာပါပဲ၊ အဲဒီဓလေ့ဟာ ကျွန်တော်တို့ဆီတောင် ရောက်ခဲ့ပြီး မြွေနဂါးရုပ်ကြီးကို တကောင်းဘိုးဘိုးကြီးအဖြစ်နဲ့ ကိုးကွယ်ကြသေးတာပဲ မဟုတ်လား”

“ဟုတ်ပါ့ဗျာ၊ ဗေဒင်ယတြာအရလည်း နဂါးလှည့်နဂါးပတ်တွက်ချက်၊ နဂါးခံတွင်းထဲမကျအောင် ရှောင်ပြီးပြောင်းကြရွေ့ကြတဲ့ အယူ

အဆဟာ အခုအထိရှိသေးတာပဲ၊ လွန်ခဲ့တဲ့ ဆယ်စုနှစ်လောက်ကတောင်မှ ပုဂ္ဂိုလ်တစ်ဦးက သူ့ကိုယ်ကိုသူရဟန္တာဖြစ်နေပြီ၊ နဂါးပြည်ကို သူရောက်ခဲ့ဖူးတယ်၊ ဘာညာလို့မှဲ့ပတ်ပြီး တပည့်တပန်းတွေဆီက ရွှေငွေလက်ဝတ်ရတနာတွေအလှူခံ၊ အလွဲသုံးစားလုပ်လို့ ပါရာဇိကံထိုက်ပြီး သာသနာတော်သန့်ရှင်းရေးမှာ ပါသွားခဲ့ဖူးသေးတာပဲ"

"ဒါလည်း နှိုင်းယှဉ်စဉ်းစားသင့်တဲ့ ကိစ္စတစ်ရပ်ပဲပေါ့ဗျာ၊ အခုန စကားဆက်ရရင် နာဂဇ္ဇုနနဲ့သူ့နောက်လိုက်တွေ စီရင်ခဲ့တယ်လို့အဆိုရှိတဲ့ ပညာပါရမီတာစာပေတွေဟာ မဟာယာနဝါဒီတွေအကြား အတော် ရေပန်းစားလာခဲ့ကြတယ်။ ဒီစာပေတွေရဲ့လိုရင်းကတော့ ဗောဓိသတ္တဟာ သတ္တဝါတွေကိုကယ်တင်ဖို့ မေတ္တာကရုဏာထားရှိရာမှာ ပညာဉာဏ်မပါလို့ မဖြစ်ဘူး၊ ပညာပါရမီကို မဖြစ်မနေဖြည့်ကျင့်ရမယ်၊ ပညာပါရမီနဲ့ မေတ္တာကရုဏာတို့ပေါင်းစည်းမှုနဲ့သာ ပြည့်စုံခြင်းကိုရောက်ပြီး ဗောဓိသတ္တကိစ္စပြီးမယ်ပေါ့ဗျာ၊ မေတ္တာရှင်အဝလောကိတေသွရဟာ အဖိုဓာတ်ဖြစ်ပြီး ပညာပါရမီဟာ အမဓာတ်ဖြစ်တာမို့ အဖိုနဲ့အမပေါင်းစပ်ခြင်းအားဖြင့် မဟာသုခကိုရရှိစေတယ်လို့လည်း နောက်ပိုင်းမှာချဲ့ထွင်ဟောပြောလာခဲ့ကြပြန်တယ်။ ဒီလိုနဲ့ အဝလောကိတေသွရရဲ့ အစွမ်းသတ္တိတစ်ခုဖြစ်တဲ့ ပညာပါရမီကို ဣတ္ထိလိင်ဆောင်စေပြီး ပညာပါရမီတာနတ်သမီးရယ်လို့ ရုပ်ထုတွေထုလုပ်ကိုးကွယ်လာခဲ့ကြတယ်ဗျ"

"ဘုရားအလောင်းကျင့်စဉ်ကိုလိုက်နာသူ ဗောဓိသတ္တတွေအနေနဲ့ သတ္တဝါတွေအပေါ်ထားရှိရမယ့် ကရုဏာတရားကို အဝလောကိတေသွရရုပ်ထုနဲ့သင်္ကေတပြုခဲ့ရာက အဝလောကိတေသွရကိုးကွယ်မှု စတင်ခဲ့ သလိုဖြည့်ဆည်းရမယ့်ပညာပါရမီကို ပညာပါရမီတာနတ်သမီးရုပ်ထုနဲ့ သင်္ကေတပြုခဲ့ရာက ပညာပါရမီတာနတ်သမီးကိုးကွယ်မှု စခဲ့ဟန်တူပါရဲ့"

"ဖြစ်နိုင်တာပေါ့ဗျာ။ အမှန်ကတော့ အဝလောကိတေသွရ နဲ့တကွ ဗောဓိသတ္တရုပ်ထုမျိုးစုံတွေဟာ မဟာယာနဝါဒလာအယူအဆ တွေကို သင်္ကေတအဖြစ်ပုံဖော်ရာက စတင်ခဲ့ပြီး နောက်ပိုင်းကျမှတကယ့် သက်ရှိထင်ရှားနတ်ဘုရားတွေလို့ မှတ်ယူပူဇော်ပသခဲ့ကြတာဖြစ်တယ်လို့ သုတေသီအတော်များများကလည်း ယုံကြည်လက်ခံထားကြတယ်ဗျ"

"ဗောဓိသတ္တနဲ့ သူ့ရဲ့သတ္တိကို အဖိုအမခွဲပုံကတော့ ဗြာဟ္မဏဝါဒနဲ့ အတော်တူသားနော်"

"တူဆို ကိုလင်းရယ်၊ သီဝနတ်ဘုရားကို ကိုးကွယ်တဲ့ ဗြာဟ္မဏဝါဒီ

တန္တရဂိုဏ်းဝင်တွေရဲ့အယူအဆကို မဟာယာနဝါဒီတွေက အတုယူပြီး ဗုဒ္ဓတန္တရကိုတီထွင်ခဲ့ကြတာပဲ။ ဖိုမဆက်ဆံမှုကို ဘာသာရေးကျင့်စဉ်တစ်ရပ် အဖြစ် အသွင်ပြောင်းယူထားတဲ့ ဗြာဟ္မဏဝါဒီ တန္တရဂိုဏ်းသားတွေရဲ့ သိဝနဲ့ ကာလီမယ်တော် လိင်အင်္ဂါချင်းယှက်တင်ပုံ ထုလုပ်ကိုးကွယ်တဲ့ဓလေ့ကို အတုယူပြီး ဗုဒ္ဓတန္တရဂိုဏ်းသားတွေကလည်း အဝလောကိတေသွရနဲ့ ပညာပါရမီတာနတ်သမီးတို့ တစ်ဦးကိုတစ်ဦးပွေ့ဖက်ယှက်တင်နေတဲ့ ပုံမျိုးတွေ ထုလုပ်ကိုးကွယ်လာခဲ့ကြပြန်တယ်။ အဲဒါကို မဟာယာန အနွယ်ဝင် တန္တရဂိုဏ်းသားတွေက မဟာမုဒြာလို့ခေါ်ကြတယ်။ တိဗက် မှာတော့ အဖေနဲ့အမေလို့အဓိပ္ပာယ်ရတဲ့ **ယက်ယုံ** *(Yabyum)* လို့ ခေါ်ကြ တယ်ဆိုပဲ။ တန္တရဂိုဏ်းသားတွေဟာ အဲဒီမဟာမုဒြာကို စူးစူးစိုက်စိုက် ကြည့်ပြီး ကမ္မဋ္ဌာန်းထိုင်လေ့ရှိကြတယ်ဗျ"

"အေးဗျ၊ ခေတ်သစ် ခနရှင်နိုင်ငံကြီးတစ်ချို့က တရုတ်နဲ့ဂျပန် အမျိုးသားပိုင် စတိုးဆိုင်ကြီးတွေမှာတောင် လူယောကျ်ားနဲ့မိန်းမ သံဝါသ ပြုနေပုံ ဆင်စွယ်ရုပ်ထုလေးတွေကို လာဘ်ရွှင်တယ်ဆိုပြီး အဆောင်အဖြစ်နဲ့ တရိုတသေ အထွတ်အမြတ်ထားတတ်တဲ့အကြောင်း ကျွန်တော်ဖတ်ဖူး တယ်၊ ဒီအယူအဆဟာလည်း ကိုဝင်းပြောတဲ့တန္တရဝါဒအငွေ့အသက် မကင်းဘူးထင်တယ်"

"ဖြစ်နိုင်တာပေါ့ကိုလင်းရာ၊ အဝလောကိတေသွရနဲ့ ပညာ ပါရမီတာနတ်သမီးကိုးကွယ်မှုဟာ သာသနာသက္ကရာဇ် ရှစ်ရာစုဝန်းကျင်မှာ တရုတ်ပြည်ကို ရောက်သွားခဲ့တယ်။ သာသနာသက္ကရာဇ် တစ်ဆယ်ရာစု လောက်ရောက်တော့ မဟာယာနဗုဒ္ဓဘာသာဟာ တရုတ်ပြည်မှာ စနစ်တကျ အမြစ်တွယ်ခဲ့ပြီဗျ၊ အဲဒီကမှတဆင့် နောက်ပိုင်းရာစုတွေမှာ ကိုရီးယား၊ ဂျပန် စတဲ့ အရှေ့ဖျားနိုင်ငံတွေကို ပျံ့နှံ့သွားခဲ့တာပဲ။ မဟာယာနရဲ့အရေးအပါဆုံး ကျမ်းတစ်ဆူဖြစ်တဲ့ သဒ္ဓမ္မပုဏ္ဍရိကကျမ်းကို တရုတ်လိုပြန်ဆိုပြီးတဲ့အခါ မှာတော့ မဟာယာနဝါဒဟာ တရုတ်ပြည်မှာ အကြီးအကျယ် ထွန်းကား လာခဲ့တော့တာပေါ့ဗျာ"

"အဲဒီ သဒ္ဓမ္မပုဏ္ဍရိကကျမ်းကို ဘယ်သူပြုစုခဲ့တာတုံး"

"မဟာယာနမှတ်တမ်းတွေကတော့ ကျမ်းပြုဆရာအသင်္ဂလို့ ဆိုကြတယ်၊ အိန္ဒိယပြည်အနောက်မြောက်ဘက် ဂန္ဓာရတိုင်းက ပက်ရှဝါ မြို့သား ပထန်အမျိုးသားတစ်ဦးပေါ့ဗျာ။ သူ့အမည်ရင်းက ဝသုဗန္ဓုဖြစ်ပြီး အဲဒီနာမည်တစ်ခုတည်းကိုပဲ ညီအစ်ကိုသုံးယောက်က ယူထားကြတယ်

ဆိုပဲ။ သာသနာသက္ကရာဇ်ကိုးရာကျော်လောက်မှာ ပေါ်ထွန်းခဲ့ကြပြီး ကသ္မီယတိုင်းက သဗ္ဗတ္ထိဝါဒဂိုဏ်းမှာ အစ်ကိုနှစ်ဦးကရဟန်းခံခဲ့ကြတယ်။ အစ်ကိုကြီးဝသုဗန္ဓုကို ပုဗ္ဗက္ကဝိဒေဟဒေသမှာ အရှင်ပိဏ္ဍောလမထေရ်က ထေရဝါဒကို ဟောပြောသင်ကြားပေးခဲ့ပေမယ့် တရားမရခဲ့ဘူးတဲ့။ ဒါနဲ့ မကျေနပ်လို့ တုသိတာနတ်ပြည်တက်ပြီး အရိမေတ္တေယျဘုရားအလောင်း နတ်သားဆီမှာ တရားသွားနာတော့မှ တရားအမြင်ပေါက်သွားသတဲ့။ အဲဒီလိုတရားပေါက်ပြီး တပ်မက်မှုကင်းသူဖြစ်လို့ သူ့ကိုယ်သူအသင်္ဂလို့ အမည်ပြောင်းလိုက်ဆိုပဲ"

"အသင်္ဂစီရင်ခဲ့တယ်လို့အဆိုရှိတဲ့ သဒ္ဓမ္မပုဏ္ဍရိကကျမ်းရဲ့အလို ကရောဗျာ"

"သူတော်ကောင်းတရားကိုပြသောကျမ်းလို့ အဓိပ္ပာယ်ယူနိုင်တဲ့ သဒ္ဓမ္မပုဏ္ဍရိကကျမ်းမှာ ကျမ်းပြုဆရာက ဗုဒ္ဓမြတ်စွာဟာလူသားမဟုတ်ဘူး၊ ကောင်းကင်ဘုံကနတ်ဘုရားဖြစ်တယ်လို့ အတိအလင်းဆိုထားပြီး အသောကမင်းကြီးလက်ထက် တတိယသင်္ဂါယနာတင်စဉ်တုန်းက အပယ်ခံခဲ့ရတဲ့ဝေတုလ္လဝါဒကိုလည်း အမွှမ်းတင်ထားတယ်။ ဝေတုလ္လပုဏ္ဏားတွေ စီရင်ခဲ့တဲ့ဝေတုလ္လပိဋကတ်ကိုလည်း နဂါးပြည်ကယူခဲ့ရတာဖြစ်တယ်လို့ ဆိုထားသေးတယ်ဗျ"

"အသင်္ဂတို့ကလည်း နာဂဇ္ဈုနတို့အနွယ်ပီပီ နဂါးပြည်ဇာတ်လမ်း လေးက ပါလိုက်သေးသကိုး"

"အသင်္ဂဟာ အရိမေတ္တေယျဘုရားအလောင်းက တုသိတာ နတ်ပြည်မှာလေးလတိုင်တိုင် သူ့ကိုနှုတ်တိုက်သင်ပေးလိုက်တဲ့ ကျမ်းလို့ မဟာယာနဝါဒီတွေယုံကြည်ထားတဲ့ ယောဂါစာရဘူမိကျမ်းကိုလည်း ပြုစုခဲ့သေးတယ်ဗျ။ အဲဒီကျမ်းရဲ့ဆိုလိုရင်းကတော့ 'သတ္တဝါတွေမှာ တထတာ ဆိုတဲ့ မဟာဝိညာဉ်တော်ကြီးထဲကခွဲထွက်လာတဲ့ အာလယဝိညာဉ် (ခေါ်) အတ္တကိုယ်စီရှိကြတယ်တဲ့ဗျ။ အဲဒီအတ္တကို ယောဂါစာရအကျင့်တွေနဲ့ အပြစ် ကြေးညှော်သန့်စင်စေခဲ့လို့ရှိရင် နောက်ဆုံးမူလလာရာဌာနဖြစ်တဲ့ တထတာ ဝိညာဉ်တော်ကြီးနဲ့ အပြီးပေါင်းစပ်သွားမယ်၊ အဲဒါ နိဗ္ဗာန်ရောက်တာပဲ' လို့ သူကရေးခဲ့တယ်ဗျ"

"ဒါဟာ ဗုဒ္ဓရဲ့အနတ္တဝါဒကို အတ္တဝါဒအဖြစ် ပြောင်းပြောင်းကြီး ပြောင်းလဲလိုက်တာပဲ"

"အသင်္ဂရဲ့ညီဝသုဗန္ဓုကလည်း သူ့ရဲ့အဘိဓမ္မာကောသအဖွင့်ကျမ်း

တွေမှာ ဗောဓိသတ္တရဲ့ကြီးကျယ်မြင့်မြတ်မှုတွေကို အမွှမ်းတင်ထားခဲ့သေးသဗျ။ သူက ဗောဓိသတ္တတို့ရဲ့ အတိုင်းအဆမဲ့ကရုဏာ မေတ္တာတရားတွေကို လူသားတိုင်း အတုယူသင့်တဲ့အကြောင်း၊ သတ္တဝါတိုင်းမှာ ဘုရားဖြစ်နိုင်တဲ့ ဗုဒ္ဓသဘာဝပါရှိပြီးမို့ ဗောဓိဉာဏ်ရအောင် အားထုတ်ကြဖို့ကိုလည်း တိုက်တွန်းခဲ့တယ်"

"အရှင်ဝသုမိတြ၊ အရှင်အဿဃောသ၊ အရှင်နာဂဇ္ဇုန၊ အရှင်အသင်္ဂ၊ အရှင်ဝသုဗန္ဓု စတဲ့ပုဂ္ဂိုလ်တွေဟာ မဟာယာနဝါဒရဲ့ ရှေ့ပြေးခေါင်းဆောင်တွေဆို မမှားဘူးပေါ့နော်"

"ဒါပေါ့ဗျာ၊ သူတို့ကနေအစပြုပြီး ဆင်းသက်ထွန်းကားလာခဲ့တဲ့ သုခဝတီနိဗ္ဗာန်ဘုံဝါဒဆိုရင် တရုတ်ပြည်နဲ့ဂျပန်ပြည်မှာ လူကြိုက်အများဆုံးဝါဒတစ်ခုဖြစ်ခဲ့တယ်ဗျ"

"သုခဝတီနိဗ္ဗာန်ဘုံဆိုတာ ထေရဝါဒဗုဒ္ဓသာသနာလာ နိဗ္ဗာန်သဘောနဲ့တူရဲ့လား"

"တခြားစီပေါ့ကိုလင်းရာ၊ ထေရဝါဒဗုဒ္ဓသာသနာက လက်ခံထားတဲ့ နိဗ္ဗာန်ဆိုတာ ဘုံဌာနတစ်ခုမှမဟုတ်တာ၊ အသိအမြင်မှားယွင်းမှုနဲ့ စွဲလမ်းတပ်မက်မှုတို့ချုပ်ငြိမ်းရာ အသင်္ခတဓာတ်သက်သက်ပဲ။ ထေရဝါဒနိဗ္ဗာန်က လက်ငင်းဘဝမှာပဲ မျက်မှောက်ပြုနိုင်ပေမယ့် သုခဝတီနိဗ္ဗာန်ဘုံကတော့ ကွယ်လွန်ပြီး နောက်ဘဝမှာမှ ရောက်ရှိနိုင်တဲ့ ဘုံဌာနမျိုးဗျ။ သူတို့ရဲ့ အမိတာဘသုတ္တလို့ခေါ်တဲ့ သုခဝတီဗျူဟာသုတ်မှာဖော်ပြထားပုံက-'အနောက်ဘက်မှာရှိတဲ့ သုခဝတီနိဗ္ဗာန်ပြည်မှာ တရုတ်လို **အိုမိတိုဖူး** *(O Mi ToFu)* လို့ခေါ်တဲ့ အမိတာဘ အာဒိဗုဒ္ဓဘုရားသခင်က ထာဝရစံမြန်း နေတော်မူသတဲ့။ အဲဒီသုခဝတီနိဗ္ဗာန်ပြည်ကို ရောက်သူတိုင်းဟာ နာရာ ယဏစိန်လို မာကျောခိုင်ခံ့ပြီး ထာဝရအသက်ကိုရကြလိမ့်မယ်' လို့လည်း ဆိုထားတယ်။ ဒီအယူအဆကလည်း အဆန်းတော့မဟုတ်တော့ပါဘူး၊ ထေရဝါဒဗုဒ္ဓသာသနာက အကြဉ်ခံရတဲ့ အန္ဓကကိုးဂိုဏ်းထဲက ဝါဇီရိယဂိုဏ်းရဲ့အယူအဆက ဆင်းသက်လာတာပါပဲ"

"အဲဒီ သုခဝတီဗျူဟာသုတ်မှာ အမိတာဘ၊ အဲ တရုတ်လိုဘာတဲ့ . . အိုမိတိုဖူးလို့ခေါ်တဲ့ အာဒိဗုဒ္ဓကြီးရဲ့သားတော် အဝလောကိတေဿရအကြောင်းကောမပါဘူးလား"

"ပါပြီလား ကိုဝင်းရယ်၊ သူက အဓိကဇာတ်လိုက်ကြီးပဲ။ သူ့ကိုတရုတ်လို **ကွမ်ယင်** *(Kwan Yin)* လို့ခေါ်ပြီး ဂျပန်လိုတော့ **ခမ်နွန်**

*(Kam Non)* လို့ခေါ်ကြသဗျ။ အခုန ခင်ဗျားရောက်စက ကန္နားပွဲထဲကနေ ကြေးလင်ပန်းသံတညံညံနဲ့ အပင့်အဖိတ်ခံနေရတဲ့ ကွမ်ယင်မယ်တော် ဆိုတာ သူပဲပေါ့ဗျာ”

“အာဒိဗုဒ္ဓရဲ့ သားတော်ဗောဓိသတ္တက ယောကျ်ားပဲ၊ ဘယ့်နှယ် မယ်တော်ကြီး ဖြစ်သွားရပြန်တာလဲ”

“အဝလောကိတေသွရတစ်ဖြစ်လဲ ကွမ်ယင်ဟာ အစတုန်းက တော့ပုရိသလိင်ပဲဗျ။ တရုတ်ပြည်က ရှေးဟောင်းဗုဒ္ဓဘာသာဘုရားကျောင်း တွေမှာ ကွမ်ယင်ကို နှုတ်ခမ်းမွေးကားကား ကျားကျားလျားလျားနဲ့ ယောကျ်ားသဏ္ဍာန်ထုလုပ်ထားတာ အခုထိတွေ့နိုင်မြင်နိုင်သေးတယ်။ အဲ. . အေဒီ ၈-ရာစုနောက်ပိုင်းကျမှ ကွမ်ယင်ကို ဣတ္ထိယအသွင်ပြောင်းပြီး ထုလုပ်ပူဇော် ကိုးကွယ်လာခဲ့ကြတယ်လို့ မှတ်တမ်းတချို့အရသိကြ ရတယ်”

“အဝလောကိတေသွရရဲ့ အစွမ်းသတ္တိတစ်ခုဖြစ်တဲ့ ပညာ ပါရမီကို အလေးအမြတ်ထားရာက မဟာယာနအနွယ် တန္တရဗုဒ္ဓဘာသာ ဂိုဏ်းတွေက အဝလောကိတေသွရရဲ့ ကြင်ရာတော်ပညာပါရမီတာ နတ်သမီးကြီးအဖြစ် ဣတ္ထိယအသွင်ပြောင်းလိုက်တာမျိုးကော မဖြစ်နိုင် ဘူးလား”

“ဖြစ်နိုင်ပါတယ်၊ မဟာယာန တန္တရဂိုဏ်းသားတွေဟာ ဗြာဟ္မဏ ဝါဒီ တန္တရဂိုဏ်းသားတွေရဲ့ ရှုတ်ကတိ (သတ္တိ) ကိုးကွယ်မှု အယူအဆကို တုပပြီး မယ်တော်နတ်သမီးကြီးတွေ တီထွင်လာခဲ့ကြရာမှာ ပညာပါရမီတာ နတ်သမီးကြီးကို ဘုန်းကြီးတွေသာ ကိုးကွယ်ပူဇော်ခွင့်ရကြတယ်။ ဒါကြောင့် သာမန်လူဝတ်ကြောင်တွေ ကိုးကွယ်ဖို့ဆိုပြီး မဟာဇိနတာရာဒေဝီ နတ်သမီးကြီးကို တီထွင်ပေးခဲ့ကြရပြန်တယ်။ ‘တာရာ’ ဆိုတာ သတ္တဝါ အပေါင်းကို သံသရာတစ်ဖက်ကမ်းရောက်အောင် ပို့ပေးနိုင်တဲ့ ‘အဝလောကိတေသွရရဲ့အစွမ်းသတ္တိ’ ကို ဆိုလိုတယ်လို့ တန္တရကျမ်းတွေ က အဓိပ္ပာယ်ဖွင့်ကြတယ်ဗျ။ တရုတ်ပြည်မှာတော့ မှော်ပညာလေ့လာလိုက် စားတဲ့ တန္တရဂိုဏ်းသားတွေရဲ့ကိုးကွယ်ရာ မဟာဇိနတာရာနတ်ဘုရားမကြီး အဖြစ်ထင်ရှားခဲ့တယ်။ တရုတ်လို ကွမ်ယင်လို့ခေါ်တဲ့ အဝလောကိ တေသွရရဲ့ မျက်ရည်မှာဖြစ်လာတဲ့ ကြာပွင့်ကနေ မဟာဇိနတာရာ နတ်သမီးကြီးကို ဖွားမြင်ခဲ့တယ်။ အဲဒီ မဟာဇိနတာရာကိုပဲ ကွမ်ယင် မယ်တော်အဖြစ် ပြောင်းလဲထုလုပ် ကိုးကွယ်ကြပြန်တယ်’ လို့လည်း အဆိုရှိ သဗျ၊ တချို့သုတေသီတွေ ကလည်း ကွမ်ယင်ကိုပုရိသလိင် ဗောဓိသတ္တ

အဖြစ်ထားစဉ်အခါက တရုတ် ပြည်မှာ အမျိုးသမီးတွေကိုးကွယ်ခွင့်မရခဲ့လို့ နောက်ပိုင်း အမျိုးသမီးတွေပါ ကိုးကွယ်နိုင်အောင် ဣတ္ထိလိင်ပြောင်းပေး ခဲ့တယ်လို့လည်း ဆိုကြပြန်တယ်။ 'ကွမ်ယင်ဟာလောကသားတွေအပေါ် မိခင်တစ်ယောက်က သားသမီးတွေ အပေါ်ထားတဲ့ မေတ္တာကရုဏာမျိုးနဲ့ ကယ်တင်စောင်မ ကြည့်ရှုတတ်လို့ လောကသားအပေါင်းရဲ့ မိခင်အဖြစ်တင်စားပြီး ဣတ္ထိလိင်အသွင်ပြောင်း ထုလုပ်ကိုးကွယ်ကြတယ်' ဆိုတဲ့အဆိုလည်းရှိတယ်။ ကွမ်ယင်နဲ့ပတ်သက်ပြီး ရေးသားထားတဲ့ ဒဏ္ဍာရီပုံပြင်တွေကလည်း များမှများပါပဲ"

"ဘာပဲဖြစ်ဖြစ်ပေါ့ဗျာ၊ ပညာပါရမီတာနတ်သမီး၊ မဟာဇိနတာရာ ဒေဝီ၊ ကွမ်ယင်မယ်တော်စသဖြင့် ဘယ်လိုပဲခေါ်ခေါ် တကယ်တော့သူတို့ အားလုံးဟာ မဟာယာနဗုဒ္ဓဘာသာဝင်တွေကိုးကွယ်တဲ့ အဝလောကိ တေဿရဆိုတဲ့ ဗောဓိသတ္တရဲ့အမည်ခွဲကိုယ်ခွဲတွေပဲ၊ စာရေးဆရာတစ်ဦး တည်းက ယောကျ်ားနာမည်၊ မိန်းမနာမည်အမျိုးမျိုး ကလောင်အမည်တွေ ခွဲထားသလိုပဲ မဟုတ်လား"

"သိပ်ဟုတ်တာပေါ့ဗျာ၊ တကယ်တော့ ကွမ်ယင်မယ်တော်ဆိုတာ ကျွန်တော်တို့မြန်မာပြည်အတွက် ကိုးကွယ်စရာအသစ်အဆန်းတစ်ခု မဟုတ်ပါဘူး။ လွန်ခဲ့တဲ့ နှစ်ပေါင်းကိုးရာကျော်ကတည်းက ဖောက်ပြန်တဲ့ အယူဝါဒတစ်ခုနဲ့အတူ စွန့်ပယ်ခဲ့ပြီးသား ဟောင်းနွမ်းဆွေးမြည့်နေတဲ့ ဘာသာရေးဆိုင်ရာ သင်္ကေတတစ်ခုပါဗျာ"

"ခင်ဗျားက လွန်ခဲ့တဲ့နှစ်ပေါင်း ကိုးရာကျော်လောက် ကတည်းက မြန်မာပြည်မှာ ကွမ်ယင်မယ်တော်ကိုးကွယ်မှု ရှိခဲ့တယ်လို့ ဆိုချင်တာလား"

"ဟုတ်ပါ့ဗျာ၊ အနော်ရထာမတိုင်မီ ပုဂံပြည်မှာကြီးစိုးခဲ့တဲ့ အရည်း တွေဟာ မဟာယာနအနွယ် တန္တရဂိုဏ်းဝင်တွေပဲ။ အဝလောကိတေဿရ ဗောဓိသတ္တကိုးကွယ်မှုအယူအဆဟာ သူတို့နဲ့အတူပါလာခဲ့တာပဲ။ ကွမ်ယင် မယ်တော်ရဲ့ အမည်တစ်မျိုးဖြစ်တဲ့ မဟာဇိနတာရာ နတ်ဘုရားမကြီးရဲ့ပုံကို ပုဂံခေတ်ကတည်ခဲ့တဲ့ အပယ်ရတနာဘုရားမှာ မိဖုရားဝတ်စုံအပြည့်နဲ့ တာရာဒေဝီအဖြစ်တွေ့နိုင်ပါသေးတယ်။ အဲဒီ ဗောဓိသတ္တကိုးကွယ်မှု ထွန်းကားစဉ်ကာလက ဘာတွေဖြစ်ခဲ့တယ်ဆိုတာ ခန့်မှန်းချင်သေးရင် နန္ဒမညာဘုရားထဲမှာ ရေးခြယ်ထားတဲ့ ပုဂံသားတို့ရဲ့ ခေတ်ပြိုင်ခံစားမှု ပန်းချီကားတစ်ခုမှာ ထပ်ပြီးလေ့လာနိုင်ပါသေးတယ်"

"အဲဒီပန်းချီကားက ဘယ်လိုများရေးခြယ်ပြထားလို့တုံး"

"ပုဂံသူအမျိုးသမီးတစ်စု ဝတ်တက်သွားကြတဲ့ပုံပါ၊ အရွယ်လတ် အမျိုးသမီးတွေက ကခုန်မြူးထူးနေသလောက် ပုဂံသူအပျိုပေါက်ကလေး ခမျာ ထိတ်လန့်တုန်လှုပ်ဟန်နဲ့ သူ့မိခင်ဖြစ်ပုံရတဲ့ အမျိုးသမီးကြီးကို မှီတွယ်ပြီး အရည်းကြီးတို့ရဲ့ဘုရားကျောင်းကို လိုက်ပါလာရတဲ့ပုံကို သရုပ်ဖော်ထားတာပဲကိုလင်းရေ့၊ မြန်မာရှေးရိုးပန်းချီ သုတေသီကြီးတွေက ဒီပုံဟာ ပုဂံခေတ်တန္တရဂိုဏ်းဝင် အရည်းကြီးတွေရဲ့ဆိုးဝါးယုတ်မာတဲ့ ပန်းဦးလွှတ်ဓလေ့ဆိုးကို ဖော်ကျူးနေတယ်လို့ ကောက်ချက်ချခဲ့ကြတယ်"

"သိပ်ကို ယုတ္တိတန်တဲ့ကောက်ချက်တစ်ခုပဲ ကိုဝင်းရာ၊ စစ်မှန်တဲ့ ထေရဝါဒဗုဒ္ဓသာသနာကနေ သွေဖည်ဖောက်ပြန်သွားတဲ့ မဟာယာန တန္တရဝါဒရဲ့ဆိုးကျိုးကို ပုဂံသားတွေက ပန်းချီပညာနဲ့ မှတ်တမ်းတင်ပေးသွားခဲ့တာပဲ"

"ဒီလိုမကောင်းတဲ့ မိစ္ဆာဒိဋ္ဌိအယူအဆတွေကိုဖယ်ရှားဖို့ ထေရဝါဒ သံဃာတော် အရှင်အရဟံမထေရ်မြတ်၊ အနော်ရထာမင်းနဲ့တကွ ပုဂံပြည်သားတွေအစဉ်အဆက် ဘယ်လောက်ကြိုးပမ်း အားထုတ်ခဲ့ရတယ်ဆိုတာ ကျွန်တော်တို့မမေ့သင့်ဘူး။ ကျွန်တော်တို့ရဲ့ ဘိုးဘေးဘီဘင်တွေ ကြိုးစားပမ်းစား တည်ဆောက်ပေးသွားခဲ့တဲ့ ထေရဝါဒဗုဒ္ဓသာသနာတော်ကြီးရဲ့ အုတ်မြစ်ကို ဖျက်ဆီးတိုက်စားမယ့် အမှောင့်အဖျက်ဆိုရင် မြူတစ်မှုန် တောင်အဝင်မခံ၊ အတင်မခံသင့်ဘူး။ အခုတော့ ကွမ်းယင်မယ်တော်ကြီး ပေါ့ဗျာ၊ ကြာတော့ သူ့နောက်ကဘယ်သူတွေ လိုက်လာမလဲဆိုတာတွေးကြည့်လေ။ အဝလောကိတေဿရ၊ လောကနာထ၊ ဝဇိရပါဏိစတဲ့ ဗောဓိသတ္တတွေဟာ ထေရဝါဒသာသနိက အဆောက်အအုံတွေပေါ် တက်လာကြလိမ့်မယ်။ အဲဒီနောက်မှာတော့ သူတို့ရဲ့ဖခင်အာဒိဗုဒ္ဓ အမိတာဘာ ထာဝရဘုရားသခင်လိုက်လာလိမ့်မယ် ကိုလင်းရေ့"

"အေးဗျ၊ ကိုယ်တိုင်အားထုတ်ပွားများပါမှ မျက်မှောက်ပြုနိုင်မယ့် ထေရဝါဒနိဗ္ဗာန် အယူအဆနေရာမှာ သုခဝတီဗျူဟာသုတ်ကို ရွတ်ဆိုရုံနဲ့ နိဗ္ဗာန်ရောက်နိုင်တယ်ဆိုတဲ့ သုခဝတီနိဗ္ဗာန်ဘုံဝါဒက အစားထိုးဝင်ရောက်လာရင်တော့ခွပဲ၊ ဗုဒ္ဓဟောကြားခဲ့တဲ့ သီလ၊ သမာဓိ၊ သိက္ခာစောင့်ထိန်းရေးလမ်းစဉ်တွေပျက်ပြီး ဂါထာမန္တန်၊ ဗေဒင်ယတြာ၊ အင်းအိုင်ခါးလှည့်၊ လက်ဖွဲ့တွေကိုသာ အားထားတဲ့ ဗုဒ္ဓသာသနာဖျက် အခါပေးပညာရှင်တွေက အကိုးကွယ်ခံနေရာ ယူလာကြတော့မှာပဲနော်"

"သိပ်သေချာတာပေါ့ဗျာ၊ ကွမ်းယင်မယ်တော်ကို အဓိကကိုးကွယ်

တဲ့ မဟာယာနဂိုဏ်းကလည်း ခင်ဗျား အခုနပြောတဲ့ သုခဝတီဗျူဟာသုတ် ရွတ်ဖတ်ရုံနဲ့ နိဗ္ဗာန်ရောက်တယ်လို့ ခံယူထားတဲ့ သုခဝတီဗျူဟာဂိုဏ်းပဲဗျ"

"ဒီကိစ္စကို ပေါ့ပေါ့တန်တန် သဘောထားလို့တော့ မဖြစ်ဖူးထင်တယ် ကိုဝင်းရေ။ စေတီပုထိုးတချို့ပေါ်မှာဆို ကွမ်ယင်နဲ့ဓာတ်တူနံတူ မဟာယာန၊ တန္တရ၊ မန္တရ ဂိုဏ်းဝင် ပုဂ္ဂိုလ်ကြီးတွေရဲ့ ရုပ်ထုတွေကို ဘုရား ကျောင်းဆောင် နဲ့ အပြိုင်တွေ့နေရပြီ။ ကျွန်တော်တို့ မိရိုးဖလာဗုဒ္ဓဘာသာဝင် အများစုနဲ့အထိ တွေ့ဆုံး သာသနိကဌာနဆိုလို့ ဒီစေတီပုထိုးတွေပဲရှိတာ ဆိုတော့ သူတို့ စိတ်ထဲမှာ စေတီရင်ပြင်ပေါ်မှာတွေ့ရတဲ့ သူရဿတီတို့၊ ကွမ်ယင်တို့၊ ယက္ကန်းစင်တောင်၊ ရှင်မထီး၊ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်တို့ ဆိုတာတွေဟာ တို့ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ ကိုးကွယ်ရာမို့သာ ဒီလို တခမ်းတနား ထား တာပဲလို့ ယူဆကြမှာအမှန်ပဲ။ စစ်မှန်တဲ့ ဗုဒ္ဓသာသနာကနေ သွေဖည် အယူလွဲနေသူတွေရဲ့လက်ရာဆိုတာ သဘောပေါက်မှာ မဟုတ်ဘူး"

"သက်ဆိုင်ရာဂေါပကတွေက ဘာသာရေးအမြင်ကြည်ကြည် လင်လင်နဲ့ ဖယ်ရှားပစ်ဖို့တော့ အချိန်တန်ပြီပေါ့ ကိုလင်းရယ်"

"ဒီကြားထဲ ကွမ်ယင်မယ်တော်ကြီးက ဘယ်လိုမ,စလိုက်ပြန်ပြီ၊ ဘယ်သူကဖြင့် ကွမ်ယင်မယ်တော်ကို သက်ရှိထင်ရှားတွေ့ခဲ့တယ်နဲ့ မဟာ ယာနဝါဒဖြန့်တဲ့ဆရာတွေကလည်း ဖြန့်ကြပြန်သကိုးဗျ"

"ကျွန်တော်ဖတ်ဖူးတာဖြင့် အေဒီ ၇-ရာစုလောက်က မဇ္ဈိမဒေသ ကို ခရီးထွက်ခဲ့တဲ့ တရုတ်ရဟန်းတော် ဟူယင်ဆင်ဟာ ဂိုဘီသဲကန္တာရထဲ အရောက်မှာ မှင်စာအခြောက်ခံရဆိုပဲ။ သူလည်းကြောက်လန့်ပြီး ကိုးကွယ်ရာ ကွမ်ယင်ကိုတတဲ့ပြီး ဆုတောင်းတာတောင်မရဘူးတဲ့။ ဒါနဲ့ ပညာပါရမီတာ သုတ်ကို ရွတ်ဖတ်သရဇ္ဈာယ်လိုက်မှ မှင်စာပျောက်သွားတော့တယ်တဲ့ဗျာ"

"မှင်စာတောင် ပြေးအောင်မလုပ်နိုင်တဲ့ ကွမ်ယင်မယ်တော်ကို ဘယ်နေရာ သွားအားကိုးရတော့မှာလဲဗျာ"

"အမှန်က ကွမ်ယင်ဘာမှမစွမ်းသလို မှင်စာကလည်း တကယ် ခြောက်ဟန်မတူပါဘူး။ ခရီးရှည်ထွက်ခဲ့ရလို့ သဲကန္တာရထဲစိတ်ကယောင် ချောက်ချားဖြစ်ခဲ့တာကို မှတ်တမ်းတင်ခဲ့ပုံရပါတယ်။ ကွမ်ယင်ကို သက်ရှိ ထင်ရှား မြင်ရတယ်ဆိုတာလည်း ကိုယ့်စိတ်ကိုကိုယ်လှည့်စားမှု တစ်ခုပါဗျာ။ ကိုယ့်စိတ်ကိုကိုယ် လှည့်စားတတ်ရင် ကွမ်ယင်တင်မကဘူး၊ အပြင်လောက မှာတကယ်မရှိတဲ့ ဘယ်သူ့ကိုမဆို သက်ရှိထင်ရှား မြင်တွေ့နိုင်ပါတယ်။ ဒါတွေဟာ ကသိုဏ်းကဝန်း သဘောတွေပါဗျာ"

"ခင်ဗျားဟာက ဟုတ်ပံ့မလား ကိုဝင်းရဲ့"

"မယုံရင် စမ်းကြည့်ပေါ့ဗျာ။ ပြင်ပလောကမှာ သက်ရှိထင်ရှား မရှိသူတစ်ဦးရဲ့ ပန်းချီ၊ ဒါမှမဟုတ် ဓာတ်ပုံကို ခင်ဗျားရှေ့ချပြီး စူးစူးစိုက်စိုက် အာရုံပြုရှုမှတ်ပေတော့။ အလေ့အကျင့်များလာတာနဲ့အမျှ မျက်စိမှိတ်ထား ရင်တောင် ခင်ဗျားစိတ်ထဲမှာ သူ့ပုံတူကိုမြင်လာရလိမ့်မယ်။ အဲဒီလို စိတ်မှာ မြင်လာရတဲ့နိမိတ်ပုံတူကို အဖန်တလဲလဲအာရုံပြု ရှုမှတ်နိုင်မယ်ဆိုရင် တစ်ချိန်မှာအဲဒီနိမိတ်ပုံကို သက်ရှိထင်ရှားမြင်လာရလိမ့်မယ်။ ကိုယ်အာရုံ ပြုချင်တဲ့အချိန်မှာ သူချက်ချင်းကိုယ့်ရှေ့ ရောက်လာလိမ့်မယ်။ ဒါဟာ ကိုယ့်စိတ်ကိုကိုယ် လှည့်စားချက်တစ်ခုပါဆိုတာသတိမပြုမိဘဲ အမှန် တကယ်ဖြစ်နေတာလို့ မှတ်ယူသွားမိရင်တော့ ခင်ဗျားဦးနှောက်ချောင် သွားပြီသာ မှတ်ပေတော့"

"ဟား . . . ဟုတ်ပြီဗျို့၊ တချို့ ဗုဒ္ဓရုပ်ပွားတော်ကို ကသိုဏ်း ရှုရင်းနဲ့ သတိတရားလွတ်သွားပြီး ဗုဒ္ဓမြတ်စွာကို သက်ရှိထင်ရှားမြင်ရတယ်၊ ဘုရားနဲ့စကားပြောလို့ရတယ် ဆိုတာတွေဖြစ်လာပြီး နောက်ဆုံး စိတ်ရောဂါ ကုဆေးရုံရောက်သွားကြတာပဲ၊ ထာဝရဘုရားရဲ့ ရူပါရုံကိုမြင်ရတယ်။ ကွမ်းယင်ကို သက်ရှိထင်ရှားတွေ့ရတယ် ဆိုတာတွေဟာလည်း ဒီသဘောပဲ ဆိုတာ သေချာတာပေါ့"

"ကိုင်း . . . သေချာရင် မရေရာတဲ့အတွေးအခေါ်၊ အယူအဆ၊ ယုံကြည်ကိုးကွယ်မှုတွေကို စစ်မှန်တဲ့ထေရဝါဒဗုဒ္ဓသာသနာတော်ထဲ ဝင်မလာအောင် သတိတရားနဲ့ဖယ်ရှားပစ်ဖို့က ထေရဝါဒဗုဒ္ဓဘာသာဝင် တိုင်းရဲ့တာဝန်ပဲ ကိုလင်းရေ့။ ဒီလိုမှမဟုတ်ရင် ဗုဒ္ဓဘာသာအမည်ခံ ဖောက်ပြန်တဲ့အယူဝါဒဆိုးတွေကို သုတ်သင်ဖယ်ရှားပြီး ထေရဝါဒဗုဒ္ဓ သာသနာတော်ကို အခြေချပေးခဲ့တဲ့ အရှင်အရဟံ၊ ဘုရင်အနော်ရထာ အမှူးပြုတဲ့ ပုဂံခေတ်မြန်မာပြည်သားတွေအပေါ် သစ္စာဖောက်ရာရောက် တော့မှာပေါ့ဗျာ"

(၇-၅-၉၂)

ဓမ္မရံသီ၊ ၁၉၉၂ခုနှစ်၊ စက်တင်ဘာ၊ အောက်တိုဘာနှင့် နိုဝင်ဘာလ။

# ရွှေကျောင်းပြောင်း၌ ဝမ်းပြည့်စေရန်

"ဟော . . . ကိုလင်းပါလား၊ ထိုင်ဗျာ။ ပြီးခဲ့တဲ့သီတင်းပတ်က ခင်ဗျာ့အလုပ်ကို ကျွန်တော်ရောက်ခဲ့သေးတယ်။ ခရီးထွက်သွားတယ်ဆို"

"ဟုတ်တယ်ကိုဝင်းရေ မနေ့ညကမှပြန်ရောက်တယ်။ ဒီကနေ့ အားလပ်ရက်မို့တော်သေးတာပေါ့ဗျာ။ နားချိန်လေးရသွားတာပေါ့"

"ခရီးသွားခဲ့တဲ့လူဆိုတော့ တွေ့ကြုံခဲ့ရတဲ့ ဒေသန္တရဗဟုသုတ လေးတွေ ဖောက်သည်ချစမ်းပါဦး"

"သိပ်ပြီး လှေလာမှတ်သားချိန်မရခဲ့ပါဘူး ကိုဝင်းရာ၊ မြို့ခံ မိတ်ဆွေတွေလိုက်ပို့လို့ ဘုရားတော့ဖူးခဲ့ရပါတယ်။ အင်း . . . ဘုရားဖူး ဆိုလို့ သတိရတုန်းပြောရဦးမယ်"

"ဆိုစမ်းပါဦးဗျာ၊ ဘာတွေများ ထူးခြားချက်တွေ ကြုံတွေ့ခဲ့ရလို့တုံး"

"ဒီလိုဗျ၊ ကျွန်တော်တို့ရောက်ခဲ့တဲ့မြို့က အတော်လေးငယ်တော့ ဖူးမြော်စရာ စေတီသုံးလေးဆူလောက်သာရှိတဲ့အထဲ ရွှေသက်န်းကပ်နိုင် တာဆိုလို့ ချောင်ကျကျတစ်နေရာက စေတီငယ်တစ်ဆူပဲရှိတာ တွေ့ခဲ့ ရတယ်"

"သမိုင်းဝင်စေတီတော်မို့ မြို့ခံလူထုက အလေးအမြတ်ထား ကြတာထင်ပါရဲ့"

"မဟုတ်ဘူးဗျ၊ ဒီစေတီသက်တမ်းက ရှိလှအနှစ်လေးဆယ်ပေါ့၊ ဒါပေမယ့် သူ့မှာကတခြားစေတီတွေနဲ့မတူတဲ့ ထူးခြားချက်လေးတွေ ရှိသဗျ"

"တန်ခိုးပြတာတို့၊ ရောင်ခြည်တော်ကွန့်မြူးတာတို့ ရှိလို့လား၊ ဒါမှမဟုတ် ဆုတောင်းပြည့်တယ်လို့ ကျော်စောနေလို့လား"

"ခင်ဗျားပြောတာတွေ တစ်ခုမှမဟုတ်ဘူးဗျို့၊ ကျွန်တော်လည်း စိတ်ဝင်စားတာနဲ့ ရင်ပြင်တော်ပေါ်မှာ လျှောက်လှေလာကြည့်တာပေါ့၊ ဗုဒ္ဓမြတ်စွာရုပ်ပွားတော်တွေရှေ့က အလှူခံမှန်ပုံးထဲ ကြည့်လိုက်တော့လည်း တစ်ကျပ်တန်ကလေးတွေ လေး၊ ငါးရွက်စီပဲတွေ့ရတယ်၊ အလှူငွေသိပ်ပြီး ရဟန်မတူပါဘူး"

"မြို့ကလည်းငယ်သကိုးဗျ"

"ဒါနဲ့ ကျွန်တော်လည်း ဟိုဟိုဒီဒီလျှောက်ကြည့်ရင်း တစ်နေရာ အရောက်မှာ ထူးခြားချက်ကြီးတစ်ခုကို တွေ့လိုက်ရတော့တာပါပဲဗျာ"

"ဘာများလဲဗျ"

"တခြားဟုတ်ရိုးလားဗျာ၊ ကျွန်တော်တို့မြို့ရန်ကုန်က စေတီတော် တစ်ဆူနဲ့အလားတူပေါ့၊ ရင်ပြင်ပေါ်မှာ သူတော်စင်များဗိမာန်ဆိုပြီး လုပ်ထားလိုက်တဲ့အဆောင်ကြီးဗျာ၊ စေတီငယ်ငယ်နဲ့တောင် မလိုက်ပါဘူး။ အထဲကရုပ်ထုတွေကလည်း စုံမှစုံပဲကိုဝင်းရေ၊ ရှင်အဇ္ဇဂေါဏ၊ ဘားမဲ့၊ ယက္ကန်းစင်တောင်၊ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စတဲ့ ဝိဇ္ဇာဇော်ဂျီ တပသီ ကြီးတွေရဲ့ လူတစ်ရပ်စာရုပ်ထုကြီးတွေ၊ သူရဿတီ၊ လက်ချမီး၊ ကာလီ၊ မဏိမေခလာ၊ မဟာပိန္နဲစတဲ့ ဟိန္ဒူဗြာဟ္မဏ နတ်သမီး နတ်သားပုံတွေ၊ ဘိုးတော်အန်းကုန်း၊ ကွမ်ယင်မယ်တော်စတဲ့ မဟာယာန တရုတ်ဗုဒ္ဓဘာသာ ဝင်တွေ အများဆုံးကိုးကွယ်လေ့ရှိတဲ့ ဗောဓိသတ္တဆင်းတုတော်တွေ အစုံအစုံပါပဲဗျာ။ ဘယ်ကနေဘယ်လိုလာပြီး ဘာအယူရှိမှန်းမသိဘဲ မ,စတယ်ဆိုတိုင်း ရမ်းသန်းကိုးကွယ်နေကြတဲ့ မဟိန္ဒရာ သူတော်စင်ဆိုတဲ့ ဖကီးရုပ်ပုံကြီးတောင်ပါလိုက်သေးသဗျ"

"ဟား၊ စိတ်ပျက်စရာပါလား ကိုလင်းရာ"

"အံ့မယ် စိတ်မပျက်နဲ့ကိုယ့်လူ၊ ဆက်နားထောင်ဦး၊ အဲဒီစေတီ နားမှာ ဂေါပကလုပ်နေတဲ့မြို့ခံမိတ်ဆွေကို ကျွန်တော်က အခုလို ထေရဝါဒ ဗုဒ္ဓဘာသာနဲ့ မသက်ဆိုင်တဲ့ ကိုးကွယ်ပူဇော်ပသမှုမျိုးတွေကို ဘာလို့လက်ခံ ထားရတာလဲလို့မေးကြည့်တော့ သူကပြုံးပြုံးကြီးလုပ်ပြီး အဲဒီရုပ်တုတွေ ရှေ့ကအလှူခံပုံးတွေကို လက်ညှိုးထိုးပြသဗျ၊ ဒီတော့မှ ကျွန်တော်လည်း မျက်လုံးပြူးသွားတော့တာပဲဗျို့"

"ဘာတွေများ အံ့ဩစရာတွေ့လိုက်ရလို့လဲဗျာ"

"တွေ့ပြီလား ကိုဝင်းရယ်၊ အခုနဗုဒ္ဓရုပ်ပွားတော်ရှေ့ အလှူခံမှန်ပုံး ထဲကနဲ့ဘာဆိုင်လို့တုံး၊ အသေးဆုံးအရွက်က ဆယ့်ငါးကျပ်တန်ပဲ၊ နှစ်ရာတန်တွေဆိုမနည်းဘူး၊ ကျွန်တော်ကြက်သေသေ ဖြစ်နေတုန်း သူက ဆက်ပြီး ဒီမြို့မှာဟောဒီစေတီငယ်လေးကတစ်မူထူးပြီး ရွှေရောင် တဝင်းဝင်းနဲ့သပ္ပာယ်နေနိုင်တာဟာ သူတို့ကျေးဇူးပဲပေါ့တဲ့"

"အို့ဟိုး လက်စသတ်တော့ ထေရဝါဒသာသနာတော်နဲ့ မဆိုင်သူ တွေအတွက် လှူဒါန်းငွေထဲက စိုက်ထုတ်ပြီး စေတီတော်ကို မွမ်းမံပြင်ဆင်

ကြတာကိုး”

“ဒါပေါ့ဗျာ၊ တခြားစေတီလို ရိုးရိုးကြီးလုပ်နေလို့ကတော့ ဗုဒ္ဓရုပ်ပွားတော်ရှေ့ အလှူခံပုံးထဲကကျပ်တန်လေးတွေနဲ့ ဘာသွား ဝယ်လို့ရမှာတုံး၊ ဒါကြောင့် ယုံကြည်သူတွေလည်း ကိုယ့်ယုံကြည်မှု အလျောက် လုပ်ချင်ရာလုပ်နိုင်ကြသလို၊ တစ်ဖက်က စေတီတော်သပ္ပာယ် ထည်ဝါဖို့ ရည်ရွယ်ပြီး အခုလိုပြုထားတာပဲတဲ့”

“ဒီတော့ ကိုလင်းက ဘယ်လိုပြန်ပြီးဆွေးနွေးခဲ့သတုံး”

“ကိစ္စပြတ်နေပြီပဲကိုဝင်းရာ သူတို့ကိုယ်တိုင်က မသင့်လျော်မှန်း သိပေမယ့် တစ်ဖက်ကစေတီတော်အကျိုးအတွက် လုပ်တာဆိုတော့ ဘာမှ ပြန်မပြောသာတော့ဘူးလေ၊ သူတို့ကျွေးမွေးဧည့်ခံတာ စားသောက်ပြီး ပြန်လာခဲ့ရတော့တယ်”

“အင်း . . . ခင်ဗျားကပါ ဒီလိုယုံကြည်ကိုးကွယ် ပူဇော်ပသမှုတွေကြောင့်တိုးပွားလာတဲ့ အလှူငွေတွေနဲ့ စေတီတော်အကျိုးအတွက် ထူးထူးခြားခြား ဆောင်ရွက်နိုင်တာမို့ အကျိုးအမြတ်ရှိတယ်လို့ ယူဆလာခဲ့တယ်ဆိုပါတော့”

“ဟုတ်တယ်လေဗျာ၊ အဲဒီဘိုးမင်းခေါင်တို့၊ ကွမ်ယင်တို့ ဘာတို့ ညာတို့အတွက်အလှူငွေထဲက စိုက်ထုတ်ပြီးမွမ်းမံလို့သာ ဒီစေတီငယ်ဟာ အဲဒီမြို့မှာအသပ္ပာယ်ဆုံး ဖြစ်နေတာပေါ့။ ဗုဒ္ဓရုပ်ပွားတော်ရှေ့ မှန်ပုံးထဲက အလှူငွေနဲ့ဆို ဒါမျိုးအိပ်မက်တောင် မက်ဝံ့စရာမရှိဘူးလေ၊ ဒါကြောင့် ဘာပဲပြောပြော ဗုဒ္ဓသာသနာအတွက် အမြတ်ထွက်တာပေါ့ဗျ”

“ခင်ဗျား အယူအဆတွေမှားနေပြီကိုလင်း၊ အဲဒါ ဗုဒ္ဓသာသနာ အတွက် အကျိုးအမြတ်ထွက်တာမဟုတ်ဘူး။ ရှုံးတာမှ အရှုံးကြီးရှုံးတာ ခင်ဗျ”

“ဟာ၊ ရှုံးတယ်လို့ဆိုရအောင် စေတီအတွက်ဘာများထိခိုက် နစ်နာသွားလို့လဲ”

“ခင်ဗျားတို့က မြင်သာတဲ့ရုပ်ပိုင်းဆိုင်ရာတိုးတက်မှုကို အပေါ်ယံ ရှုပ်ကြည့်ပြီး မြတ်တယ်လို့ယူဆနေပေမယ့် အဲဒီပကာသနတွေအတွက် ဗုဒ္ဓသာသနာတော်ဘက်က ပေးဆပ်လိုက်ရတဲ့ မမြင်သာတဲ့တန်ဖိုးက အဆမတန် ကြီးမားလွန်းလို့ပဲဗျ”

“သူတို့အပြောအရဆိုရင် ဒါတွေလက်ခံလိုက်ပြီးမှ ဘုရားဖူး ပရိသတ်တွေပိုစည်ကား များပြားလာပါသေးတယ်ဗျာ”

"သူတို့က အဲဒီစည်ကားလာတဲ့ ပရိသတ်ဦးရေနဲ့ အလှူငွေကိုသာ မြင်ပြီး အဲဒီပရိသတ်ရဲ့ နှလုံးစိတ်ဝမ်းထဲက ခံယူချက်သဘောထားကိုမှ မမြင်နိုင်ကြဘဲကိုး။ နောက်ပြီး ရုပ်ပိုင်းဆိုင်ရာ တိုးတက်လာတဲ့ ပုံသဏ္ဍာန် တစ်ခုတည်းကိုကြည့်ပြီး အမြတ်ထွက်အကျိုးရှိတယ်လို့ ယူဆတာဟာ ဗုဒ္ဓဝါဒနဲ့ လုံးဝသွေဖည်တဲ့ ကိစ္စတစ်ခုဆိုတာလည်း သတိပြုကြဦးမှပေါ့"

"ကျွန်တော်ကတော့ ဘာအလုပ်ပဲဖြစ်ဖြစ် အမှန်အမှားကို မြင်တွေ့ရတဲ့ အကျိုးရလဒ်နဲ့ပဲ ပိုင်းဖြတ်ချင်တယ်။ အခု အဲဒီစေတီငယ်မှာ ထေရဝါဒ ဗုဒ္ဓသာသနာနဲ့ မသက်ဆိုင်တာတွေ လက်ခံထားတာမှန်ပေမဲ့ အဲဒါတွေကပဲ ထေရဝါဒဗုဒ္ဓသာသနိက အဆောက်အအုံဖြစ်တဲ့ စေတီတော်ကြီး သပ္ပာယ်ကြည်ညိုဖွယ်ရာ ဖြစ်လာအောင် အထောက်အကူ ပြုနေတဲ့အတွက် ဒီလုပ်ရပ်ကို ပညာဉာဏ်နဲ့ပြည့်စုံသူတွေရဲ့ လုပ်ရပ်ဖြစ်ပေတယ်လို့ ချီးမွမ်းမှာပဲ"

"ရယ်စရာတော့ကောင်းနေပြီ ကိုလင်းရေ၊ ခင်ဗျားရဲ့ အယူအဆဟာ ဗုဒ္ဓဝါဒနဲ့ ပြဒါးတစ်လမ်းသံတစ်လမ်းဆိုသလို ခြားနား လှပါတယ်။ တူမယ့်တူ အနောက်တိုင်းမှာ ပေါ်ပေါက်လာခဲ့တဲ့ **ပရတ်ဂမာဝါဒ** (*Pragmatism*) နဲ့သာတူပါလိမ့်မယ်"

"ဘာလဲဗျ၊ ပရက်ဂမာဝါဒဆိုတာ"

"အလွယ်ဆုံးအကျဉ်းဆုံးပြောရရင် ခင်ဗျားအခုနပြောသလို ဘာလုပ်ရပ်ပဲဖြစ်ဖြစ် မြင်သာတဲ့ရလဒ်ကိုသာကြည့်ပြီး အမှားအမှန်ဝေဖန် ဆုံးဖြတ်တဲ့ဝါဒမျိုးပေါ့ဗျာ။ ကောင်းမှု မကောင်းမှု၊ ကုသိုလ် အကုသိုလ် ဆိုတာ ကိုယ့်အတွက်ရုပ်ဝတ္ထုပစ္စည်း အကျိုးအမြတ်ထွက်ခြင်း-မထွက်ခြင်း ပေါ်သာ မူတည်တယ်လို့ ယူဆကြတယ်။ ဘာလုပ်လုပ် ထင်သာမြင်သာတဲ့ အကျိုးအမြတ်ရှိရင် အဲဒီအလုပ်ဟာမှန်တယ်ပေါ့၊ အခုလည်း ဒီကယ်တင်ရှင်ယောင်ယောင် ဘာယောင်ယောင်တွေကို ပူဇော်ပသမှုပြုခြင်းအားဖြင့် လောလောလတ်လတ် ပူဇော်သူရဲ့စိတ်ထဲမှာ မစားရဝခမန်းမျှော်လင့်ချက်တွေ ဖြစ်လာပြီး တိုတောင်းတဲ့ကာလတစ်ခုအထိ ကျေနပ်နှစ်သိမ့်မှုကိုခံစား ကြရတယ်။ တစ်ဖက်ကကြည့်ရင် သူတို့လှူတဲ့အလှူငွေတွေနဲ့ စေတီတော်ကို ပြုပြင်မွမ်းမံ၊ ရွှေသင်္ကန်းကပ်လှူနိုင်ကြတယ်။ ဒါကြောင့် ဒီလုပ်ရပ်တွေဟာ မှန်တယ်လို့ ကောက်ချက်ချတာပဲမဟုတ်လား"

"အေးလေဗျာ၊ ဘယ်လိုပဲဆင်ခြင်တုံတရားနဲ့ချင့်ချိန်ပြီး မလုပ်သင့်ဘူး၊ မှားတယ်လို့ဆိုပေမယ့် လက်တွေ့မှာ အကျိုးအမြတ်တွေ့မြင်နေရ

မှဖြင့် မှန်တယ်လို့ ယူဆရတော့မှာပေါ့”

“ဒါက မျက်မွေးတစ်ဆုံးကြည့်လို့ပါ ကိုလင်းရာ။ တကယ်တော့ ခင်ဗျားတို့တွေ့ခဲ့တဲ့စေတီကို ရွှေသင်္ကန်းတွေကပ်၊ အမျိုးမျိုးခမ်းနား ထည်ဝါအောင်လုပ်တာတွေအားလုံးဟာ ဗုဒ္ဓဘုရားရှင်ကို အာမိသပူဇာနဲ့ပူဇော်တဲ့ အဆင့်ပဲရှိတယ်၊ ဗုဒ္ဓမြတ်စွာသက်တော်ထင်ရှား ရှိစဉ်အခါကလည်း သူ့ကို အမှန်တကယ် လေးစားကြည်ညိုပါတယ်ဆိုရင် ဓမ္မပူဇာနဲ့ပူဇော်ကြဖို့ကိုသာ အခွင့်သာတိုင်းဆုံးမခဲ့ပါတယ်”

“ဓမ္မပူဇာဆိုတာက ဘာလဲဗျ”

“ဓမ္မပူဇာဆိုတာ ဗုဒ္ဓညွှန်ပြခဲ့တဲ့ဓမ္မလမ်းစဉ်နှင့်အညီ ဗုဒ္ဓဘာသာဝင်တိုင်း မိမိတို့ရဲ့ကိုယ်ကျင့်သီလ၊ သမာဓိ၊ ပညာ ပြည့်စုံသည်ထက် ပြည့်စုံအောင် ကြိုးပမ်းအားထုတ်ခြင်းကို ဆိုလိုတာပဲဗျ။ သူတစ်ပါးက လာဖြည့်ဆည်းပေးလို့မရဘဲ ကိုယ်တိုင်အားထုတ်မှသာရနိုင်တဲ့ သီလ၊ သမာဓိ၊ ပညာစွမ်းပကားပြည့်ဝမှုကိုသာ ယုံကြည်အားထားပြီး ကိုယ့်ဘဝ ကြီးပွားတိုးတက်ရေးလမ်းကို တစ်လှမ်းချင်းတက်လှမ်းကြဖို့ပဲ၊ ဒီလို တက်လှမ်းကြသူတွေကို ဟန့်တားဖျက်ဆီးနေကြတဲ့ အကြီးမားဆုံး အန္တရာယ်ကတော့ မိမိရဲ့ကိုယ်ပိုင် သီလ၊ သမာဓိ၊ ပညာ စွမ်းပကားမှတစ်ပါး အခြားမှာ အားထားရာရှာခြင်းပဲဗျ”

“ကိုဝင်းက အခုစေတီပေါ်က သူတော်စင်များဗိမာန်လို့ အမည်ခံထားတဲ့အဆောင်ကြီးထဲက ဖန်ဆင်းရှင်ယောင်ယောင်၊ ကယ်တင်ရှင်ယောင်ယောင်တွေကိုသာ မိမိဘဝတက်လမ်းအတွက် အားထားရာအဖြစ် ယုံကြည်ကိုးစားပြီး ကိုယ့်ရဲ့ သီလ၊ သမာဓိ၊ ပညာကို အားမထားကြတာဟာ ဗုဒ္ဓလိုလားတော်မူတဲ့ ဓမ္မပူဇာနဲ့ပူဇော်မှုကို ကျောခိုင်းဆန့်ကျင်လိုက်တာလို့ ဆိုလိုချင်တာလား”

“သိပ်ဟုတ်တာပေါ့၊ ကိုယ့်ရဲ့သီလ၊ သမာဓိ၊ ပညာ စွမ်းပကားကို အားမကိုး အလေးဂရုမပြုတဲ့လူတွေနဲ့ စုစည်းထားတဲ့လူ့အဖွဲ့အစည်းမျိုး လောက် အန္တရာယ်ကြီးမားတာ လောကမှာမရှိတော့ဘူးဗျ။ ကယ်တင်ရှင်တွေရဲ့စောင်မကြည့်ရှုမှုကိုသာ မျှော်ကိုးပူဇော်ပသနေကြပြီး ကိုယ်ကျင့် သီလမစောင့်ထိန်း၊ တည်ကြည်တဲ့ သမာဓိကမရှိ၊ ပညာလည်းကင်းမဲ့ နေမှတော့ ဒီလူတွေဟာဘယ်မှာလာ ကြီးပွားတိုးတက်ဖို့လမ်း ရှိပါဦးတော့မှာလဲ”

“ဒါဖြင့် ခင်ဗျားတို့ကျွန်တော်တို့ ရွတ်ဆိုနေတဲ့ ဗုဒ္ဓံ - မြတ်စွာ ဘုရားကို၊ သရဏံ - ကိုးကွယ်ရာဟူ၍၊ ဂစ္ဆာမိ - ဆည်းကပ်ပါ၏စသည်ဖြင့် ရတနာ

သုံးပါးကို ကိုးကွယ်အားထားပါကြောင်း ဝန်ခံပြောဆိုနေကြတာကရောဗျာ၊ မိမိကိုယ်ကိုမှတစ်ပါး အားထားရာရှာတာပဲမဟုတ်လား"

"မဟုတ်ဘူးဗျ၊ ရတနာသုံးပါးကို ကိုးကွယ်တယ်ဆိုတာက ဘုရား၊ တရား၊ သံဃာကို ဖန်ဆင်းရှင်၊ ကယ်တင်ရှင် တန်ခိုးက္ကဒ္ဓိပါဒ်ရှင်ကြီးတွေအဖြစ်နဲ့ သူတို့ဆီကကျရောက်လာမယ့် ကောင်းချီးမင်္ဂလာကိုမျှော်ကိုးပြီး ပူဇော်ပသဆုတောင်း ဆုယူပြုနေကြတာမှမဟုတ်ဘဲ။ ဗုဒ္ဓမြတ်စွာကို မိမိဘဝရဲ့လမ်းညွှန်ပုဂ္ဂိုလ် ဆရာသခင်အဖြစ်နဲ့အလေးဂရုပြုကြတာ။ သူ့ရဲ့ ဓမ္မလမ်းစဉ်တွေကို တစ်သဝေမတိမ်း ထိန်းသိမ်းစောင့်ရှောက်နေတဲ့ ရဟန်းသံဃာတော်များရဲ့ လမ်းညွှန်မှုကိုနာခံခဲ့ကြပြီး သီလ၊ သမာဓိ၊ ပညာနဲ့ပြည့်စုံအောင်ကြိုးပမ်းခြင်းကို ဆိုလိုတာပဲဗျ၊ ဗုဒ္ဓမြတ်စွာသက်တော်ထင်ရှားရှိစဉ်အခါက သူ့ကိုယ်သူဖန်ဆင်းရှင်၊ တန်ခိုးရှင်အဖြစ် ဘယ်တုန်းကမှ ဝန်မခံခဲ့ဘူး၊ အခုသူ့ရဲ့နောက်လိုက် သံဃာအစစ်အမှန်တွေကလည်း သူတို့ ကိုယ်ကို တန်ခိုးက္ကဒ္ဓိပါဒ်ရှင်တွေလို့ ထင်ယောင်လာအောင်လုပ်ပြီး လူထုရဲ့ပူဇော်သက္ကာရကိုခံယူမှု မပြုကြပါဘူး"

"အင်း. . . ဒီအတိုင်းဆို အဲဒီစေတီငယ်လေးရဲ့ တိုးတက်ပုံက ဗုဒ္ဓအလိုကျလို့ ပြောလို့ဘယ်ဖြစ်ပါတော့မလဲနော်"

"ဒါပေါ့ကိုလင်းရာ၊ လူတွေအမြင်မှာ ထုံးသင်္ကန်းကနေ ရွှေသင်္ကန်းဖြစ်သွားတာကြည့်ပြီး အကျိုးအမြတ်ထွက်တယ်လို့ ထင်စရာပါပဲ၊ ဒါပေမယ့် ဗုဒ္ဓအလိုတော်နဲ့အညီ ဆန်းစစ်ကြည့်ရင် ဗုဒ္ဓသာသနာအတွက် ကြီးကျယ်တဲ့အရှုံးကြီးပဲ။ ဒီလိုထေရဝါဒနဲ့မသက်ဆိုင်တာတွေကို ကိုးကွယ်ခွင့်ပေးလိုက်လို့ များပြားလာတဲ့ ဘုရားဖူးပရိသတ်ကိုသာမြင်ပြီး သူတို့ရဲ့နှလုံးစိတ်ဝမ်းထဲမှာ တည်ရှိပြည့်ဝနေရမယ့် သီလ၊ သမာဓိ၊ ပညာအရည်အသွေးတွေကျဆင်းနေတာကို မမြင်ကြဘူးမဟုတ်လား၊ တစ်နည်းပြောရရင် ဗုဒ္ဓမြတ်စွာကို ဓမ္မပူဇာနဲ့ပူဇော်လိုတဲ့ ပဋ္ဌာကြာနဲ့တူသူ အထက်တန်းစား ဥပါသကာဗုဒ္ဓဘာသာဝင်တွေလျော့ပါးပြီး အာမိသပူဇာကိုသာ အလေးထားတဲ့ ဒွန်းစဏ္ဍားနဲ့တူသူ အညံ့စားဥပါသကာ ဗုဒ္ဓဘာသာဝင်တွေ တိုးပွားလာအောင် လုပ်ပေးနေတာနဲ့ အတူတူပဲဗျ"

"အေးဗျာ-တန်ဖိုးကြီးမားလှတဲ့ စိတ်ပိုင်းဆိုင်ရာတွေးခေါ်မြော်မြင်မှုအရည်အသွေးနဲ့နှိုင်းစာရင် ဘာမှမဖြစ်လောက်တဲ့ ပကာသနတွေကို ကြည့်ပြီး အမြတ်ထွက်တယ်၊ အကျိုးရှိတယ်လို့ ယူဆမိကြတာဟာ မဟာအမှားကြီးပဲဗျ"

"ဒါကြောင့် ဘာပဲလုပ်လုပ် မြင်သာတဲ့ ရုပ်ဝတ္ထုအကျိုးအမြတ် လောက်ကိုကြည့်ပြီး အမှန်အမှား မဆုံးဖြတ်မိကြဖို့ အရေးကြီးတယ်ဗျ၊ တကယ်တော့လည်း ဘာလုပ်လုပ် အစကတည်းက စင်ကြယ်အောင်လုပ်ပါ လို့ ဗုဒ္ဓမြတ်စွာက လမ်းညွှန်ခဲ့ပြီးသားပါ။ အစကတည်းက မစင်ကြယ်ခဲ့ရင် ထွက်ပေါ်လာတဲ့ရလဒ်ဟာ အမြင်အားဖြင့်ဘယ်လောက်ပင် ခမ်းနား ထည်ဝါ နေပါစေ၊ ရွှေကျောင်းပြောင်ပြောင် ဝမ်းခေါင်ခေါင်ဆိုသလို ဖြစ်နေ တော့မှာပဲ။ ဒီတော့ ခင်ဗျားတို့ ကျွန်တော်တို့အနေနဲ့ ရွှေကျောင်းကြီး ပြောင်ပြောင်ရောင်ရောင် ဖြစ်လာအောင်လုပ်ကိုင်ကြရမှာ ဖြစ်သလို တစ်ဖက် ကလည်း သီလ၊ သမာဓိ၊ ပညာဆိုတဲ့ ဝမ်းစာတရားတွေပြည့်စုံအောင် ကြိုးပမ်း အားထုတ်ဖို့ သန္နိဋ္ဌာန်ပြုရင်း ဒီကနေ့စကားဝိုင်းလေး နားကြဦးစို့ ကိုလင်းရေ"

(၁၉-၅-၉၃)

မဟေ့ရံသီ၊ ၁၉၉၃ခုနှစ်၊ ဩဂုတ်လ။

# အမှန်လမ်းသို့ လှမ်းခဲ့ပါ

"ဟေး. . . ကိုဝင်း၊ ဘာတွေလုပ်နေလဲဗျ"

"ကိုလင်းပါလား၊ ဒီနေ့အလုပ်အားရက်ဆိုတော့ ထုံးစံအတိုင်း ဂျာနယ်တွေ၊ မဂ္ဂဇင်းတွေ တဝကြီးထိုင်ဖတ်နေတာဗျို့ ကဲလာ . . . ထိုင်ဗျာ"

"မဂ္ဂဇင်းဆိုလို့ ပြောရဦးမယ်၊ ခင်ဗျားလည်း သတိထားမိမှာပါ။ အရင်က ရသစာပေကောင်းကောင်းတွေ အဓိကထားဖော်ပြလေ့ရှိတဲ့ မဂ္ဂဇင်းကြီးတွေမှာ အခုဆိုရင် ဂန္ဓာရီဆောင်းပါး၊ ဂန္ဓာရီဝတ္ထုဆိုတာတွေက အတော့်ကို နေရာယူလာကြသဗျ"

"ဟုတ်ပ့ါဗျာ၊ သူတို့ကိုးစားရာ 'အဘ' ဆိုတဲ့ပုဂ္ဂိုလ်ကြီးကလည်း မဂ္ဂဇင်းစာမျက်နှာတွေပေါ်မှာ မရှိမဖြစ်စူပါစတားကြီးကိုဖြစ်လို့ပဲ"

"ဒီကြားထဲ သူသက်ရှိထင်ရှားရှိစဉ်ကတည်းက တပည့်ခံခဲ့သူတွေ ပါလို့ ပြောတဲ့သူအချင်းချင်းကြားမှာ 'အဘ' ကဆံရှည်ထားတယ်၊ 'အဘ' က,ကတုံးဆံတောက်နဲ့ပဲ တစ်သက်လုံးနေသွားခဲ့တယ်နဲ့ မဂ္ဂဇင်းတွေ၊ ဂျာနယ်တွေထဲကနေ ငြင်းခုံနေကြသေးသဗျ"

"လူပုဂ္ဂိုလ်တွေက စာပေပရိယတ္တိ နားမလည်လို့ဆိုရင်ထားပါ တော့။ သာသနာ့ဝန်ထမ်းတစ်ချို့ကတောင် အဲဒီဂန္ဓာရီ 'အဘ'ဓာတ်နဲ့ ကမ္ဘာပတ်ပြီး သာသနာပြုနေပါတယ်လို့ ထုတ်ဖော်ပြောဆိုတာတွေဖတ်ရ တော့ ကျွန်တော်ဖြင့်အတော်အံ့ဩမိတယ်ဗျာ"

"ခင်ဗျားပြောတဲ့ဆောင်းပါးကို ကျွန်တော်လည်း ဖတ်လိုက်ရ ပါသဗျာ။ ဒီပုဂ္ဂိုလ်က 'အဘ' ဆိုတဲ့ လူဝတ်ကြောင် ဂန္ဓာရီဆရာကြီးကို ဘယ်လောက်အထိ ဆရာတင်သလဲဆိုရင် စီးကရက်တောင် 'အဘ' ကြိုက်တဲ့ ငါးသုံးလုံးကိုမှသောက်သတဲ့လေ။ ဒီအကြောင်းသာ ငါးသုံးလုံး စီးကရက် ကြော်ငြာတဲ့လူတွေသိသွားရင် 'အဘ' ငါးသုံးလုံးစီးကရက် ခဲနေတဲ့ပုံနဲ့များ ကြော်ငြာကြဦးမလားမသိဘူး'

"ဟား ဟား ဟား၊ ကိုလင်းကလည်းပြောရော့မယ်။ အဲဒီပုဂ္ဂိုလ်က 'အဘ' ကိုသာမဟုတ်ဘူးဗျ၊ မဟာယာနဗုဒ္ဓဘာသာဝင်တွေ ကိုးကွယ်တဲ့ ကွမ်ယင်မယ်တော်ရုပ်တုကိုပါ သူ့ရဲ့သာသနိကအဆောက်အအုံထဲမှာ

တခမ်းတနား ပူဇော်ထားကြောင်း ရေးထားသေးတယ်။ ထေရဝါဒ ဗုဒ္ဓဘာသာ ရှုထောင့်ကကြည့်ရင် ဘယ်လိုမှယုတ္တိယုတ္တာမရှိ၊ ကိုးကွယ်ရာ စာရင်းလည်းမဝင်တဲ့ ကွမ်ယင်ကို ထေရဝါဒသာသနာ့ဝန်ထမ်း တစ်ဦးက ကိုးကွယ်ထားတာကတော့ အမြင်မတော်ဘူးလို့ထင်ပါတယ်ဗျာ။ သာသနာ တော်ရဲ့ရှေ့ရေးကိုတွေးပြီး ရင်လေးမိတာလည်းအမှန်ပဲ"

"ခင်ဗျားက ဒီလောက်ပဲ ဖတ်ရသေးတာကိုး၊ ဟိုဗေဒင်နက္ခတ် ဆေးမြီးတိုမဂ္ဂဇင်း တစ်ခုထဲမှာဖော်ပြထားတဲ့ 'အဘ' ရဲ့ သာသနာပြုနည်း ကိုရောဖတ်ပြီးပြီလား"

"မဖတ်ရသေးပါဘူးဗျာ၊ လုပ်စမ်းပါအုံး၊ အဲဒီ 'အဘ' ရဲ့ သာသနာပြုနည်းလေး"

"ဂန္ဓာရီ 'အဘ' ရဲ့ လမ်းညွှန်ချက်အတိုင်း သာသနာပြုနေပါတယ် ဆိုတဲ့ လူဝတ်ကြောင်ပုဂ္ဂိုလ်တစ်ဦးရဲ့ ဖွင့်ဟဝန်ခံချက်ဆိုပါတော့ဗျာ။ သူဟာ အစကတော့ 'အဘ' ခိုင်းတဲ့အတိုင်း သာသနာပြုလုပ်ငန်းတွေလုပ်ခဲ့ပုံ၊ နောက်မလုပ်ချင်တော့လို့ ငြင်းဆိုလိုက်တဲ့အခါမှာ 'အဘ' က သူ့ကို ပြစ်ဒဏ်ခတ်ပုံတွေ ရေးထားသဗျ"

"ထေရဝါဒဗုဒ္ဓသာသနာတော်မှာဖြင့် လူကိုပြစ်ဒဏ်ခတ်ပြီး သာသနာပြုတယ်လို့မရှိရပါလားဗျာ။ ကဲဆက်ပါအုံး၊ သူ့ကို သာသနာ ဆက်မပြုလို့ 'အဘ' က ဘယ်လိုပြစ်ဒဏ် ခတ်လိုက်သတဲ့တုံး"

"ကြောက်စရာပဲကိုဝင်းရေ 'အဘ' က သူခိုင်းတဲ့အတိုင်း မလိုက် နာရကောင်းလားဆိုပြီး အဲဒီပုဂ္ဂိုလ်ကို ကိုယ်ပျက်အောင် လုပ်လိုက်သတဲ့ဗျာ၊ ဘာဆေးနဲ့ကုကု မပျောက်တဲ့အဆုံး အဘပြောတဲ့အတိုင်းပြန်ပြီး သာသနာ ပြုလုပ်ငန်းတွေ လုပ်ပါတော့မယ်ဆိုမှ အဲဒီကိုယ်ပျက်ရောဂါ ပျောက်ကင်း သွားသတဲ့ဗျာ"

"ဒါကတော့ ကမ္ဘာပေါ်မှာ ယဉ်ကျေးတဲ့ ဘယ်ဘာသာတရားမှာမှ မကျင့်သုံးတဲ့ သာသနာပြုနည်းကို ဂန္ဓာရီ 'အဘ' က ကျင့်သုံးလိုက်တာပဲ။ ဒီနည်းသုံးပြီး ဗုဒ္ဓသာသနာပြုနေပါတယ်ဆိုတာကဖြင့် ဗုဒ္ဓသာသနာတော်ကို အကြီးအကျယ် စော်ကားလိုက်တာပဲဗျ။ အနူးညွတ်ဆုံး၊ အသိမ်မွေ့ဆုံး၊ မေတ္တာတရားကိုရှေးအရှုဆုံး ဘာသာတရားရယ်လို့ အသိအမှတ်ပြုခံထား ရတဲ့ ဗုဒ္ဓသာသနာတော်ထဲမှာ ဒီလိုသာသနာပြုနည်းမျိုး ရှိနေတယ်ဆိုရင် ကမ္ဘာ့အလယ်မှာ ဘယ်လောက်ရှက်စရာ ကောင်းလိုက်မလဲဗျာ"

"အေးဗျ-တန်ခိုးပြာဋိဟာသုံးပြီး သာသနာပြုတာမျိုးကို စက်ဆုပ်

ရွှံ့ရှာတော်မူတဲ့ ဗုဒ္ဓမြတ်စွာဘုရားသာ သက်တော်ထင်ရှားရှိခဲ့ရင် ဒီလိုယုတ်ညံ့သိမ်ဖျင်းတဲ့နည်းနဲ့ ဗုဒ္ဓသာသနာတော် ပြန့်ပွားထွန်းကားအောင် လုပ်နေပါတယ်ဆိုတဲ့လူတွေကို ဘယ်လောက်ပြစ်တင် ရှုတ်ချလိုက်မလဲမသိဘူး"

"ဒီကတည်းက ရှင်းနေပြီ။ အဲဒီဂန္ဓာရီ "အဘ" ပြုနေပါတယ်ဆိုတဲ့ သာသနာဟာ ဘယ်နည်းနဲ့မှ ဗုဒ္ဓသာသနာတော်အစစ်အမှန် မဖြစ်နိုင်သလို အဲဒီ 'အဘ' ဟာလည်း ယုံကြည်သူတွေပြောသလို မေတ္တာရှင်ကြီး မဟုတ်ဘူးဆိုတာ ထင်ရှားနေပြီပဲဗျာ'

"ဂန္ဓာရီလိုင်းက ပုဂ္ဂိုလ်ကြီးတွေကို ဘုရားနဲ့တစ်ဂိုဏ်းတည်း မဟုတ်တောင် ဘကြီး၊ ဘထွေးလို ဆရာသမားလိုအားထား အလေးအမြတ် မပြုသင့်ဘူးလားလို့ ဆင်ခြေတက်သူတွေလည်း သဘောပေါက်သင့်ပြီ ပေါ့နော်"

"ဒါပေါ့ဗျာ၊ သူတို့ရဲ့တပည့်အဖြစ် ခံယူလိုက်ပြီဆိုတာနဲ့ သူတို့ ခိုင်းတာတွေလုပ်ရတော့မှာပဲ။ ထေရဝါဒဗုဒ္ဓသာသနာတော်မှာလို ဆင်ခြင်ဉာဏ်သုံးပြီး အကျိုးအကြောင်းစုံစမ်းခွင့် မရှိတော့ဘူး။ မျက်စိစုံမှိတ်ပြီး ခိုင်းတာလုပ်ပေရော့ပဲဗျ။ ဟိုသွားဆိုသွား၊ ဒီလာဆိုလာ၊ ဘာစေတီတည်ဆိုတည်ပဲ"

"စေတီဆိုလို့ ပြောရဦးမယ်၊ သူတို့က စေတီဆိုတာ 'စေ' ရာ ကိစ္စတွေ 'တည်' ဖို့အတွက် စေတီလို့ခေါ်တယ်လို့ အဓိပ္ပာယ်ဖွင့်ဆိုထားတာလည်း ဖတ်လိုက်ရသေးမဟုတ်လား"

"ဖတ်လိုက်ရပါသဗျာ၊ တကယ်တော့ သူတို့ကသာသနာကို ဗန်းပြပြီး သူတို့စေရာကိစ္စတွေတည်တံ့စေဖို့ စေတီတွေတည်နေကြတာပဲ။ ဒါကိုမသိတဲ့လူတွေက ဒီလိုဂန္ဓာရီလိုင်းက ပုဂ္ဂိုလ်တွေကို ဘာသာရေးဆိုင်ရာ သူတော်စင်ကြီးတွေလို့ထင်မှတ်ပြီး ဆရာတင်မှားကြတာဗျ။ ဒီကိစ္စနဲ့ ပတ်သက်ပြီးပြောရရင် ဆရာကြီးသက်လုံကတောင် 'ဂန္ဓာရီလမ်းသည် ဘာသာရေးလမ်းမဟုတ်ပါ၊ ထို့ကြောင့် လောကီအာရုံများနှင့် မကင်းနိုင်ပါ' လို့ ၁၉၉၇ ခုနှစ်။ ဇွန်လထုတ်၊ မဟေသီမဂ္ဂဇင်းထဲက ဆောင်းပါးတစ်ပုဒ်မှာ အတိအလင်း ထုတ်ဖော်ရေးသားထားတာ ဖတ်ရသဗျ"

"ဒါဆို ဂန္ဓာရီအလုပ်ဟာ ထေရဝါဒဗုဒ္ဓဘာသာရေးဆိုင်ရာ သူတော်စင်များရဲ့ အလုပ်မဟုတ်ဘူးဆိုတာ ထင်ရှားနေပြီပဲ။ ခက်နေတာက မသိနားမလည်တဲ့သူတွေကတော့ ဂန္ဓာရီလမ်းကပုဂ္ဂိုလ်တွေကို ထေရဝါဒ ဗုဒ္ဓဘာသာရေးဆိုင်ရာ သူတော်စင်တွေမှတ်ပြီး သူတို့ရဲ့ပုံတူ ရုပ်တုကြီးတွေကို

ဘုရားကျောင်းကန်မှာ ထားနေကြ၊ ကိုးကွယ်နေကြ တုန်းပဲဗျ"

"ဂန္ဓာရီလမ်းက ပုဂ္ဂိုလ်တချို့ကလည်း သူတို့စေရာကိစ္စတွေ တည်စေဖို့ ဘာသာရေးကို ခုတုံးလုပ်နေကြတုန်းပဲကိုးဗျ။ သူတို့ကိုယ်ကို သူတော်စင်ယောင်ယောင် သာသနာပြုယောင်ယောင် အရေခြုံပြီး မသိနားမလည်သူတွေကို စည်းရုံးသိမ်းသွင်းနေကြတယ်လေ။ မသိနား မလည်တော့လည်း လှည့်ဖြားခံနေကြရတဲ့လူတွေခမျာ သနားစရာပါဗျာ"

"ခင်ဗျားကသာ သနားနေတာ၊ ဟိုမဂ္ဂဇင်းတစ်စောင်ထဲမှာဆိုရင် ခင်ဗျားတို့လို ဘာသာရေးဆိုင်ရာ ဝေဖန်ရေးသမားတွေကို 'သတ္တိရှိရင် ဘုရားပေါ်က ဘိုးမင်းခေါင်ရုပ်တုတို့၊ ဆူးလေဘိုးဘိုးကြီးရုပ်တုတို့ကို ဓားနဲ့ ခုတ်ချလိုက်ပါလား' လို့တောင်စိမ်ခေါ်ထားသဗျ"

"ဒါကတော့ လူလိမ္မာသားယဉ်ပါး လူမိုက်သားရမ်းကားဆိုတဲ့ စကားလည်း အရှိသားပဲ မဟုတ်လားဗျာ။ တစ်ဖက်က အကျိုးအကြောင်းနဲ့ အကိုးအကားနဲ့ ပြောလာရင် တစ်ဖက်ကလည်း အကျိုးသင့်အကြောင်းသင့် ရှင်းပြဖို့ပဲ လိုတယ်။ အခုလို ဦးဏှောက်မသုံးဘဲ အသားလွတ်မျက်စိမှိတ်ပြီး အမှောင်ထဲက ကြိုးဝါးနေသူတွေကို ကျွန်တော်တို့ ဂရုစိုက်စရာ မလိုပါဘူးဗျာ"

"တချို့ကလည်း သူတို့ရဲ့ ဂန္ဓာရီဆရာကြီးတွေကို ဝေဖန်ရကောင်း လားဆိုပြီး ဇာတ်လမ်းဇာတ်ကွက်ဆင်၊ ဝတ္ထုပုံစံဖွဲ့ပြီး အငြိုးတကြီး တိုက်ခိုက် ထားတာတွေလည်း ဖတ်ရသဗျ။ ယုတ္တိမရှိပေမယ့် အလင်္ကာမြောက်တော့ ဖတ်လို့ အကောင်းသား. . ."

"အဲဒီစာရေးဆရာ၊ စာရေးဆရာမတွေကိုတော့ ၁၉၉၇ ခုနှစ်၊ ဇွန်လထုတ် မဟေသီမဂ္ဂဇင်းထဲက ဆရာဖေမြင့်ဘာသာပြန်ထားတဲ့ 'ဓားပြနှင့်စာရေးဆရာ ငရဲပြည်အတူရောက်ကြသည့်အခါ' ဆိုတဲ့ ဝတ္ထုတို လေးကို ဖတ်ကြည့်စေချင်ပါတယ်ဗျာ'

"ဇာတ်လမ်းအကျဉ်းလေး ပြောစမ်းပါဦး"

"စာရေးဆရာ တစ်ယောက်နဲ့ ဓားပြတစ်ယောက် ငရဲပြည်ကိုအတူ ရောက်ကြသတဲ့။ ဓားပြကလူ့ပြည်မှာ ခိုးဆိုးသတ်ဖြတ်ပြီး ပြစ်မှုမျိုးစုံ ကျူးလွန်ခဲ့တယ်။ စာရေးဆရာကတော့ လူကြိုက်များတဲ့ဘက်စ်ဆဲလား ပေါ့ဗျာ၊ သူရေးခဲ့တာတွေက ယုတ္တိယုတ္တာမဲ့မှားယွင်းတဲ့ အတွေးအခေါ် တွေကို မုသားဆင်ခြေမျိုးစုံနဲ့ဖုံးကွယ်ပြီး လူမိုက်အားပေး စာတွေချည့်ပဲတဲ့"

"ကျွန်တော်တို့ဆီမှာလည်း စုံထောက်ယောင်ယောင်၊ ဇေဒင် ယောင်ယောင် ဂန္ဓာရီယောင်ယောင်နဲ့ မဖြစ်နိုင်တာတွေ၊ ယုတ္တိကင်းတာတွေ

နဲ့တန်ဆာဆင်ပြီး လူပြိန်းအကြိုက်ရေးသားနေတဲ့ စာရေးဆရာတချို့က ဘက်ဆဲလား ဖြစ်နေတာပဲမဟုတ်လား”

“ထားပါတော့ဗျာ၊ ဇာတ်လမ်းဆက်ရရင် အဲဒီစာရေးဆရာရော ဓားပြကြီးရောသေတဲ့အခါ ငရဲပြည်မှာနှစ်များစွာ ငရဲခံခဲ့ကြရတာပေါ့။ ဓားပြက အချိန်ကာလတစ်ခု စေ့သွားတဲ့အခါ ငရဲကလွတ်ပေမယ့် အခုန ပြောခဲ့တဲ့ စာရေးဆရာမှာတော့ ခံမြဲဆက်ခံနေရသတဲ့၊ ဒါနဲ့စာရေးဆရာက မကျေမနပ်ဖြစ်ပြီး ငရဲမင်းကိုမကျေနပ်ကြောင်း တင်ပြတာပေါ့ဗျာ”

“ဒီတော့ငရဲမင်းက စာရေးဆရာကို လွှတ်ပေးလိုက်ရောလား”

“ဘယ်လွှတ်ပေးပါ့မလဲ၊ ငရဲမင်းကြီးက ဓားပြဟာအသက်ရှင်စဉ် ကာလကသာ လူတွေကိုဒုက္ခပေးခဲ့တာဖြစ်တယ်။ အသင်စာရေးဆရာကြီး ကဖြင့် သေပြီးတဲ့နောက်မှာလည်း အသင်ရေးသားခဲ့တဲ့ လွဲမှားတဲ့ အတွေး အခေါ်တွေကို မုသားဆင်ခြေတွေနဲ့ ရိုက်သွင်းထားတဲ့စာတွေက လူ့လောကမှာ ဆက်လက်ဖြန့်ချိပြီး လူတွေကိုဒုက္ခပေးနေဆဲပဲဖြစ်တယ်။ ဒါကြောင့် သင့်ရဲ့ပြစ်မှုအရှိန်အဟုန် မကုန်သေးသရွေ့ သင်လည်း ငရဲပြည်မှာ ဆက်ခံနေရဦးမှာသာဖြစ်တယ်လို့ ပြန်ပြောလိုက် သတဲ့ဗျာ”

“ကောင်းလိုက်တဲ့ဝတ္ထုလေးဗျာ၊ ကိုယ်ကျိုးစီးပွားအတွက် စာပေမှာ အဆိပ်ခတ်စားနေတဲ့ စာရေးဆရာများရဲ့အပြစ်ဟာ ခိုးဆိုးသတ်ဖြတ်နေတဲ့ လူဆိုးသူခိုးဓားပြများထက် အပြစ်ကြီးလေးတယ်ဆိုတာကို ဝတ္ထုပုံစံနဲ့တင်ပြ ထားတာပဲဗျ”

“စာဖတ်ပရိတ်သတ်များ အနေနဲ့လည်း မဂ္ဂဇင်း၊ ဂျာနယ်၊ ဝတ္ထုစတဲ့ စာနယ်ဇင်းများရဲ့ စာမျက်နှာတွေပေါ်မှာ ပုံနှိပ်ဖော်ပြထားသမျှ အမှန်တရား ချည့်ပဲလို့မယူဆပဲ ဝေဖန်ရေးသတိနဲ့ ပိုင်းခြားစိတ်ဖြာဖတ်ရှုကြဖို့ အရေးကြီး တာပေါ့။ ပြီးတော့ စာဖတ်ပြီဆိုရင် တတ်နိုင်သရွေ့ စာစုံအောင်ဖတ်သင့် တယ်ဗျ။ အခုပဲကြည့်လေ၊ တစ်လနှစ်လအတွင်းထုတ်ဝေတဲ့ ‘အဘ’ ဆိုတဲ့ ဂန္ထာရီစတားကြီးနဲ့ပတ်သက်ပြီး ရှေ့နောက်မညီ၊ ယုတ္တိယုတ္တာကင်းတဲ့ အဆို တွေကို အကွဲကွဲအပြားပြားတွေ့နေရပြီ မဟုတ်လား”

“အေးဗျ၊ ဟိုစာစောင်ကတစ်မျိုးရေး၊ ဒီစာစောင်ကတစ်မျိုးရေးနဲ့ နောက်ဆုံး နှိုင်းယှဉ်ဝေဖန်သုံးသပ်လိုက်တော့ အားလုံးဟာစိတ်ကူးယဉ် ဇာတ်လမ်းတွေ၊ ဖြီးလုံး၊ လိမ့်လုံးတွေချည့် ဖြစ်နေတော့တာပဲ”

“ကျွန်တော်ကတော့ စာရေးဆရာများအနေနဲ့ အခုနပြောခဲ့တဲ့ ဘာသာပြန် ဝတ္ထုလေးကို ဖတ်ကြည့်ပြီး ‘ငါတို့ကော အဲဒီ စာရေးဆရာလိုများ

ဖြစ်နေ ပြီလား’ ဆိုတာ အပြန်ပြန်အလှန်လှန်သုံးသပ်၊ ဖြစ်နေပြီဆိုရင်လည်း အချိန်မီ အမှန်လမ်းကိုရွေးချယ် လျှောက်လှမ်းကြခြင်းအားဖြင့် မိမိနဲ့စာဖတ်ပရိသတ်တို့ရဲ့အကျိုးကို သယ်ပိုးကြဖို့ တိုက်တွန်းလိုက်ချင်ပါတယ်ဗျာ”

(၈. ၈. ၉၇)

ဓမ္မရံသီ၊ ၁၉၉၇ခုနှစ်၊ ဒီဇင်ဘာလ။

# အမှန်ကိုသိမှ အကျိုးရှိမည်

"ဟော . . . ကိုဝင်းပါလား၊ ထိုင်ဗျာ။ ခင်ဗျားနဲ့မတွေ့တဲ့ ကာလအပိုင်းအခြားအတွင်းမှာ ကျွန်တော်လည်း ဘာသာရေးစာအုပ်တွေ အတော်ဖတ်ဖြစ်တယ်ဗျ"

"ကောင်းတာပေါ့ ကိုလင်းရာ၊ အလိမ္မာစာမှာရှိတဲ့ဗျ၊ စာများများဖတ်မှသိ၊ သိမှလိမ္မာပေတော့မပေါ့၊ သာဓုဗျာ . . . သာဓု"

"သိပ်လည်း သာဓုခေါ်မနေနဲ့ဦး ကိုဝင်းရေ၊ ကျွန်တော့်မှာ စာများများဖတ်မိကာမှ တွေဝေစရာတွေဖြစ်လာလို့ဗျို့"

"ဆိုပါဦးဗျာ၊ ဘာတွေများတွေဝေမိလို့တုံး"

"ဥပမာ. . . ဟောဒီစာအုပ်ထဲက စာပိုဒ်တချို့ကိုပဲကြည့်ပါဦး၊ ခေါင်းစီးကစစ်ဗိုလ်ဝိဋ္ဌာတဲ့ဗျာ၊ အဲဒီပုဂ္ဂိုလ်ကစစ်ဗိုလ်ဝတ်စုံအပြည့်နဲ့ ကောင်းကင်ကနေ လူကိုယ်ချည့်သက်သက်ဆင်းလာသတဲ့၊ သူဆင်းလာတဲ့အချိန်မတိုင်မီမှာ ရဟတ်ယာဉ်သံ ကြိုပြီးကြားရသတဲ့၊ လာတုန်းက ဟိမဝန္တာဘက်ကဖြစ်ပြီး ပြန်တော့ ရန်ကုန်မြို့ရှိရာကို ပျံတက်သွားသတဲ့ဗျာ၊ ကဲ . . . ဒါကိုခင်ဗျားယုံသလား"

"ဒါက ကျွန်တော့်ကို မေးရမယ့်ကိစ္စမဟုတ်ဘူး ကိုလင်းရဲ့၊ ခင်ဗျားမှာလည်း မွေးရာပါဦးနှောက်ကြီးတစ်ခုလုံး သန့်သန့်စွမ်းစွမ်းရှိနေရဲ့သားနဲ့ဗျာ၊ ခင်ဗျာ့ဦးနှောက်က ပန်ကာအောက်မှာအနေကြာလို့ စျေးအကြီးဆုံးဖြစ်သွားပြီလားတော့ မပြောတတ်ဘူး"

"ဘာလဲဗျ ခင်ဗျားဥစ္စာက၊ စျေးအကြီးဆုံးဦးနှောက်ဆိုတာ . . . "

"ဒီလိုဗျ၊ တစ်ခါက ဦးနှောက်ပြပွဲတစ်ခုလုပ်ရာမှာ ဦးနှောက်တစ်ခုက တန်ဖိုးအကြီးဆုံးကပ်ထားသတဲ့၊ ဒါနဲ့ပြပွဲလာပရိသတ်က ဘာဖြစ်လို့ ဒီဦးနှောက်က စျေးအကြီးဆုံးဖြစ်ရတာလဲလို့မေးတော့ တာဝန်ခံက ဟုတ်ပါတယ်ခင်ဗျာ၊ ဒီဦးနှောက်က တစ်ခါမှမသုံးရသေးတဲ့ အသစ်ကျပ်ချွတ်မို့ စျေးအကြီးဆုံးဖြစ်ရတာပါလို့ဖြေသတဲ့ဗျာ"

"အမလေးဗျာ၊ ဒီလိုစျေးကြီးတဲ့ ဦးနှောက်ပိုင်ရှင်မျိုးတော့ မဖြစ်ချင်

ပါဘူးကိုဝင်းရယ်"

"အဲဒီလိုမဖြစ်ချင်ရင်တော့ ဗုဒ္ဓမြတ်စွာဟောကြားခဲ့တဲ့ ကာလာမသုတ်လို့ထင်ရှားတဲ့ ကေသမုတ္တိသုတ္တန်ထဲက မယုံကြည်ရာတရားဆယ်ပါးကို အစဉ်နှလုံးသွင်းပြီး ကိုယ်ပိုင်ဦးနှောက်ကို အသုံးချပေါ့ဗျာ"

"ဆိုစမ်းပါဦး ကိုဝင်းရာ၊ ဗုဒ္ဓမြတ်စွာဟောကြားခဲ့တဲ့ မယုံကြည်ရာတရားဆယ်ပါးကို"

"အကျဉ်းချုံး ပြောရရင်တော့ဗျာ ဗုဒ္ဓမြတ်စွာက '*(၁) သင်တို့သည် တစ်ဆင့်စကားကြားရုံမျှဖြင့် အမှန်ဟုမယူကြကုန်လင့်၊ (၂) မိဘဘိုးဘွား အစဉ်အဆက်က ပြောခဲ့သောစကားဖြစ်ရုံမျှဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်၊ (၃) ဒီဟာကဒီလိုတဲ့ဟူ၍ မသေမချာပြောစကားဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်၊ (၄) စာပေကျမ်းဂန်နှင့်ညီညွတ်ရုံမျှဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်*' တဲ့ဗျ၊ အခုခေတ်အခါနဲ့အညီ ပြောရရင်တော့ စာပေကျမ်းဂန်တွေသာမက ကက်ဆက်တိပ်ခွေထဲပါတိုင်းလည်း အမှန်ဟု မယူကြကုန်လင့်လို့ ချဲ့ထွင်ယူသော်ရ၏ပေါ့ဗျာ"

"ဟုတ်ပါပြီ၊ ဟုတ်ပါပြီ၊ ဆက်ပါဦးဗျ"

"ဆက်ရမယ်ဆိုရင်. . *(၅) ဤအတိုင်းသာဖြစ်လောက်ရာ၏ဟူ၍ ကြံဆယူသောအကြောင်းဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်၊ (၆) နည်းလမ်းယုတ္တိဖြင့် ချိန်ဆနိုင်ခြင်းဟူသောအကြောင်းဖြင့်လည်း အမှန်ဟု မယူကြကုန်လင့်၊ (၇) အကြောင်းအခြင်းအရာကို ကြံဆခြင်းဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်၊ (၈) တွေးကြံစဉ်းစား၍ ထွေးနှပ်နှစ်သက်လက်ခံ ထားသော မိမိတယူအဆနှင့်ညီညွတ်ရုံဖြင့်လည်း အမှန်ဟုမယူကြကုန်လင့်၊ (၉) နာယူထိုက်သောပုဂ္ဂိုလ်၏ စကားဖြစ်ခြင်းမျှဖြင့်လည်း အမှန်ဟုမယူကြကုန်လင့် (၁၀) မိမိတို့၏ဆရာဖြစ်သော ရဟန်း၏စကားဖြစ်ရုံမျှဖြင့်လည်း အမှန်ဟု မယူကြကုန်လင့်* လို့ ဟောကြားခဲ့ပါတယ် ခင်ဗျား"

"ဒါဖြင့် ဘယ်လိုအကြောင်းအရာမျိုးကိုမှယုံကြည်ပြီး ပြီးပြည့်စုံအောင် လိုက်နာကျင့်သုံး ရတော့မှာတုံး"

"ဗုဒ္ဓမြတ်စွာက '*အကြင်အခါ၌ ဤတရားတို့သည် ကုသိုလ်တရား၊ အပြစ်ကင်းသောတရား၊ ပညာရှိတို့ ချီးမွမ်းအပ်သောတရား၊ အကျိုးစီးပွားတိုးတက်မှု၊ ချမ်းသာမှုကို ဖြစ်စေသောတရားဟူ၍ သင်တို့ကိုယ်တိုင် သိကုန်၏။ ထိုအခါ၌ ထိုတရားတို့ကိုပြည့်စုံစေ၍ နေကြကုန်လော့*' လို့ လမ်းညွှန် မိန့်ကြားတော်မူခဲ့တယ် ကိုလင်းရေ့"

— — — — — — — — — — — — — — — — — — — — — —

"ဟာ. . . တကယ့်ကို သိပ္ပံနည်းကျတဲ့ လမ်းညွှန်ချက်ပါလား ကိုဝင်းရာ"

"သိပ္ပံနည်းကျ ဆိုတာထက် ဗုဒ္ဓနည်းကျလို့ဆိုရင် ပိုမှန်လိမ့်မယ်ဗျ၊ ဒီလိုသာ ဗုဒ္ဓနည်းကျတွေးခေါ် ဆင်ခြင်တတ်မယ်ဆိုရင် ဘယ်လိုလိမ်လည် လှည့်ဖြား ညာဝါးမှုမျိုးကိုမှ မခံရတဲ့အပြင်၊ အမျှော်အကြောက်ကို အခြေခံပြီး ယုံကြည်ကိုးကွယ်တတ်တဲ့ လူပြိန်းဗုဒ္ဓဘာသာဝင်အဖြစ်က ရှောင်လွှဲနိုင်မယ်။ အသိဉာဏ်ပညာနဲ့ယှဉ်တဲ့ သဒ္ဓါတရားနဲ့ပြည့်စုံသူ အဆင့်မြင့်အမာခံ ဗုဒ္ဓဘာသာဝင်ကောင်း တစ်ယောက်ဖြစ်လာမှာ မြေကြီးလက်ခတ်မလွဲ ဘဲပေါ့ ကိုလင်းရာ"

"အေးဗျာ . . . ဆွေးနွေးလက်စနဲ့ ပြောရဦးမယ်၊ ဒီစာအုပ်ထဲမှာပဲ ပရိတ်တရားတော်ရဲ့ အစွမ်းနဲ့ပတ်သက်ပြီး ရေးထားတာလေး တစ်ခုပါဗျာ"

"ဆိုပါဦးဗျ"

"တချို့ပုဂ္ဂိုလ်တွေ ပရိတ်ရွတ်တဲ့အခါ ထိရောက်အစွမ်းပြပြီး တချို့ ပုဂ္ဂိုလ်တွေရွတ်တဲ့အခါ ထိရောက်အစွမ်းပြ မပေါ်လွင်တာဟာ ပရိတ် ရွတ်သူတွေရဲ့ မေတ္တာ၊ စေတနာ၊ ကရုဏာနဲ့ သီလ၊ သမာဓိဂုဏ် ရင့်ကျက်မှု အနည်းအများ ခြားနားမှုကြောင့်လို့ ဆိုထားသဗျ။ ဒီတော့ဗျာ ပရိတ် တရားတော်ရွတ်ဖတ်တဲ့ ရဟန်းတော်တွေ၊ မထေရ်ကြီးတွေ အမြောက် အမြားရှိတဲ့အနက် အများစုဟာ လူသိရှင်ကြား ပရိတ်အစွမ်းပြ ပေါ်လွင်မှု မရှိကြတာတွေ့ရတယ်ဗျ၊ ဒါကြောင့် အဲဒီရဟန်းတော်တွေ၊ မထေရ်ကြီးတွေ အများစုဟာ မေတ္တာ၊ စေတနာ၊ ကရုဏာ၊ သီလ၊ သမာဓိ ရင့်ကျက်မှုနည်းပါး နေလို့ပဲလို့ ယူဆရမလား"

"အင်း . . . ကျွန်တော်လည်း ပရိယတ္တိ၊ ပဋိပတ္တိစွယ်စုံရ မထေရ်ကြီးတွေရဲ့ ပရိတ်တရားပွဲတွေမှာ သွားပြီးနာယူဖူးပါတယ်၊ ဒါပေမယ့် သူတို့ ပရိတ်ရွတ်လို့ ပရိတ်ရေပွက်တယ်၊ ပရိတ်ရေတန်ခိုးကြောင့် အကျိုး စီးပွားဖြစ်တယ်လို့တော့ ဟိုးလေးတကျော်ဖြစ်သံ မကြားမိတာအမှန်ပါပဲ"

"အေးဗျာ . . . အခုနအဖြေရှင်ကပဲ သူ့ရဲ့ပရိတ်ရေကို ကြိုးတန်း၊ အဝတ်တန်းအောက်က ယူမသွားမိအောင် သတိထားကြဖို့လည်း ဆိုထား ပြန်တော့ အဲဒီပုဂ္ဂိုလ်ရဲ့မေတ္တာ၊ စေတနာ၊ ကရုဏာ၊ သီလ၊ သမာဓိဂုဏ် တွေဟာ ကြိုးတန်း၊ အဝတ်တန်းဆိုတဲ့ ရုပ်ဝတ္ထုပစ္စည်းတွေအောက် ရောက် သွားရုံနဲ့ ပျက်ပြယ်သွားနိုင်တယ်လို့ ဆိုလိုရာရောက်မနေဘူးလား ကိုဝင်းရဲ့"

"ဒီကိစ္စနဲ့ပတ်သက်ပြီး အဖြေမပေးချင်ပေမယ့် ခင်ဗျားစဉ်းစားလို့

ရအောင်တော့ လမ်းကြောင်းပေးပါ့မယ်၊ မေတ္တာ၊ စေတနာ၊ ကရုဏာ၊ သီလ၊ သမာဓိစတဲ့ စိတ်ပိုင်းဆိုင်ရာ မြင့်မြတ်တဲ့စွမ်းအင်တွေဟာ ဘယ်လိုရုပ်ဝတ္ထုနဲ့မှ ဖန်တီးယူလို့မရနိုင်ဘူး၊ ရေဆိုတဲ့ရုပ်ဝတ္ထုပစ္စည်းကို ဟိုက်ဒြိုဂျင်နှစ်ဆနဲ့ အောက်စီဂျင်တစ်ဆ ပေါင်းစပ်ပြီးလုပ်ယူလို့ရသလို၊ အဲဒီရေကို အပူချိန် ၁၀၀ ဒီဂရီစင်တီဂရိတ်အထိ အပူပေးလိုက်ရင် ဆူစေနိုင်တယ်၊ အဲဒီရေကို ဆေးဖက်ဝင်အောင်လည်း ဓာတုပစ္စည်းတွေနဲ့ပေါင်းစပ် လုပ်ယူလို့ရပါတယ်၊ ဒါတွေဟာ ဘာမှမဆန်းပါဘူး၊ အဲ . . . ဒါပေမယ့် လူတစ်ဦးရဲ့ မေတ္တာ၊ စေတနာ၊ ကရုဏာ၊ သီလ၊ သမာဓိတို့ရဲ့ အစွမ်းသတ္တိသာမှန်ရင် ဘယ်လို ရုပ်ဝတ္ထုပစ္စည်းနဲ့မှ ဟန့်တားပိတ်ပင် ဖျက်ဆီးပစ်လို့မရသလို ပျက်စီးသွားစရာလည်း အကြောင်းမရှိဘူးဆိုတာကတော့ သေချာပါတယ်ဗျာ”

“ဟား . . . သဘောပေါက်ပြီဗျို့၊ ကျုပ်ဆိုတဲ့လူကလည်း အကောင်လိုက်ကြီးပြမှ အရိပ်ထင်တော့တာကိုးဗျ၊ ကဲ . . . မေးလက်စနဲ့ ဆက်မေးရဦးမယ်၊ ပုဂ္ဂိုလ်တစ်ဦးဟာ သူ့မှာဈာန်ရနေပြီ၊ မဂ်ဆိုက်နေပြီ၊ ဖိုလ်ဆိုက်နေပြီဆိုတဲ့သဘောမျိုး လူတစ်ဖက်သားယုံကြည်လာအောင် တစ်နည်းနည်းနဲ့ ထုတ်ဖော်ပြောသင့်သလားဗျ”

“ဒီကိစ္စနဲ့ပတ်သက်လို့ ပြောရရင်တော့ ဗုဒ္ဓမြတ်စွာက ‘ရဟန်းတော်တွေကို အမှန်တကယ် မိမိမှာမရှိဘဲ ကြွားဝါလိုစိတ်နဲ့ လူတို့ရဲ့ကုသိုလ်ကမ္မပထတရားထက် သာလွန်တဲ့ဈာန်မဂ်ဖိုလ်တရား မိမိမှာရနေပြီ၊ မိမိဟာ ဆိတ်ငြိမ်ရာအရပ်မှာ မွေ့လျော်သူဖြစ်တယ်၊ ဘယ်တရားကို အားထုတ်နေတယ်လို့တောင် မပြောရဘူး’ လို့ပညတ်ခဲ့တယ်ဗျ၊ ‘အကယ်၍ ထုတ်ဖော်ပြောခဲ့ရင် ပါရာဇိကကျပြီသာမှတ်ပေတော့’ တဲ့။ ခင်ဗျား အကျယ်သိချင်ရင် ဝိနည်းမဟာဝါပါဠိတော် မဟာခန္ဓကမှာ လေ့လာနိုင်ပါတယ်”

“ဒါဆိုရင် ဗုဒ္ဓဘာသာဝင်မဟုတ်တဲ့လူတွေကို ဗုဒ္ဓဘာသာဝင်ဖြစ်လာအောင်ဆိုတဲ့ ရည်ရွယ်ချက်နဲ့ တန်ခိုးပြာဋိဟာပြပြီး သာသနာပြုရင်ကောဗျာ”

“ဘယ်လို အကြောင်းပြချက်နဲ့ပဲဖြစ်ဖြစ် ဗုဒ္ဓရဲ့တပည့်သား သံဃာတော်တွေမှာ တန်ခိုးပြာဋိဟာ ပြပိုင်ခွင့်မရှိဘူးဗျ၊ တကယ်လို့ ပြခဲ့ရင် ဒုက္ကဋ်အာပတ်သင့်စေလို့ ဝိနည်းပညတ်ထားတော်မူခဲ့တယ်ဗျ”

“ဗုဒ္ဓမြတ်စွာက ဘာလို့များ တန်ခိုးပြာဋိဟာပြတာကို မနှစ်သက်တာလဲ မသိဘူးနော်”

“အဓိက,ကတော့ သာသနာတော်ကြီး အဓွန့်ရှည်ကြာ တည်တံ့

ခိုင်မြဲစေရေးအတွက်ပဲပေါ့ ကိုလင်းရာ၊ ဗုဒ္ဓရဲ့နောက်လိုက် တစ်ဦးက ဗုဒ္ဓမြတ်စွာကို တန်ခိုးပြဖို့ တိုက်တွန်းဘူးတယ်လေ၊ တကယ်လို့ တန်ခိုးပြာဋိဟာပြခဲ့ရင် အသိဉာဏ်မသုံးတဲ့ လူပြိန်းတွေ သိန်းသန်းချီပြီး သာသနာတော်ထဲဝင်လာမှာကို ဗုဒ္ဓမြတ်စွာက ကောင်းကောင်းကြီးသိတာပေါ့၊ ဒါပေမယ့် ဗုဒ္ဓမြတ်စွာဟာ အရေအတွက်ထက် အရည်အချင်းကိုသာ ဦးစားပေးတော်မူခဲ့တယ်၊ ဒီလိုတန်ခိုးပြာဋိဟာဆန်တဲ့ ထူးဆန်းထွေလာကိစ္စတွေဟာ သူတော်စင် သူတော်မြတ်တွေမှသာလျှင် လုပ်ပြနိုင်တဲ့ကိစ္စ မဟုတ်ဘူးလေ၊ ဂန္ဓာရီပညာရှင်တွေ၊ စိန္တာမဏိပညာရှင်တွေ၊ အခုခေတ်အခေါ်အရဆိုရင်တော့ မှော်ဆရာ၊ မျက်လှည့်ဆရာ၊ တယ်လီပသီပညာရှင်တွေလည်း လုပ်ပြနိုင်တဲ့ကိစ္စပဲဗျ။ ဒီတော့ကာ နဂိုကတည်းက ဗုဒ္ဓသာသနာတော်ကို ကြည်ညိုရှိုင်းစွဲ မရှိသူတွေက ဗုဒ္ဓမြတ်စွာက အဲဒီလိုထူးဆန်းထွေလာ လုပ်ပြတာကို မြင်လိုက်ရင် ဗုဒ္ဓနဲ့တကွ တပည့်သံဃာတော်တွေအပေါ် ဘယ်လိုမြင်သွားမယ်လို့ ကိုလင်းထင်သလဲ"

"အဲဒီမှော်ဆရာ၊ မျက်လှည့်ဆရာ၊ တယ်လီပသီသမားတွေနဲ့ တစ်တန်းတစ်စားတည်းပါကွာ သတ်မှတ်လိုက်မှာပေါ့ ကိုဝင်းရဲ့"

"မှန်တာပေါ့ဗျာ၊ ဒါကြောင့် ဗုဒ္ဓမြတ်စွာဟာ လူတွေကို အံ့သြစေမယ့် ထူးခြားဆန်းကြယ်ကိစ္စမျိုးတွေ လုပ်မပြဖို့ တပည့်သားသံဃာတွေကို တင်းတင်းကျပ်ကျပ် ဥပဒေထုတ် တားဆီးခဲ့တာပေါ့၊ ဗုဒ္ဓခေတ်က ထင်ရှားကျော်ကြားပြီး ဉာဏ်ပညာနဲ့ပြည့်စုံလို့ ဗုဒ္ဓကိုယ်တိုင်အားထားခဲ့ရတဲ့ တပည့် သာဝကကြီးတွေ ဗုဒ္ဓသာသနာတော်ထဲ ဝင်ရောက်လာပုံကို လေ့လာကြည့်မယ်ဆိုရင် တစ်ဦးတလေမှ ဗုဒ္ဓရဲ့ 'တန်ခိုးပြာဋိဟာ' ကို အထင်ကြီးလို့ ဝင်ရောက်လာခဲ့သူတွေ မဟုတ်ဘူးဆိုတာတွေ့နိုင်ပါတယ်၊ သူတို့တစ်တွေဟာ ဗုဒ္ဓရဲ့ သွန်သင်ညွှန်ပြမှုဆိုတဲ့ 'ဆုံးမခြင်းပြာဋိဟာ' ကိုသာ အသိဉာဏ်နဲ့ယှဉ်နာခံပြီး လက်တွေ့ဘဝမှာ အမှန်တကယ်အကျိုးရှိကြောင်းနားလည် သိမြင်လာခဲ့တဲ့ ပုဂ္ဂိုလ်တွေချည့်ပဲဗျ"

"အဲဒီ မထေရ်မြတ်ကြီးတွေကဖြင့် ဗုဒ္ဓနည်းတူပဲ တန်ခိုးပြာဋိဟာပြမှု ကို ရွံရှာစက်ဆုပ်မှာ အမှန်ပဲနော်၊ ဒါကြောင့်လည်း အခုခေတ်မှာ ဗုဒ္ဓရဲ့အဆုံးအမနဲ့အညီ တိတိကျကျ လိုက်နာကျင့်သုံးနေတဲ့ သံဃာတော်များဟာ လူသူပရိသတ်အကြား ဟိုးလေးတကျော်ဖြစ်စေမယ့် ကိစ္စတွေကို ရှောင်ရှားကြဟန်တူပါရဲ့၊ လာဘ်လာဘတွေ၊ ပူဇော်သက္ကာရတွေ၊ ထင်ပေါ်ကျော်စောမှုတွေဟာ ရဟန်းကိစ္စမပြီးမြောက်အောင် နှောင့်ယှက်နေမယ့် အန္တရာယ်ဆိုး

တွေပဲဗျ”

“ဒီ့ထက်ဆိုးတာပေါ့ ကိုလင်းရာ၊ ရဟန္တာဖြစ်ပြီးသူတွေကိုတောင် အဲဒီပူဇော်သက္ကာရတွေ၊ ကျော်စောမှုတွေက ရဟန္တာပုဂ္ဂိုလ်များ မျက်မှောက် ပြုပြီးနေအပ်တဲ့ ဖလသမာပတ်ဝင်စားပြီး ချမ်းသာစွာနေရမှုကို အန္တရာယ် ပြုနိုင်တယ်လို့ ဗုဒ္ဓမြတ်စွာဟောကြားခဲ့တာကို သံယုတ္တနိကာယ်၊ လာဘ သက္ကာရသံယုတ်၊ ဘိက္ခုသုတ်မှာ အထင်အရှားတွေ့နိုင်ပါတယ်ဗျာ”

“သြော် . . . ဒါကြောင့် ချမ်းသာမှုအစစ်အမှန်ကို လိုလားတော် မူတဲ့ ရဟန်းစစ်ရဟန်းမှန်များဟာ အဲဒီပူဇော်သက္ကာရတွေ၊ ကျော်စောမှုတွေ နဲ့ ကင်းနိုင်သမျှကင်းအောင် နေတော်မူကြတာကိုး၊ အင်း . . . ဒါတွေကို မသိတဲ့ ကျွန်တော်တို့မှာတော့ ပညာရှိကိုပညာရှိမှန်းမသိ၊ လူမိုက်ကိုလည်း လူမိုက်မှန်းမသိဖြစ်ကြပြီး လမ်းမှားလိုက်မိကြတာပဲဗျ”

“အကောင်းအဆိုး အကြောင်းအကျိုးခွဲခြားတတ်တဲ့ အယူမှန် အသိမှန် အမြင်မှန်တွေရှိဖို့လိုတယ်ဗျ ကိုလင်းရဲ့၊ အဲဒီလို အယူအသိအမြင် မမှန်ခဲ့ရင် ဘယ်လောက်ပဲ မြတ်ပါတယ်ဆိုတဲ့အကျင့်မျိုးကို ကျင့်သုံး နေစေ ကာမူအလကားပဲ၊ ကျောက်စရစ်ခဲ၊ သဲတွေကိုရေနဲ့ဖျန်းပြီး ဆုံထဲထည့် ကြိတ်ညှစ်ပေမယ့် ဆီမထွက်သလို ဘာမှအကျိုးမရှိနိုင်ဘူးလို့ ဗုဒ္ဓမြတ်စွာက ဆုံးမညွှန်ပြခဲ့တာကို မဇ္ဈိမနိကာယ် ဥပရိပဏ္ဏာသပါဠိတော်၊ သုညတဝဂ်မှာ အကျယ်ဖတ်ရှု လေ့လာနိုင်ပါတယ်ဗျာ”

(၁၂-၂-၉၄)

ဓမ္မရံသီ၊ ၁၉၉၄ခုနှစ်၊ ဧပြီလ။

# သူကန်းတစ်သိုက် စဉ်တန်းလိုက်သို့

"ဘယ်လိုတုံး ဈေးသည်ကြီးရဲ့၊ ရောင်းရေးဝယ်တာမှ ကောင်းရဲ့လား"

"ဆိုင်ကလေးက ဖွင့်စဆိုတော့ ဒီလိုပဲပေါ့ ကိုဝင်းရာ၊ ဈေးဦးမပေါက်တဲ့နေ့က များပါတယ်။ ကုန်မျိုးစုံအောင်တင်နိုင်ဖို့နဲ့ ဈေးမှန်ပစ္စည်းမှန်ကြောင်း စာသုံးသူတွေသိအောင် ကြိုးစားရတုန်းပါပဲ"

"ကောင်းတယ် ကိုလင်းရေ၊ ကောင်းတယ်။ ဆက်ကြိုးစားရင် တစ်နေ့တော့ အောင်မြင်ရမှာပေါ့။ အမယ် ခင်ဗျားဆိုင်က သေးသာသေးတယ်၊ ဘုရားစင်လေးလုပ်ထားတာ သန့်သန့်ပြန့်ပြန့်နဲ့ သပ္ပာယ်သားဗျ"

"ရတနာမြတ်သုံးပါးကို ဦးထိပ်ထားပြီးလုပ်ကိုင်တဲ့ သဘောပေါ့ဗျာ"

"ဘုရားရုပ်ပွားတော်ကို ပူဇော်ထားတာကတော့ ဟုတ်ပါပြီ၊ ဒီဘက်နားကယှဉ်လျက် ပူဇော်ထားတဲ့ ဓာတ်ပုံကြီးထဲကပုဂ္ဂိုလ်က ဘယ်သူလဲဗျ၊ ခင်ဗျားပြောတဲ့ ရတနာသုံးပါးထဲတော့ အကျုံးဝင်ဟန်မတူပါဘူး"

"ဒီတစ်ခါလည်း ကိုဝင်းတစ်ယောက် ခေတ်နောက်ကျသွားပြန်ပြီ။ အဲဒါ ပူဇော်ကိုးကွယ်သူတွေကို ကြံတိုင်းအောင်လို့ ဆောင်တိုင်းမြောက်အောင် မ,စနိုင်တယ်လို့ မြန်မာတိုင်းရင်းသား မိရိုးဖလာ ဗုဒ္ဓဘာသာဝင်တွေ အကြား ဟိုးလေးတကျော်ဖြစ်နေတဲ့ သူတော်စင်ကြီးလေဗျာ"

"နေပါဦး ကိုလင်းရဲ့၊ ဒီပုဂ္ဂိုလ်က သူတော်စင်လို့ဆိုရအောင် သူ့အကြောင်း ခင်ဗျားဘယ်လောက်သိလို့လဲ၊ သူ့အယူဝါဒကရော ဘာလဲ၊ သူသက်ရှိထင်ရှားရှိခဲ့တဲ့ အချိန်ကာလကရော ဘယ်တုံးကလဲ၊ လူသားတွေရဲ့ လောဘ၊ ဒေါသ၊ မောဟတရားတွေခေါင်းပါးပြီး ငြိမ်းချမ်းတဲ့လူ့အဖွဲ့အစည်း တစ်ရပ်ဖြစ်လာအောင် ဘယ်အတိုင်းအတာအထိ သူလုပ်ဆောင်နိုင်ခဲ့သလဲ"

"ဟူး . . . ခင်ဗျာ့မေးခွန်းတွေက များပါ့ဗျာ၊ သူတော်စင်လို့ ဆိုရတာက လည်ပင်းမှာပုတီးဆွဲပြီး ရှေးခေတ်အိန္ဒိယယောဂီကြီး တစ်ယောက်

သဏ္ဍာန် တည်တည်ငြိမ်ငြိမ် ဣန္ဒြေရရထိုင်နေပုံ ထုလုပ်ထားတာကို ကြည့်ပြီး ခန့်မှန်းလို့ရတာပါ။ သူ့ကို သက်ရှိထင်ရှားတွေ့ဖူးတဲ့ လူရယ်လို့ မရှိခဲ့တော့ သူ့ရဲ့နောက်ကြောင်းရာဇဝင်၊ သူယုံကြည်ကိုးကွယ်တဲ့ အယူဝါဒနဲ့ သူသက်ရှိထင်ရှားရှိစဉ်က လူ့အဖွဲ့အစည်းရဲ့အကျိုးကို ဘာတွေ သယ်ပိုးခဲ့တယ်ဆိုတာတွေကတော့ ဘယ်သိမလဲဗျ။ ကျွန်တော်သိရသလောက်ကတော့ ဒီရုပ်တုကို အသိပညာရှင် စာရေးဆရာကြီးအဖြစ်နဲ့ လူသိများကျော်ကြားတဲ့ ပုဂ္ဂိုလ်ကြီးတစ်ဦးကစတင်ပြီး လူသိရှင်ကြားပူဇော်ခဲ့တယ်ဆိုတာပဲ”

“ဒီအတိုင်းဆို ခင်ဗျားတို့က ဒီရုပ်တုရှင်ရဲ့ ကိုယ်ကျင့်သီလ၊ သမာဓိ၊ ပညာအဆင့်ကိုလည်း ဘာမှမသိဘဲ ပူဇော်စရာပုဂ္ဂိုလ်တစ်ဦးလို့ သတ်မှတ်ကြတာကို၊ လည်ပင်းမှာ ပုတီးချိတ်ထားတာမြင်တိုင်း သူတော်စင်လို့ သတ်မှတ်ကြမယ်ဆိုရင်တော့ ခက်လှချည်သေးရဲ့ ကိုလင်းရာ”

“သူ့ကို ဘယ်သူမှ သက်ရှိထင်ရှားမတွေ့ဖူးကြ၊ သူ့အယူဝါဒကို ဘာမှန်းမသိကြပေမယ့် သူ့ရုပ်ပုံကို ကိုးကွယ်ပူဇော်သူတွေ စီးပွား တက်အောင်ဆောင်ကြဉ်းပေးနိုင်တယ်၊ အမိဋ္ဌာန်နဲ့ပူဇော်ရင် လုပ်ငန်း ဆောင်တာတွေ အောင်မြင်တယ်လို့ရေးထားတဲ့ ကိုယ်တွေ့ဆောင်းပါး တွေတော့ ဖတ်ဖူးတယ်ဗျ”

“ဒါမျိုးတွေက စိတ်ကူးယဉ်ပြီးရေးရင်လည်း ဖြစ်တဲ့ကိစ္စတွေပါဗျာ၊ တချို့ကလည်း တိုက်ဆိုင်မှုလေး တစ်ခုနှစ်ခုအပေါ် ပုံကြီးချဲ့ပြီးရေးကြတာတွေလည်းရှိပါတယ်။ အမှန်အကန်ကိုယ်တွေ့ရှိသလို အကြံအဖန်ကိုယ်တွေ့တွေနဲ့ တန်ဆာဆင်ပြီး စာအုပ်ရေးစားနေတဲ့ ဂါထာမန္တန်ဆရာတွေလည်းရှိတယ်ဆိုတာ သတိပြုမိဖို့တော့လိုတယ်နော်။ ခင်ဗျား ကိုယ်တွေ့ကိုပဲ ပြန်သုံးသပ်ကြည့်ပါဦး။ ဆိုင်ဖွင့်ကတည်းက ဒီဓာတ်ပုံကြီးကို ပန်း၊ ရေချမ်း၊ ဆီမီး၊ အမွှေးတိုင်တွေနဲ့ ပူဇော်လာခဲ့တာ အခုအချိန်အထိ တခြားဖွင့်ကာစ ဆိုင်သစ်တွေထက်ပိုထူးခြားပြီး ဘာများရောင်းရေးဝယ်တာကောင်းလာလို့တုံး။ သူလိုငါလိုပါပဲ၊ ကိုယ့်အားကိုယ်ကိုးပြီး ကြိုးစားနေရတုန်းပဲ မဟုတ်လား”

“ခင်ဗျားပြောတာလည်း မှန်သင့်သလောက်မှန်ပါတယ်။ ဒါပေမယ့် ကိုယ့်ထက်ဗုဒ္ဓစာပေကို တတ်ကျွမ်းနားလည်တဲ့ ဆရာကြီးက ကောင်းကျိုးပေးကြောင်း ထောက်ခံရေးသားထားတော့ ကိုယ်ကစောဒကမတက်ဝံ့ဘူးလေ၊ ယုံယုံကြည်ကြည်နဲ့ ဆက်ပူဇော်ရင် တစ်နေ့နေ့

တစ်ချိန်ချိန်မှာ ထူးခြားလာလိမ့်မယ်လို့ မျှော်လင့်မိတာပဲ"

"စောဒကမတက်ဝံ့စရာ မရှိပါဘူးဗျာ။ ကျွန်တော်တို့ ဗုဒ္ဓသာသနာတော်မှာ ကြီးငယ်မဟူ တစ်ဦးကမှားနေရင် တစ်ဦးကစေတနာကောင်းထားပြီး အပြန်အလှန် ဝေဖန်ထောက်ပြအကြံပြုရင်း တိုးတက်မှုရအောင် လုပ်ဆောင်တတ်တဲ့ အစဉ်အလာရှိပြီးသားပါ။ ဘုရားရှင်လက်ထက်က အဂ္ဂသာဝကကြီးတစ်ဦး သက်န်းဝတ်ပုံ အချိုးမကျတာကိုမြင်တဲ့ သာမဏေတစ်ပါးရဲ့ ဝေဖန်ထောက်ပြမှုကို လက်ခံလိုက်နာ ပြုပြင်ခဲ့တဲ့သာဓကတောင် ရှိခဲ့သေးတာပဲ။ အခုလို ရတနာမြတ်သုံးပါးမှာ တစ်ပါးနဲ့မှလည်း အကျုံးမဝင်၊ ဘယ်အချိန်ကာလကရှိခဲ့ပြီး ဘာအယူဝါဒကိုခံယူမှန်းလည်း မသိတဲ့သူ တစ်ဦးရဲ့ ရုပ်တု၊ ဓာတ်ပုံတွေကို ပူဇော်ပသနေကြတာက ဘုရားရှင်လက်ထက်က ပြဟ္မာနဲ့အပေါင်းအဖော် ဖြစ်နိုင်မယ့်နည်းလမ်းကို လိုက်ရှာနေကြတဲ့ ပုဏ္ဏားတွေလို ဖြစ်နေတာပေါ့"

"ဘုရားရှင်လက်ထက်က ပုဏ္ဏားတွေ ပြဟ္မာနဲ့အပေါင်းအဖော် ဖြစ်မယ့်နည်း ရှာပုံလေးလည်း ပြောစမ်းပါဦးဗျာ"

"ဒီလိုဗျ ကိုလင်းရဲ့၊ ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှား ရှိစဉ်အခါက ဝါသေဋ္ဌနဲ့ ဘာရဒွါဇဆိုတဲ့ ပုဏ္ဏားနှစ်ယောက်က သူတို့ဘိုးစဉ်ဘောင်ဆက် ကိုးကွယ်ပူဇော်ရာ မဟာပြဟ္မာကြီးနဲ့ အပေါင်းအဖော်ဖြစ်နိုင်မယ့်နည်းကို ဗုဒ္ဓထံပါး မေးလျှောက်ခဲ့ကြတယ်"

"ဒီတော့ ဗုဒ္ဓမြတ်စွာက ဘယ်လိုမိန့်ကြားခဲ့သလဲဗျ"

"ဗုဒ္ဓမြတ်စွာက ပုဏ္ဏားတွေကို '*ဝေဒကျမ်းတတ်ပညာရှင်ပုဏ္ဏားကြီးတွေထဲမှာ သင်တို့ကိုးကွယ်ရာပြဟ္မာကို မျက်ဝါးထင်ထင် မြင်ဖူးသူရှိသလား*' လို့ မေးခွန်းထုတ်လိုက်တယ်။ ဝါသေဋ္ဌက '*မရှိပါဘူးဘုရား*' လို့ပဲ အမှန် အတိုင်း လျှောက်တင်တာပေါ့၊ ဒီအခါမှာ ဗုဒ္ဓမြတ်စွာက '*အဲဒီ ဝေဒကျမ်းတတ်ဆရာကြီးတွေရဲ့ ဆရာ့ဆရာကြီးတွေ ထဲမှာကော ပြဟ္မာကို တွေ့ဖူးသူ ရှိသလား*' လို့ ထပ်မေးပြန်တယ်၊ ဒီအခါမှာလည်း ဝါသေဋ္ဌက '*မရှိပါဘုရား*' လို့ပဲ ဖြေရှာတယ်"

"သူတို့က ဘိုးစဉ်ဘောင်ဆက် မိရိုးဖလာကိုးကွယ် သင်ယူလာသူတွေဆိုတော့ ဘယ်တွေ့ဖူးပါ့မလဲ။ ဒါပေမယ့် လက်ဦးပထမ ပြဟ္မာကိုးကွယ်မှုအယူအဆကို စတင်တီထွင်ခဲ့ပြီး ဝေဒကျမ်းတွေကိုစီရင်ခဲ့တဲ့ ဗြာဟ္မဏကြီးတွေကတော့ တွေ့ဖူးကောင်းတွေ့ဖူးမှာပေါ့။ ဥပမာ မျက်မှောက်ခေတ် ဗုဒ္ဓဘာသာဝင်တွေဟာ ဗုဒ္ဓမြတ်စွာကို သက်ရှိထင်ရှား

မဖူးမြော် ခဲ့ကြဖူးပေမယ့် ဗုဒ္ဓဝါဒကို ဆက်လက်လိုက်နာပြီး သာသနာတော် ပြန့်ပွားရေးကို လုပ်ဆောင်ခဲ့တဲ့ ဘုရားရှင်လက်ထက်က သံဃာတော်တွေ ဥပါသကာတွေကတော့ ဗုဒ္ဓမြတ်စွာကို သက်ရှိထင်ရှား ဖူးတွေ့ခဲ့ရဖူးတယ် ဆိုတာ သမိုင်းကြောင်း အထောက်အထားတွေက သက်သေခံနေ သလိုပေါ့”

“ဒါကြောင့် ဗုဒ္ဓမြတ်စွာက ဝါသေဋ္ဌကို ထပ်ပြီး ‘*ဗြာဟ္မဏဝါဒကို စတင်တီထွင်ပြီး ဝေဒကျမ်းဂန်တွေ စီရင်ခဲ့ကြတယ်ဆိုတဲ့ ပုဂ္ဂိုလ်ကြီးတွေကရော အဲဒီ မဟာဗြဟ္မာကြီးကို မြင်တွေ့ခဲ့ဖူးတယ်၊ သူ့ရဲ့ ဘုံဌာနသွားရာလမ်းကို သိတယ်လို့ ပြောခဲ့ဖူးသလား*’ လို့ မေးခဲ့ပြန်တယ်လေ’

“ဒီတော့ ဝါသေဋ္ဌကဘယ်လိုများ ပြန်ဖြေလိုက်သတုံး”

“ဝါသေဋ္ဌက ‘*အဲဒီ ပုဂ္ဂိုလ်ကြီးတွေလည်း သူတို့ကိုးကွယ်ပူဇော် ပသရာ ဗြဟ္မာကြီးကို မမြင်ဖူးကြဘူး၊ ဗြဟ္မာ့ဘုံ သွားရာလမ်းကိုလဲ သိတယ်လို့ မပြောခဲ့ဘူး*’ လို့ အမှန်အတိုင်း ပြန်ဖြေလိုက်တယ်”

“ဘယ့်နှယ်ဟာတုံးဗျာ၊ ဗြဟ္မာကိုသက်ရှိထင်ရှား ဘယ်သူမှလည်း မမြင်ဖူး၊ မကြားဖူးခဲ့ကြပါဘဲနဲ့ စိတ်ကူးယဉ်ရော်ရမ်းမှန်းဆပြီး ကိုးကွယ် နေကြတယ်ဆိုတော့. . .”

“ဒါကြောင့် ဗုဒ္ဓမြတ်စွာက ‘*ဝေဒကျမ်းတတ် ပုဏ္ဏားတွေရော၊ သူတို့ ဆရာ့ဆရာကြီးတွေရော၊ ဝေဒကျမ်းဂန်ကို စီရင်ခဲ့ပါတယ်ဆိုတဲ့ လက်ဦး ပထမ ဆရာကြီးတွေရော ဗြဟ္မာကို သက်ရှိထင်ရှား မမြင်ဖူး၊ မတွေ့ဖူးပါဘဲနဲ့ ဗြဟ္မာနဲ့ပေါင်းဖော်ဖို့ နည်းလမ်းကိုဟောတယ်ဆိုတဲ့ စကားဟာ အခြေအမြစ် ကင်းမဲ့တဲ့စကား မဟုတ်ပေဘူးလား၊ ဥပမာ ပြောရရင် အချင်းချင်းဆွဲကိုင် ဆက်စပ်နေကြတဲ့ သူကန်းတွေရဲ့ အစဉ် အတန်းမှာ ရှေ့ဆုံးကလည်းမမြင်၊ အလယ်လူကလည်းမမြင်၊ နောက်ဆုံးလူကလည်း မမြင်သလိုဘဲ၊ အဲဒီပုဏ္ဏား တွေရဲ့စကားဟာ သူကန်းတို့ အစဉ် အတန်းနဲ့ တူလှပေရဲ့လား၊ ဒီစကားဟာ ရယ်ဖွယ် အပြောသက်သက် အနက်အဓိပ္ပာယ်မဲ့ပြီး အချည်းအနှီးပေပဲ*’ လို့ ဟောကြားခဲ့တာကို ဒီဃနိကာယ်၊ သီလက္ခန္ဓဝဂ်၊ တေဝိဇ္ဇသုတ်မှာ အကျယ် လေ့လာနိုင်ပါတယ်ဗျာ”

(၃၀-၁၀-၉၂)

ဓမ္မရံသီ၊ ၁၉၉၃ခုနှစ်၊ စက်တင်ဘာလ။

# ရှေးဘဝနောက်ဘဝ ဗုဒ္ဓ မဝေဖန်

"ဟော. . ကိုဝင်းပါလား၊ လာဗျာ ခင်ဗျားနဲ့ တရားဓမ္မအကြောင်း လေးတွေ ဆွေးနွေးချင်နေတာနဲ့ အတော်ပဲ"

"ဟုတ်လား၊ ကျွန်တော်တောင် နေ့လည်ကမှ မြန်မာ့အသံရေဒီယိုက ထုတ်လွှင့်သွားတဲ့ မဟာစည်ဆရာတော် အဂ္ဂမဟာပဏ္ဍိတ အရှင်သောဘန နဲ့ တိပိဋကဓရဓမ္မဘဏ္ဍာဂါရိက ဆရာတော် အရှင်ဝိစိတ္တသာရာဘိဝံသတို့ ဆဋ္ဌသင်္ဂါယနာတင်စဉ်က ပြုလုပ်ခဲ့တဲ့ အမေးအဖြေခန်းကို နားထောင်လာခဲ့ သေးတယ် ကိုလင်းရေ"

"ကျွန်တော် ဆွေးနွေးချင်တာနဲ့တော့ ကွက်တိပဲဗျို့၊ ဒီနေ့ ထုတ်လွှင့် သွားတဲ့ **သံယုတ္တနိကာယ်၊ အဗျာကတသံယုတ်၊ ခေမာသုတ်** က ပသေနဒီ ကောသလမင်းနဲ့ ခေမာထေရီတို့ အပြန်အလှန် အမေးအဖြေ လုပ်တဲ့ အကြောင်းအရာနဲ့ပတ်သက်ပြီး နည်းနည်းနားရှုပ်သွားလို့ဗျာ"

"ဩော်. . သိပြီ၊ ပသေနဒီကောသလမင်းက တမလွန်ရှိ-မရှိ ဆိုတဲ့ကိစ္စနဲ့ ပတ်သက်ပြီး ဗုဒ္ဓရဲ့အယူအဆကိုပြောပြဖို့ ခေမာထေရီကို မေးလျှောက်ရာမှာ ပေးတဲ့အဖြေစကားတွေကို သိပ်သဘောမပေါက်ဘူး ဆိုပါတော့"

"ဟုတ်ပါ့ ကိုဝင်းရာ၊ တမလွန်ဘဝရှိသလားလို့ဆိုတော့ ဒီလို ဗုဒ္ဓ ကမယူဆဘူးတဲ့၊ ဒီလိုယူဆရင် **သဿတဒိဋ္ဌိ** တဲ့ဗျာ၊ တမလွန်မရှိဘူးလား ဆိုတော့လည်း ဒီလိုယူရင် **ဥစ္ဆေဒဒိဋ္ဌိ** မို့ ဗုဒ္ဓရဲ့အယူ မဟုတ်ပြန်ဘူးတဲ့၊ ဒါဖြင့် တချို့သတ္တဝါတွေမှာ တမလွန်ရှိပြီး တချို့မှာမရှိဘူးလို့ ယူရမလားလို့ မေးပြန် တော့လည်း အဲဒါက **ဧကစ္စသဿတဒိဋ္ဌိ** မို့ ဗုဒ္ဓကငြင်းပယ်သတဲ့၊ တမလွန် ဘဝ ရှိတယ်လည်းမဟုတ်၊ မရှိဘူးလည်းမဟုတ်လို့ ယူရမလားလို့ မေးပြန်တော့ ဒီလိုယူတာဟာ **အမရာဝိက္ခေပဒိဋ္ဌိ** မို့ ဗုဒ္ဓကလက်မခံပြန်ဘူး တဲ့ဗျာ၊ ခေမာထေရီက ဆက်တော့ရှင်းခဲ့ပါရဲ့၊ ကျွန်တော်က ဉာဏ်မမီတော့ သဘောမပေါက်လှဘူးဗျာ"

"ကဲ. . ဒါဆို ခင်ဗျားတို့ကျွန်တော်တို့ လူပြိန်းအချင်းချင်း နားလည်

အောင် ဉာဏ်မီသလောက် ဆွေးနွေးကြတာပေါ့ဗျာ”

“တိုတိုနဲ့ လိုရင်းကိုပြောဗျာ”

“အင်း. . . ကိုလင်း နားလည်အောင် အတိုဆုံးအကျဉ်းဆုံး ပြောရမယ်ဆိုရင်တော့ အဲဒီတမလွန်ဘဝ ရှိတယ်-မရှိဘူးစတဲ့ ကြံစည်တွေးခေါ်မှုတွေအားလုံးဟာ မဂ်ဖိုလ်နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်းသာလျှင် အန္တိမရည်မှန်းချက် ပန်းတိုင်အဖြစ် ခံယူကျင့်သုံးလျက်ရှိကြတဲ့ ထေရဝါဒ ဗုဒ္ဓဘာသာဝင် စစ်စစ်တစ်ယောက်အတွက် လုံးဝထည့်စဉ်းစားစရာမလိုတဲ့ အကြောင်းအရာတွေပဲဗျ”

“ဟုတ်မှလည်းလုပ်ပါ ကိုဝင်းရာ၊ ခင်ဗျားတို့ ကျွန်တော်တို့ထက် တတ်သိနားလည်တဲ့ ပညာရှင်ကြီးတွေ ကိုယ်တိုင်ကတောင် ဗုဒ္ဓဝါဒရဲ့ မှန်ကန်တိကျမှုကို ရှေးဘဝနောက်ဘဝတည်ရှိကြောင်း သိပ္ပံနည်းကျ အထောက်အထားတွေပြပြီး သက်သေထူနေကြမှဖြင့် ဗုဒ္ဓဝါဒီတစ်ယောက် အနေနဲ့ တမလွန်ဘဝကို ထည့်မစဉ်းစားလို့ ဖြစ်ပါ့မလားဗျ”

“သိပ်ဖြစ်တာပေါ့ဗျာ၊ *တကယ်တော့ ရှေးဘဝနောက်ဘဝရှိတယ် ဆိုတဲ့ အယူအဆဟာ ဗုဒ္ဓဝါဒရပ်တည်နိုင်ဖို့ အရေးပါတဲ့အခြေခံအုတ်မြစ် မဟုတ်ဘူးဗျ။ ရှေးဘဝနောက်ဘဝ ရှိရှိ-မရှိရှိ ဗုဒ္ဓဝါဒမှန်ကန်တဲ့အကြောင်း သက်သေထူနိုင်ပြီးသားပါ* ကိုလင်းရာ”

“ဒါဖြင့် အဲဒီပုဂ္ဂိုလ်တွေကဘာလို့များ လူဝင်စားကိစ္စတွေ။ ပရလောကအကြောင်းတွေကို ရှေ့တန်းတင်ပြီး ဗုဒ္ဓဝါဒနဲ့ဆက်စပ်ယူ နေကြတာတုံး”

“ဒါကတော့ သူတို့ကိုယ်တိုင် *သေပြီးနောက် ဘဝသစ်တစ်ဖန် ပြန်ဖြစ်လိုတဲ့ ဘဝတဏှာ* ကို မဖြတ်နိုင်ကြလို့ပေါ့ ကိုလင်းရာ၊ သူတို့က ပစ္စုပ္ပန်ဘဝကို တွယ်တာမြတ်နိုးနေပေမယ့် တစ်နေ့ကျသေရမယ်ဆိုတာ ကိုလည်း အတွေ့အကြုံအရ သိနေကြတယ်လေ၊ ဒီလိုသေဆုံးသွားတဲ့ နောက်မှာ ကိုယ်တွယ်တာမြတ်နိုးရတဲ့ဘဝလေး၊ အပြီးတိုင် ချုပ်ငြိမ်းသွား မှာကိုမလိုလားဘူး၊ သိပ်ကြောက်ကြတယ်။ ဒီတော့ သေပြီးနောက် ဘဝသစ်တစ်ခု ထပ်ပြီး ပေါက်ပွားရှင်သန်လိုတဲ့ ဆန္ဒစွဲကကြီးမားလာတယ်၊ အဲဒီဆန္ဒစွဲဟာ ဘဝတဏှာဘဲ၊ ဒီဘဝတဏှာရဲ့ လှုံ့ဆော်မှုကြောင့် ငါသေရင် နောက်ဘဝသစ်တဖန် ပြန်ဖြစ်ကိုဖြစ်ရမယ်ဆိုတဲ့ အယူအဆဖြစ်ပေါ် လာတော့တာပေါ့ဗျာ”

“အေးဗျ၊ အဲဒီဆန္ဒစွဲနဲ့ ပေါက်ဖွားလာတဲ့ယုံကြည်မှုကို စွဲမြဲသည်

ထက်စွဲမြဲ၊ ခိုင်မာသည်ထက် ခိုင်မာလာအောင် အထောက်အထားတွေ အမျိုးမျိုးရှာ၊ အကြောင်းစုံပြပြီး ရှေးဘဝနောက်ဘဝ စွဲလန်းမှုအယူအဆ ပေါ်ပေါက်လာတာပဲ ဖြစ်ရမယ်၊ ဒါပေမယ့်ကိုဝင်းရေ၊ တချို့ပုဂ္ဂိုလ်များ ကျတော့ သေရင်ဘဝပြတ်ပြီ၊ နောင်တမလွန်ဆိုတာ မရှိဘူးလို့ ဆိုကြပြန်ပါ ရောလားဗျာ"

"အဲဒါကလည်း တဏှာတစ်မျိုးရဲ့အစွမ်းပဲဗျ၊ အဲဒါကို **ဝိဘဝတဏှာ** လို့ခေါ်တယ်"

"ဝိဘဝတဏှာဆိုတော့ ဘဝတဏှာရဲ့ ဆန့်ကျင်ဘက်ပေါ့နော"

"ဒါပေါ့ဗျာ၊ တချို့လူတွေက လောကကြီးကို တစ်စက်ကလေးမှ အကောင်း မမြင်တတ်ကြဘူး၊ **အဆိုးမြင်ဝါဒီ** *(Pessimist)* တွေပေါ့ဗျာ၊ ဗုဒ္ဓဝါဒကနေ လမ်းလွဲသွားတဲ့ **ဂေါတုလိက** ဂိုဏ်းသားတွေဟာ လောကကြီးကို အလျှံတညီးညီးတောက်လောင်နေတဲ့ မီးကျီစုကြီး၊ ပူလောင် လှတဲ့ ပြာပုံကြီးအလား ရှုမြင်ကြတယ်ဆိုပဲ၊ အဆိုးမြင်ဝါဒီတွေဟာ ဘဝရဲ့ တည်ရှိမှုကို လုံးဝမလိုလားကြဘူး။ ဘဝကို အမြန်ဆုံးချုပ်ငြိမ်း ရပ်စဲပစ်ချင် ကြတယ်။ ဘဝဆိုတာ မြန်မြန်သေရင် မြန်မြန်အေးတာပဲ၊ သေပြီးနောက် ဘဝသစ်တစ်ဖန် ပြန်ဖြစ်ရင်လည်း ဘယ်တော့မှကောင်းမှာမဟုတ်ဘူးလို့ ယူဆကြတယ်။ အချုပ်ပြောရရင်ဖြင့် ဘဝကိုအလွန်စက်ဆုပ်ရွံရှာ မုန်းတီးပြီး ပြတ်စဲချုပ်ငြိမ်းလိုတဲ့ အလိုရမ္မက်ဆန္ဒ ကြီးမားမှုဟာ ဝိဘဝတဏှာပဲဗျ"

"ဒါဆို ကိုယ့်ကိုယ်ကို သတ်သေသွားတဲ့သူတွေဟာ ဒီဝိဘဝ တဏှာရဲ့လှုံ့ဆော်မှု အားကြီးမှုကြောင့်လို့ ဆိုရမှာပေါ့နော်"

"မှန်တာပေါ့ ကိုလင်းရာ၊ ဒါပေမယ့် တချို့က ဒီဘဝကိုမလိုလားလို့ သတ်သေကြပေမယ့် တမလွန်ဘဝကို ယုံကြည်စွဲလမ်းကြပြန်ရောဗျ"

"အင်း . . ဒီလူတွေကျတော့ ယခုဘဝမှာဖြင့် ငါ့အတွက် ကောင်း စရာမရှိတော့ဘူး၊ သေပြီးတမလွန်ဘဝသစ်ကိုရောက်ပါမှ အခုထက် သာလွန်ကောင်းမွန်တဲ့ အခြေအနေသစ်ကိုရလိမ့်မယ်လို့ ယူဆကြတယ် ထင်ပ့ါ၊ သေရင် ကောင်းကင်ဘုံကို ရောက်မယ်လို့ ယုံကြည်ပြီး ကိုယ့် ကိုယ်ကို သတ်သေသွားကြတဲ့ ဘာသာရေး ဂိုဏ်းဝင်တွေလိုမျိုးပေါ့နော်"

"လူတိုင်းလူတိုင်းမှာ ဘဝတဏှာနဲ့ ဝိဘဝတဏှာတို့ကတော့ ဒွန်တွဲ လွန်ဆွဲနေကြတာပါပဲဗျာ၊ ဘဝတဏှာ အားကြီးလွန်းသူတွေက သေပြီး နောက် ဘဝပြတ်စဲမှာကို ကြောက်လေတော့ တမလွန်ဘဝရှိတယ် ဆိုတဲ့ အယူကိုနှစ်သက်တယ်။ ဒီလိုနှစ်သက်မှုကြောင့် သတ္တဝါဟာ သေရင်

ဘဝမပြတ်ဘူးဆိုတဲ့ သဿတဒိဋ္ဌိအယူကို စွဲစွဲလမ်းလမ်း ခံယူထားကြတာပေါ့”

“ဒါဖြင့် ဝိဘဝတဏှာ အားကြီးလွန်းသူတွေဟာ ဒီဘဝကို အမြန်ဆုံးချုပ်ငြိမ်းချင်သလို နောင်ဘဝရှိမှာကိုလည်း စိုးရွံ့လေတော့ သတ္တဝါဆိုတာ သေရင်ပြတ်ပြီ၊ တမလွန်မရှိဘူးဆိုတဲ့အယူကို နှစ်သက်ပြီး ဥစ္ဆေဒဒိဋ္ဌိအယူကို စွဲလမ်းကြတာပဲပေါ့။ တွေးကြည့်လိုက်တော့ လူတွေဟာ ကိုယ်ဖြစ်ချင်တဲ့ ဆန္ဒစွဲကိုလိုက်ပြီး နှစ်သက်ရာအယူဝါဒကို မှန်တယ်လို့ ခံယူကြ၊ မှန်ကန်ကြောင်း အထောက်အထားတွေပြကြနဲ့ အလုပ်ရှုပ်ကုန် ကြတာပဲ ထင်ပါတယ် ကိုဝင်းရာ”

“အမှန်တရားကို မသိမမြင်နိုင်လောက်အောင် ဆန္ဒစွဲတွေဖုံးလွှမ်းခံထားရပြီးမှ ကြံဆတီထွင်ထွက်ပေါ်လာတဲ့ အယူတွေမို့ ဗုဒ္ဓမြတ်စွာက သဿတဒိဋ္ဌိနဲ့ ဥစ္ဆေဒဒိဋ္ဌိတွေအဖြစ် ပယ်ခဲ့တာပေါ့”

“ဒါတော့ ဟုတ်ပါပြီ၊ တမလွန် ရှိတယ်လည်းမဟုတ်၊ မရှိဘူးလည်း မဟုတ်ဆိုတဲ့ **အမရာဝိက္ခေပဒိဋ္ဌိ** ကို ပယ်တာကရောဗျာ”

“အဲဒါ ဗုဒ္ဓခေတ်က **သိဥ္စည်းဆရာကြီး** ရဲ့အယူဗျ၊ သူက ဘယ်လို အမေးပုစ္ဆာမျိုးလာလာ၊ ဟိုလိုလည်းမဟုတ်၊ ဒီလိုလည်းမဟုတ်နဲ့ ဖြေတတ်လွန်းလို့ သူ့အယူဝါဒဟာ ဘာမှမရေရာဘဲ၊ ငါးရှဥ့်ကိုဖမ်းရသလို အမိအရဆုပ်ကိုင်ဖို့ ခက်တဲ့အတွက် အမရာဝိက္ခေပဒိဋ္ဌိလို့ခေါ်သတဲ့၊ အနောက်တိုင်း ဒဿနိကပညာက **မသိဝါဒ** *(Agnostism)* နဲ့ ခပ်ဆင်ဆင် တူတယ်လို့ ဆိုကြတယ်၊ ဘာမှ တိကျတဲ့အဖြေမရဘဲ မေးသမျှကို လှည့်ပတ်ငြင်းရင်းနဲ့ အချိန်ကုန်တဲ့ဝါဒမို့ ဗုဒ္ဓကပယ်ခဲ့တာပဲဗျ”

“ဒါဖြင့် တချို့မှာတမလွန်ဘဝရှိပြီး တချို့မှာမရှိဘူးဆိုတဲ့ **ဧကသစ္စ သဿတဒိဋ္ဌိ** ကို ပယ်တာကရောဗျာ။ ကျွန်တော့်အမြင်နဲ့ ပြောရရင်ဖြင့် ဒီအယူဟာ မျက်မှောက်ခေတ် သိပ္ပံနည်းကျတွေ့ရှိချက်တွေနဲ့ ကိုက်ညီတယ်လို့ ထင်တယ်”

“ကိုလင်းက လူတစ်သန်းမှာ တစ်ယောက်နှုန်းလောက် တွေ့ရတတ်တဲ့ လူဝင်စားဆိုတဲ့ပုဂ္ဂိုလ်တွေကို အကြောင်းပြုပြီးပြောတာ ထင်တယ်”

“ဟုတ်တယ်လေဗျာ၊ တစ်ခါကသေဆုံးသွားသူတွေရဲ့ အကြောင်းကို အတိအကျ ပြောနိုင်ဆိုနိုင်ခံစားသိရှိနိုင်ပြီး ကိုယ့်ကိုယ်ကိုလည်း အဲဒီသေသူ ပြန်ဝင်စားတာပါပဲလို့ ယုံကြည်နေတဲ့လူတွေကို လက်တွေ့ပြနိုင်နေမှပဲဗျ”

"ကိုလင်းစကားထဲကကို အဖြေပေါ်နေပြီပဲဗျာ၊ ဒီလူတွေကို လေ့လာပြီး သိပ္ပံနည်းကျ စူးစမ်းလေ့လာ ကောက်ချက်ချတတ်သူတွေက တချို့လူတွေဟာ သေရင်လူပြန်ဖြစ်တတ်တယ်လို့ ဘယ်တော့မှယူဆမှာ မဟုတ်ဘူး။ ခင်ဗျားပြောသလိုပေါ့၊ တချို့လူတွေဟာ သူတို့မမွေးဖွားခင် ကာလတစ်ခုက သေဆုံးသွားသူတစ်ဦးနဲ့ အမှတ်သညာ၊ အပြောအဆို၊ အပြုအမူ၊ ကိုယ်ရည်ကိုယ်သွေး၊ အင်္ဂါရုပ်ချင်းတူညီပြီး သူ့ကိုယ်ကိုသူ အဲဒီ သေသူ ပြန်ဝင်စားတာပဲဖြစ်တယ်လို့ ထင်မှတ်နေတတ်လေ့ရှိတယ် လို့သာ ကောက်ချက် ချလိမ့်မယ်ဗျ၊ အမြဲမှန်တဲ့သဘာဝတရားလို့ လက်မခံဘဲ သဘာဝလွန် ဖြစ်ရပ်တစ်ခုလို့သာ ယူဆလိမ့်မယ်၊ လူဝင်စားပါလို့တော့ ဘယ်တော့မှ လက်ခံမှာမဟုတ်ဘူး"

"ခင်ဗျာ့အယူအဆက ယုံကြည်မှုခေါင်းပါးပြီး ပစ္စုပ္ပန်ကိုချည်း ဦးစားပေးရာ မရောက်လွန်းဘူးလားဗျာ"

"သိပ္ပံနည်းကျ စူးစမ်းလေ့လာမှုဆိုတာ ယုံကြည်မှုတွေ၊ ဆန္ဒစွဲတွေ ဘေးဖယ်ပြီး ပစ္စုပ္ပန်ကိုသာ သရုပ်ခွဲလေ့လာရတာဗျ၊ ပြီးတော့ ပစ္စုပ္ပန် အတွက်သာ တိကျမှန်ကန်တဲ့ဥပဒေသကို ထုတ်ပေးနိုင်တာ၊ အတိတ်နဲ့ အနာဂတ်အတွက် ထာဝရသေချာရေရာတဲ့ ဥပဒေသမျိုးကို သိပ္ပံနည်းကျ စူးစမ်းမှုက ဘယ်တော့မှ ထုတ်မပေးနိုင်ဘူး ကိုလင်းရဲ့"

"ဒါဆိုရင် လူဝင်စားဖြစ်ရပ်တွေကို သိပ္ပံနည်းကျ အထောက် အထားတွေပါလို့ ပြောဆိုရေးသားနေကြတာတွေဟာ အလကားပဲပေါ့"

"ဒါတော့ ခင်ဗျာ့ကိုယ်ပိုင်ဉာဏ်နဲ့ ချင့်ချိန်ဆုံးဖြတ်ပေါ့ဗျာ၊ ကျွန်တော့် အနေနဲ့ အသေအချာပြောနိုင်တာကဖြင့် အဲဒီရှေးဘဝ နောက်ဘဝ အစွဲအလမ်းတွေ၊ လူဝင်စားပြဿနာတွေဟာ ထေရဝါဒ ဗုဒ္ဓသာသနာတော် အဆုံးအမနဲ့အညီ လိုက်နာကျင့်ကြံ အားထုတ်လို သူတွေအတွက် ဘာမှအသုံးမတည့်၊ အကျိုးလည်းမရှိ၊ ထည့်တွက်စရာ လည်းမလိုဘူးဆိုတာဘဲ ကိုလင်းရေ"

"အေးဗျာ၊ *တိတိပပ အဖြေမထုတ်နိုင်ဘဲ ခနော်ခနဲ့နိုင်တဲ့ အယူ အဆတစ်ရပ်အပေါ် မှာ အခြေပြုပြီး ဗုဒ္ဓဝါဒမှန်ကန်ကြောင်း သက်သေ ထူဘာဟာ ဗုဒ္ဓဝါဒကို ခိုင်မာအောင်လုပ်ရာ မရောက်တဲ့အပြင် ဘာသာခြား တွေရဲ့ ချောက်ချားမှုကြောင့် ချည့်နဲ့ယိမ်းယိုင်သွားစေနိုင်တယ်* ဆိုတာ သတိပြုသင့်သဗျနော့"

"မှန်တာပေါ့ ကိုလင်းရာ၊ ဒီလို မရေရာမသေချာတဲ့ အယူတွေကို

စွဲလမ်းခြင်းအားဖြင့် အမှန်တရားနဲ့ ကင်းကွာသွားမှာစိုးတဲ့အတွက် ဗုဒ္ဓမြတ်စွာက တမလွန်ဘဝနဲ့ပတ်သက်ပြီး ဘယ်လို အစွဲမျိုးကိုမှ လက်မခံကြဖို့ အခါအခွင့်သင့်တိုင်း မိန့်ကြားသွားခဲ့တာပဲဗျ"

"ဒါဆို ဗုဒ္ဓဝါဒရဲ့အခြေခံအုတ်မြစ်ဟာ ရှေးဘဝနောက်ဘဝ တည်ရှိမှုဆိုတဲ့ အယူအဆမဟုတ်ဘူးပေါ့နော်"

"သေချာတာပေါ့ဗျာ၊ ရှေးဘဝဆိုတဲ့ အတိတ်ကာလဟာ ဘယ်မှာရှိတော့လို့တုန်း၊ ခေါ်ယူကိုင်တွယ်ပြလို့ရတဲ့ အရာမှမဟုတ်ဘဲ။ ဒီလိုပါပဲ၊ နောက်ဘဝဆိုတဲ့ အနာဂတ်ကာလကရော ဘယ်မှာရောက်လာသေးလို့လဲ၊ မရှိတော့တဲ့၊ မရှိသေးတဲ့ အကြောင်းအရာတွေအပေါ် အာရုံကျက်စားနေသရွေ့ ဘယ်မှာလာအမှန်တရားကို သိမြင်နိုင်ပါတော့မလဲ၊ ဒါကြောင့် ပစ္စုပ္ပန်နဲ့ မသက်ဆိုင်တဲ့ အကြောင်းအရာတွေအပေါ် စွဲလမ်းမှုမှန်သမျှကို မိစ္ဆာဒိဋ္ဌိအယူတွေအဖြစ် ဗုဒ္ဓမြတ်စွာကသတ်မှတ်ခဲ့တာပေါ့၊ မိစ္ဆာဒိဋ္ဌိ အယူတွေ ရှိနေသရွေ့ နိရောဓသစ္စာအမှန် မဂ်ဖိုလ်နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ရေးအတွက်လိုအပ်တဲ့ မဂ္ဂသစ္စာရဲ့ဦးစီးဦးဆောင် သမ္မာဒိဋ္ဌိအမြင်နဲ့ ဘယ်တော့မှ ပြည့်စုံမှာမဟုတ်ဘူးဗျ"

"ဒါပေမဲ့ မဟာယာနဗုဒ္ဓဘာသာ ဂိုဏ်းကွဲတချို့အတွက်တော့ ရှေးဘဝနောက်ဘဝတည်ရှိမှု အယူအဆက အရေးကြီးတယ်ဆိုပဲ ကိုဝင်းရဲ့"

"ဟုတ်ပါတယ်၊ မိမိတို့ကိုယ်ကို ဘုရားဆုပန်ထားတဲ့ ဘုရားလောင်းဗောဓိသတ္တတွေအဖြစ် ခံယူထားတဲ့ မဟာယာနဗုဒ္ဓဘာသာဝင်တွေအဖို့မှာတော့ အတိတ်ဘဝပေါင်းများစွာက ဖြည့်ကျင့်ခဲ့ရတဲ့ ပါရမီအနည်းအများဟာ အလွန်အရေးကြီးတယ်၊ သူတို့က ပါရမီဖြည့်မှ ဘုရားဖြစ်၊ ဘုရားဖြစ်ပြီးမှ သတ္တဝါတွေကို ကယ်တင်ချွေချွတ်ပြီး နိဗ္ဗာန်ရွှေပြည်ကို စံဝင်ကြရမှာကိုး၊ ဒီတော့ အတိတ်ဘဝကို ထည့်မစဉ်းစားလို့ မရဘူးလေ၊ နောက်ပြီး သူတို့ရဲ့ နိဗ္ဗာန်ဆိုတာကလည်း ချမ်းသာသုခအပေါင်းနဲ့ ပြည့်စုံပြီး တမလွန်လောကမှာသာရှိတဲ့ ဘုံနန်းတစ်ခုဖြစ်လေတော့ အနာဂတ်ဘဝကိုလည်း စွဲလမ်းမျှော်မှန်းကြရတော့တာပေါ့"

"အေးဗျာ၊ ဒါကိုသဘောမပေါက်သေးတဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်တချို့က အဲဒီရှေးဘဝနောက်ဘဝ အစွဲအလန်းတွေကို သာသနာတော်ထဲ ဆွဲသွင်းလာတာဟာ သမ္မာဒိဋ္ဌိမဂ္ဂင်နဲ့ ပြည့်စုံရေးအတွက် ကြီးမားတဲ့ အနှောင့်အယှက် ဖြစ်နေတော့တာပဲ ကိုဝင်းရေ"

"ကိုင်း. . . ဒီလောက်ဆိုရင် ကိုလင်းလည်း ခေမာသုတ်လာ ခေမာထေရီရဲ့ အဖြေစကားကို နားလည်လောက်ရောပေါ့၊ ဒါ့အပြင် ထေရဝါဒဗုဒ္ဓဘာသာဟာ အတိတ်နဲ့အနာဂတ်ပေါ်မှာ အခြေမခံဘဲ ပစ္စုပ္ပန် တည့်တည့်ကိုသာ အလေးပြုတဲ့ဓမ္မဆိုတာလည်း သဘောပေါက်လောက် ပါပြီ၊ နောင်များ အခွင့်သာရင်ဖြင့် ထေရဝါဒဗုဒ္ဓဘာသာဝင်တို့ရဲ့ ပန်းတိုင် ဖြစ်တဲ့ မဂ်ဖိုလ်နိဗ္ဗာန်ဆိုတာဟာ တမလွန်ဘဝမှာမှ ရောက်နိုင်တဲ့နေရာ ဌာနမျိုးမဟုတ်ဘဲ လောဘ၊ ဒေါသ၊ မောဟစတဲ့ ကိလေသာတရားများ ကင်းစင်တဲ့ မျက်မှောက်ဘဝခန္ဓာကိုယ်နဲ့ပဲ လက်ငင်းဒိဋ္ဌခံစားနိုင်တယ် ဆိုတဲ့ (သဉပါဒိသေသနိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း) အကြောင်း အကျယ် ဆွေးနွေးကြသေးတာပေါ့ဗျာ"

(၁၅-၃-၉၃)

ဓမ္မရံသီ၊ ၁၉၉၃ခုနှစ်၊ ဇွန်လ။

# ပန်းတိုင်ချင်းမတူပါ

"ကိုဝင်းပါလား၊ ပျောက်ချက်သား ကောင်းလှချည်လားဗျ"

"ပျောက်ဆို သမုဒ္ဒရာဝမ်းတစ်ထွာအတွက် လှုပ်ရှားနေရလို့ပေါ့ဗျာ"

"မသိပါဘူးဗျာ၊ ခုတလော စာရေးဆရာတွေ တောထွက်တာခေတ်စားနေလို့ ခင်ဗျားလည်း ဟိုဆရာလိုပါဂျဲရှိုးစီးပြီး တောထွက်သွားပြီလားလို့ပါ"

"ခင်ဗျားကလည်း စတွေ့တာနဲ့ မဟုတ်မဟပ်ပြောတော့မယ်"

"အဲဒါ အဟုတ်အဟပ်ပါဗျ။ ကျုပ်တို့ဆီက ဂျာနယ်တွေ၊ မဂ္ဂဇင်းတွေမှာ အဲဒီဆရာ ဘယ်နေ့ကတောထွက်သွားပြီ၊ ဘယ်မြို့ကဘယ် ထမင်းဆိုင်မှာဝင်စားပြီး ဘယ်နေရာမှာ တုပ်ကွေးမိနေပြီဆိုတာကအစ မဟာသတင်းထူးကြီးတစ်ခုလို အလုအယက်ထည့်နေကြတာဗျ"

"ကျွန်တော်လည်း ဖတ်ရပါတယ်ဗျာ၊ ဒါပေမဲ့ အဲဒီဆရာက သူ့ကိုယ်ကိုသူ တောထွက်တယ်လို့ မသုံးခဲ့ပါဘူး၊ ဂန္ဓာရီခရီးထွက်တယ်လို့ပဲသုံးခဲ့တာပါဗျာ"

"ဒါပေမဲ့ ကိုယ့်အိမ်ရာနဲ့ လူဝတ်ကြောင်ဘဝကိုစွန့်ပြီး ပိတ်ဖြူစင်ကြယ်နဲ့ ထွက်သွားတာဆိုတော့ တောထွက်တယ်လို့ပဲ လွယ်လွယ်ပြောကြတာပေါ့ဗျာ"

"လူတွေက လွယ်လွယ်ပြောကြပေမယ့် အဓိပ္ပာယ်ချင်း၊ အနှစ်သာရချင်း မတူဘူးဗျ။ ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓဘာသာဝင်များအဖို့ တောထွက်တယ်လို့ ပြောလိုက်ရင် မိမိရဲ့လောကီစည်းစိမ် ဥစ္စာတွေကို အပြီးအပိုင်စွန့်လွှတ်၊ လူသူကင်းဝေးရာ တောရိပ်တောင်ရိပ်ကို ခိုလှုံပြီး သစ်တစ်ပင် ဝါးတစ်ပင်အောက်မှာ မဂ်ဖိုလ်နိဗ္ဗာန်ရောက်ကြောင်းတရား ကျင့်ကြံအားထုတ်တာကိုသာ မြင်ယောင်လာကြမှာဗျ။ ခင်ဗျားပြောတဲ့ ဆရာက လောကီသိဒ္ဓိအဝဝ ပြီးပြည့်စုံရေးကိုရည်ရွယ်ပြီး ဂန္ဓာရီကျင့်စဉ်တွေ ကျင့်ကြံအားထုတ်ဖို့ ခရီးထွက်သွားတာပဲ၊ *ထေရဝါဒဗုဒ္ဓဘာသာဝင်များ*

*သိထားတဲ့ ထောထွက်ခြင်းဆိုတာက ပါရမီဆယ်ပါးထဲက နိက္ခမပါရမီကို ဖြည့်ကျင့်တဲ့သဘော၊ ဒီဆရာ ခရီးထွက်တာက ထေရဝါဒဗုဒ္ဓဘာသာနဲ့ ဘာမှ မဆိုင်တဲ့ ဂန္ဓာရီကျင့်စဉ် ကျင့်ကြံတဲ့သဘော* မို့ သူ့လမ်းနဲ့သူ တခြားစီ ပါဗျာ။ မူလဗုဒ္ဓဘာသာကနေ ခွဲထွက်သွားတဲ့ မဟာယာနဗုဒ္ဓဘာသာ ဂိုဏ်းကွဲတချို့ အတွက်တော့ ဒီအလုပ်မျိုးက မထူးဆန်းလှပါဘူး”

“ဒါဆိုရင် အဲဒီမဟာယာန ဂိုဏ်းကွဲတချို့က ယုံကြည်လက်ခံ ထားတဲ့ ဂန္ဓာရီခရီးထွက်ရခြင်းရဲ့ အကြောင်းရင်းကို နည်းနည်းရှင်းပြစမ်း ပါအုံး”

“ဒီလိုဗျ၊ သူတို့က နိဗ္ဗာန်ဆိုတာ နေရာဌာနတစ်ခုရယ်လို့ ယုံကြည် ထားကြတယ်၊ ဖန်ဆင်းရှင် ထာဝရဘုရားသခင်ကို ကိုးကွယ်သူတွေ လက်ခံ ထားတဲ့ ထာဝရအသက်ရှင်ရာ ကောင်းကင်ဘုံနဲ့ သဘောချင်းအတူတူပါပဲ၊ အနောက်အရပ်မှာတည်ရှိပြီး အမြဲတမ်းရှင်သန်နိုးကြား သက်ရှိထင်ရှား စံပယ်တော်မူနေတဲ့ အာဒိဗုဒ္ဓလို့ခေါ်တဲ့ ထာဝရဘုရားသခင်ကြီး ရှိနေတယ် လို့ ယုံကြည်ထားကြတယ်လေ”

“လောကမှာ မိမိကိုယ်ကိုအစိုးရနေသူ ထာဝရတည်မြဲနေသူ ရယ်လို့ မရှိဘူးဆိုပြီး ဖန်ဆင်းရှင် ကယ်တင်ရှင်အယူအဆကို ငြင်းပယ်ခဲ့တဲ့ မူလဗုဒ္ဓဘာသာနဲ့တော့ တခြားစီပဲဗျ”

“သူတို့ အယူအဆကတော့ အဲဒီ ထာဝရဘုရားသခင် တည်ရှိရာ ဌာနမှာအတူရှိနေတဲ့ ဘုရားအလောင်း ဗောဓိသတ္တတွေ၊ ဝိဇ္ဇာဓိုရ်တွေရဲ့ လမ်းညွှန်ချက်အတိုင်း ကျင့်ကြံအားထုတ်ကြမယ်ဆိုရင် ဘယ်သောအခါမှ သေဆုံးပျောက်ပျက်ခြင်းမရှိတဲ့ ထာဝရအသက်ကို ပိုင်ဆိုင်ကြမယ်။ ဒီလို ထာဝရအသက် ပိုင်ဆိုင်သူများဟာ ကမ္ဘာမြေရဲ့တစ်နေရာမှာရှိတဲ့ ထာဝရ ဘုရားသခင် စံပယ်တော်မူနေရာ နယ်မြေဒေသထဲကို ဝင်ခွင့်ရသွားမယ်လို့ ယုံကြည်ထားကြတယ်ဗျ၊ ဂန္ဓာရီသမားတွေရဲ့ စကားနဲ့ပြောရရင် **အရှင်ထွက်** ထွက်သွားတယ်ပေ့ါဗျာ”

“ခင်ဗျားပြောတဲ့ နယ်မြေဒေသဆိုတာ အနောက်တိုင်းသားတွေက **သျှမ်ဘဲလား (ရှမ်ဂရီလာ)** လို့တစ်မျိုး၊ မြန်မာတို့က **မဟာမြိုင်တော** လို့ တစ်သွယ် တင်စားပြောဆို ရေးသားနေကြတဲ့ နေရာပဲမဟုတ်လား”

“အမှန်ပါပဲဗျာ၊ သျှမ်ဘဲလားပဲပြောပြော၊ မဟာမြိုင်လို့ပဲဆိုဆို လိုရင်းကတော့ ဖန်ဆင်းရှင် ထာဝရဘုရားကိုးကွယ်သူတွေ ယုံကြည်ထား တဲ့ ကောင်းကင်ဘုံအယူအဆနဲ့ အတူတူပါပဲ။ ဂန္ဓာရီသမားတွေကတော့

သူတို့ ကိုးစားရာ ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ကြီးများဟာ အဲဒီဒေသကို အရှင်ထွက် ထွက်သွားတယ်လို့ ယုံကြည်ထားကြတယ်"

"အင်း. .၊ ကျွန်တော်တွေ့ကြုံဖူးသလောက် ဘိုးတော်ဂိုဏ်းတွေကတော့ သူတို့ရဲ့ခေါင်းဆောင်ကြီးတွေ လူတကာမြင်ကွင်းက ပျောက်သွားပြီး သေသလား၊ ရှင်သလား မသိရတော့ရင် တို့ဆရာကြီး၊ တို့ရဲ့အဖေကြီး **အရှင်ထွက်ထွက်သွားပြီ** လို့ ကြွေးကြော်ကြတယ်။ တကယ်လို့ မမာမကျန်းဖြစ်ပြီး သူတို့ရှေ့တင် ကွယ်လွန်အနိစ္စရောက်သွား ပြန်တော့လည်း **အသေထွက်ထွက်သွားတာ** လို့ ပြောကြပြန်သဗျ"

"ဂန္ဓာရီလမ်းလိုက်သူ အတော်များများဟာ လောကီသိဒ္ဓိတွေ ပြီးမြောက်ပြီး သျှမ်ဘဲလား သို့မဟုတ် မဟာမြိုင်တောဆီ အရှင်ထွက် ထွက်သွားနိုင်ဖို့ ကြိုးစားကြတာပဲ။ ဗုဒ္ဓအဘိဓမ္မာအရဆိုရင် ဘယ်သတ္တဝါမှ လောကရဲ့ နိယာမတရားတွေကို လွန်ဆန်နိုင်စွမ်းမရှိကြပါဘူး။ နိယာမ ငါးပါးထဲက ဗီဇနိယာမနဲ့အညီ လူရယ်လို့ဖြစ်လာရင် လူ့သက်တမ်းစေ့သာ နေခွင့်ရပြီး အချိန်တန်ရင် ကွယ်လွန်အနိစ္စ ရောက်ကြရမှာပါပဲ။ ***လူ့ဗီဇ လူ့သဘာဝကို ကျော်လွန်ပြီး ထာဝရရှင်သန်ဖို့ ကြိုးစားနေကြတဲ့ ဂန္ဓာရီဆရာတွေရဲ့ လုပ်ရပ်ကတော့ ထေရဝါဒ ဗုဒ္ဓဘာသာရှုထောင့်က ကြည့်ရင် အချည်းနှီး အဓိပ္ပာယ်မဲ့တဲ့ စိတ်ကူးယဉ်မှု*** တစ်ခုပါပဲဗျာ"

"ဒါဆို ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ မျှော်မှန်းတဲ့ အို၊ နာ၊ သေ ဘေးကင်းရာ နိဗ္ဗာန်ဆိုတာကရော စိတ်ကူးယဉ်ရာ မရောက်ပေဘူးလား"

"မရောက်ပါဘူးဗျာ။ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေ နိဗ္ဗာန်ရောက်ကြောင်း တရားအားထုတ်တာဟာ ထာဝရအသက်ကိုရဖို့ မဟုတ်သလို ထာဝရသုခနယ်မြေထဲ ရောက်သွားဖို့လည်း မဟုတ်ပါဘူး"

"နိဗ္ဗာန်ရောက်ရပါလို၏လို့ ဆုတောင်းကြတာကရော နိဗ္ဗာန် ဆိုတာ နေရာဒေသတစ်ခုရယ်လို့ ဆိုလိုရာမရောက်ပေဘူးလားဗျာ"

"နိဗ္ဗာန်ဆိုတာ ရောက်အောင်သွားရတဲ့ အရပ်ဒေသတစ်ခု မဟုတ်ဘူးဆိုတာ ထေရဝါဒဗုဒ္ဓဘာသာကို လေ့လာသူတိုင်း သိကြပါတယ်။ လူပြိန်းနားလည်အောင် ရေးကြပြောကြရာက **နိဗ္ဗာန်ရောက်တယ်** ဆိုတဲ့ စကားက တွင်ကျယ်နေတာပါ။ တကယ်တော့ **နိဗ္ဗာန်ကိုမျက်မှောက်ပြုတယ်** ဆိုတာကပိုပြီး အမှန်တရားနဲ့ နီးစပ်ပါတယ်"

"နိဗ္ဗာန်ဟာ ဘုံဌာနနေရာဒေသတစ်ခု မဟုတ်ခဲ့ရင် ဘယ်လိုဟာမျိုးလဲဗျ"

"စစ်မှန်တဲ့အသိတရားတစ်ခုကို သိမြင်လိုက်တဲ့အတွက် **အယူအမြင်စင်ကြယ်မှု** ဖြစ်သွားတာနဲ့တပြိုင်နက် အကျိုးဆက်အဖြစ် လောဘ၊ ဒေါသ၊ မောဟတရားတွေ ချုပ်ငြိမ်းသွားပြီး **လွတ်မြောက်မှုရသ** ကို ခံစားလိုက်ရတာပဲဗျ"

"စင်ကြယ်စွာသိခြင်းရဲ့ အကျိုးဆက်အဖြစ် လွတ်မြောက်မှုရသကို ခံစားရတာဆိုပါတော့၊ ဟုတ်လား"

"ဟုတ်ပါတယ်။ ကျွန်တော် လက်လှမ်းမီသလောက် အရိုးစင်းဆုံး ဥပမာလေးနဲ့ပြောရရင် ခင်ဗျားမှာ ပြည်တန်ပတ္တမြားတစ်လုံး ရှိနေတယ် ဆိုပါတော့၊ အဲဒီပတ္တမြားကြီးကို သူများခိုးဝှက်လုယူသွားမှာ မစိုးရိမ်ဘူးလား"

"စိုးရိမ်မှာပေါ့ဗျ"

"ငါ့ပတ္တမြားကြီး သူများတွေ လာလုလေမလား၊ ခိုးသွားလေမလား ဆိုတဲ့ စိုးရိမ်စိတ်တွေနဲ့ ထိန်းသိမ်းထားနေရချိန်မှာ အဖြစ်မှန်ကိုသိတဲ့ လူတစ်ယောက် ရောက်လာပြီး- 'စိုးရိမ်မနေပါနဲ့ဗျာ၊ ခင်ဗျားရဲ့ပတ္တမြားက အစစ်မဟုတ်ပါဘူး၊ အတုကြီးပါ၊ ဘာမှမက်လောက်စရာ မရှိပါဘူး' လို့ လာပြောရင် ခင်ဗျားအနေနဲ့ ဒီပတ္တမြားတုကြီးအတွက် စိုးရိမ်သောကတွေ ရှိပါအုံးမလား"

"ဘယ်စိုးရိမ်တော့မလဲဗျ။ ပတ္တမြားကအတုကြီးမှန်း သိလိုက် ရတော့ မက်မောတွယ်တာစိတ်တွေလည်း မရှိတော့ဘူး၊ ပျက်စီးဆုံးရှုံး မှာလည်း မကြောက်တော့ဘူး၊ ဝန်ထုပ်ကြီးတစ်ခုကျသွားသလို ပေါ့ပါး လွတ်မြောက်သွားမှာ အမှန်ပဲ"

"ဒါဟာ အမှန်ကိုသိခြင်းအားဖြင့် လွတ်မြောက်ခြင်းဆိုတဲ့ အကျိုးဆက်ကို ရရှိခံစားလိုက်ရတာပဲ မဟုတ်လား"

"ဒါတော့ ဟုတ်ပါပြီ၊ နိဗ္ဗာန်အကြောင်း ဆက်ပါအုံး"

"ဒီသဘောအတိုင်းပါပဲ၊ သတ္တဝါတွေဟာ မိမိတို့ကိုယ်ကို အစိုးရမှု မရှိဘဲ သူ့သဘောသူဆောင်ပြီး ဖြစ်ပျက်နေခြင်း သက်သက်ပါပဲလား။ ငါရယ်၊ သူရယ်၊ ယောကျ်ားရယ်၊ မိန်းမရယ်လို့ ပညတ်ချက်တွေဟာ တကယ် တော့ ဘာမှမရှိပါလားဆိုတာ သိသွားပြီဆိုရင် မိမိကိုယ်ကို တွယ်တာငဲ့ကွက် တဲ့စိတ်တွေ ရှိပါဦးမလား"

"ဘယ်ရှိတော့မလဲဗျာ"

"ဒီလိုတွယ်တာငဲ့ကွက်စိတ်တွေ မရှိတော့ရင် ငါအိုသွားမှာ၊ ငါနာလာမှာ၊ ငါသေရမှာတွေကို တွေးတောပြီး ပူပင်သောကရောက်စရာ ရှိပါဦးမလား"

“ငါဆိုတာမရှိမှန်း ကိုယ်တွေ့သိမြင်လိုက်ရပြီဆိုရင် ဒီခန္ဓာ ကိုယ်ကြီး ‘အို’ မှာလည်းမကြောက်၊ ‘နာ’ မှာလည်းမကြောက်၊ ‘သေ’ မှာလည်း မကြောက်တော့ဘူးပေါ့ဗျာ။ အိုခြင်း၊ နာခြင်း၊ သေခြင်းဆိုတဲ့ သဘာဝတရားတွေက ‘ငါ’ ဆိုတာ မရှိမှန်းသိထားတဲ့ လူတစ်ယောက်ကို မခြောက်ချားစေနိုင်တော့ဘူးပေါ့”

“ကဲ. . . ဒါဆိုရင် အိုခြင်း၊ နာခြင်း၊ သေခြင်းတို့မှ လွတ်မြောက် သွားတာပဲ မဟုတ်လားဗျာ”

“ဟုတ်ပါ့ဗျာ-ဒါ့ကြောင့် နိဗ္ဗာန်ဆိုတာ အိုခြင်း၊ နာခြင်း၊ သေခြင်း တို့မှ လွတ်မြောက်ရာရယ်လို့ တင်စားခေါ်ဝေါ်ကြတာကိုး။ မဟာယာနဂိုဏ်း တချို့က ယုံကြည်ထားတဲ့ အနောက်ဘက်က ထာဝရသုခဘုံတို့၊ ဂန္ဓာရီ ဆရာကြီးများမျှော်မှန်းရာ သျှမ်ဘဲလားတို့နဲ့ ဘာမှမဆိုင်ဘူးဆိုတာ ထင်ရှား နေတာပဲ”

“စောစောက ဥပမာအတိုင်းပြောရရင် ထေရဝါဒဗုဒ္ဓဘာသာဝင် တွေ နိဗ္ဗာန်ရောက်ကြောင်းတရား ကျင့်ကြံအားထုတ်ကြတယ် ဆိုတာဟာ ပြည်တန်ပတ္တမြားလို့ မိမိထင်မှတ်မှားနေတဲ့အရာဟာ ဘာမှတန်ကြေး မရှိတဲ့ ကျောက်နီတုံး တစ်ခုသာ ဖြစ်ကြောင်း မှန်ရာကိုအရှိအတိုင်း သိမြင် လာအောင် ဝေဖန်ဆန်းစစ်ကြတာနဲ့ အလားသဏ္ဌာန်တူပါတယ်။ လောကီ ဂန္ဓာရီလမ်း လိုက်သူတွေကတော့ ဘာမှတန်ကြေးမရှိတဲ့ ကျောက်နီတုံးကို ပြည်တန်ပတ္တမြားရယ်လို့ စွဲပိုက်မှတ်ယူပြီး မိမိလက်ထဲမှာ မပျောက်မပျက် တည်တံ့နေအောင်၊ သက်တမ်းရှည်ကြာ ခိုင်ခန့်နေအောင် အားထုတ် ကြိုးပမ်းနေသူများနဲ့ အလားသဏ္ဌာန်တူပါတယ်”

“အေးဗျာ. . ၊ ခင်ဗျားနဲ့ဆွေးနွေးလိုက်မှပဲ ဂန္ဓာရီခရီးဆိုတာ ထေရဝါဒဗုဒ္ဓသာသနာတော်လာ တောထွက်ခြင်းနဲ့ ကျင့်စဉ်ရောပန်းတိုင်ပါ အခြားနားကြီး ခြားနားနေမှန်း သဘောပေါက်တော့တယ်။ ကျွန်တော်တို့ သဘောပေါက်သလို ထေရဝါဒ ဗုဒ္ဓဘာသာဝင်ရယ်လို့ ခံယူထားသူတိုင်း နားလည် သဘောပေါက်ပြီး အမှန်နဲ့အမှား ခွဲခြားသိမြင်နိုင်ကြပါစေလို့ ဆန္ဒပြုလိုက်ချင်ပါတော့တယ်ဗျာ”

(၆-၈-၉၇)

ဓမ္မရံသီ၊ ၁၉၉၇ခုနှစ်၊ နိုဝင်ဘာလ။

---

# အမိုက်ချင်း ပြိုင်သင့်ပါသလား

"ကိုဝင်းတစ်ယောက် မဂ္ဂဇင်းစာအုပ်ကိုင်ပြီး စုပ်တသပ်သပ်၊ သက်ပြင်း တဟင်းဟင်းချလို့ပါလား၊ ဘာစိတ်မကောင်းစရာတွေများ ဖတ်မိလို့ပါလိမ့်ဗျာ"

"ရင်နာစရာကောင်းလွန်းလို့ပါ ကိုလင်းရယ်၊ ဟောဒီဂျာနယ်ထဲက သတင်းဆောင်းပါးလေး ဖတ်ကြည့်စမ်းပါဦး"

"ဘာများလဲဗျ ပြစမ်းပါဦး။ ဩော်. . . ဟိုတစ်ခါ ညနေ သတင်းစာတစ်စောင်မှာ ပါခဲ့တဲ့သတင်းပဲ။ အေးဗျာ၊ အပြစ်မဲ့တဲ့ သုံးနှစ်အရွယ် သမီးလေးခမျာ ဘုမသိဘမသိနဲ့ ဆေးကုတယ်ဆိုပြီး ရွှံ့ရည်ထဲ နှစ်အသတ်ခံလိုက်ရတာ သနားစရာပါ။ ကုပေးတဲ့ ဆေးဆရာကလည်း အသက်လေးနှစ်သာ ရှိသေးဆိုပဲ"

"ကလေးမလေးကို သနားစရာကောင်းသလောက် ဥမမည် စာမမြောက် တရားဥပဒေအရ သက်သေခံအဖြစ်တောင် စာရင်းသွင်းဖို့ မလွယ်တဲ့ လေးနှစ်သားကလေးကို ဆေးဝိဇ္ဇာယောင်ယောင်၊ ဘိုးတော်ယောင်ယောင်လုပ်ခိုင်းပြီး ရှေ့တန်းတင်ဗန်းပြလိမ်စားတဲ့ အလုပ်ကတော့ ရွံမုန်းစရာပါပဲ ကိုလင်းရာ"

"အင်း. . . လူတွေကလည်း လူတွေပါပဲလေ။ ထူးတယ် ဆန်းတယ် မ,စတယ်ဆိုရင်ကို လောဘဇောကပ်ပြီး ဘယ်ချောင်ကြို ချောင်ကြားကိုပဲဖြစ်ဖြစ် ရေတစ်တန်ကုန်းတစ်တန်နဲ့ အရောက်သွားကြ၊ ကိုးကွယ်ဆည်းကပ်ကြနဲ့ဗျာ။ အဲဒီလေးနှစ်သား ဆေးဝိဇ္ဇာဆိုတဲ့ သူငယ်လေး မပေါ်ပေါက်ခင်က ကွမ်းယာဆိုင်တောင် ရှာမရတဲ့ဇနပုဒ်မှာ အခုတော့ ပွဲဈေးတန်းကိုဖြစ်လို့၊ တည်းခိုခန်းတွေဘာတွေနဲ့ တယ်စည်ကား နေဆိုပဲ"

"သူ့ဆေးကုနည်းကိုလည်း ကြည့်ပါဦးကိုလင်းရယ်၊ တစ်နေ့ တစ်နေ့ ရောက်လာသမျှလူ လေးငါးခြောက်ရာကျော်ထဲက လူမမာတွေကို ရွှံ့လိုလိုဟာတွေ ဖျော်ထားတဲ့ရေကိုတိုက်သတဲ့။ တချို့ကိုလည်း မျက်စဉ်း ခတ်ပေါ့ဗျာ။ သူမန်းထားတယ်ဆိုတဲ့ရေကို အနယ်နယ်အရပ်ရပ်က လာတဲ့

အလွှာပေါင်းစုံက လူကြီးမင်းများက တရိုတသေ ဖူးကြီးဖူးငယ်နဲ့ သယ်ကြသတဲ့။ နောက်ပြီး ရောက်လာတဲ့ လူမမာတချို့ကို ရိုက်နှက်ညှဉ်းပန်းပြီး ကုမှပျောက်မယ်လို့ လေးနှစ်သား ဘိုးတော်လေးကပြောရင် သူ့အဖွဲ့သားတွေက ရိုက်နှက်ညှဉ်းပန်းပေးကြသတဲ့။ အဆိုးဆုံးကတော့ ရေထဲမှာ ဘယ်ရွေ့ဘယ်မျှကြာအောင် နှစ်မြှုပ်ထားရမယ်လို့ ကလေးကအမိန့်ပေးရင် ပေးတဲ့အမိန့်အတိုင်း နှစ်ထားရသတဲ့။ အခုလည်းချော်လဲလို့ ခြေတစ်ဖက် မသန်သူဖြစ်သွားရှာတဲ့ ရန်ကုန်မြို့ကြီးက သုံးနှစ်သမီးလေးကို ကယ်ပါယူပါ တစာစာ အော်နေတဲ့ကြားက ရွှံ့ရေအိုင်တွင်းထဲ ဆွဲနှစ်လိုက်ဖော်လိုက် လုပ်လိုက်ကြတာ အသက်ရှူရပ်သွားတဲ့အထိပဲ။ ဒါကို လေးနှစ်သား ဆေးဝိဇ္ဇာလေးလို့ ဝိုင်းသမုတ်ပြီး မျောက်ပြဆန်တောင်း ရိုက်စားအဖွဲ့က ရုပ်နာမ်ခွဲပြီး ဆေးကုနေတာလို့ပြောသတဲ့။ နာရီအတော်ကြာလို့ သုံးနှစ် သမီးလေးကို ပုရွက်ဆိတ်တွေ အုံလာတာတွေ့မှ ဆရာဝန်နဲ့ စမ်းသပ် ကြည့်တော့ လေရှူပြွန်မှာ ရွှံ့နှစ်တွေပိတ်ဆို့ပြီး သေဆုံးနေခဲ့ပြီဆိုတာ သိရ တော့တယ်။ လူကြီးတွေရဲ့ မဆင်မခြင် အယူသည်းမှုဒဏ်ကို အပြစ်မဲ့ ကလေးငယ်က ခံသွားရရှာတာပေါ့ဗျာ။ ကျွန်တော်တို့ဆီက လူတွေ ဘယ်တော့များမှ ဒီလိုခေတ်နောက်ပြန်ဆွဲတဲ့ အတွေးအခေါ်မျိုးတွေ တိမ်ကော ပပျောက်ပါတော့မလဲ မသိနိုင်တော့ပါဘူး ကိုလင်းရာ”

“ဟာ-ဒါကို ခေတ်နောက်ပြန်ဆွဲတဲ့ အတွေးအခေါ်တွေလို့ ဆိုရင် ခင်ဗျား သိပ်မှားမှာပေါ့ ကိုဝင်းရဲ့။ ဒီမှာက ဘာပဲဖြစ်ဖြစ် ဆေးကုပေးလို့ ပျောက်တယ်ဆိုတဲ့ ကောလဟာလတွေကြောင့် ရောဂါပျောက်ချင်ဇောနဲ့ သက်စွန့်ဆံဖျား ဆေးအကုခံကြတာပဲ။ သေတာဆိုလို့ ဒီသုံးနှစ်သမီးလေး တစ်ယောက်ရယ်ပါ။ ဟိုး . . တိုးတက်ခေတ်မီလှပါတယ်ဆိုတဲ့ နိုင်ငံကြီး တစ်ခုမှာဆိုရင် လူကြီးတွေရဲ့အယူသီးမှုကြောင့် မသေသင့်ပဲသေသွား ကြရတဲ့ ကလေးငယ်လေးတွေ မနည်းဘူး။ တစ်လောက ကမ္ဘာ့သတင်း မဂ္ဂဇင်းတွေထဲမှာ ဟိုးလေးတကျော်ဖြစ်ခဲ့တဲ့ ဒေးဗစ်ကိုရက်ရှ်ကိစ္စကို ခင်ဗျားလည်း ဖတ်မိမှာပေါ့”

“သြော်၊ သူ့ကိုယ်သူ သခင်ယေရှု ခရစ်တော်ဝင်စားသူ မဆိုင်းယား (*Messiah*) ပါလို့ လိမ်လည်ဟောပြော စည်းရုံးပြီး ဂိုဏ်းဝင်နောက်လိုက် တပည့်တွေရဲ့ အသက်(၁၂)နှစ်အရွယ်သမီးငယ်အစ ဇနီးမယား၊ မိခင် တွေပါမချန် သိမ်းကျုံးပြီး ခေတ်သစ်အရည်းကြီး ဇာတ်ခင်းခဲ့တဲ့ (၃၃)နှစ် အရွယ် ဒေးဗစ်ကိုရက်ရှ်ကို ပြောတာမဟုတ်လား”

"ဟုတ်ပါ့ဗျာ၊ သူဆိုရင် (၃၂)ဟက်တာကျယ်တဲ့ ခြံကြီးထဲမှာ ခံတပ်တစ်ခုလို အဆောက်အအုံတွေ အခိုင်အမာဆောက်။ လူသူ၊ လက်နက်၊ ရိက္ခာအပြည့်နဲ့ အစိုးရလက်နက်ကိုင် အဖွဲ့အစည်းတွေကိုတောင် အန်တုခဲ့သေးတယ် မဟုတ်လား။ အဖမ်းမခံလို့ အပြန်အလှန် တိုက်ပွဲတွေဖြစ်ခဲ့၊ ရေဖြတ်၊ မီးဖြတ်လုပ်ပြီး ဝိုင်းခဲ့တာတောင် လက်နက်ချအညံ့မခံဘဲ နောက်ဆုံး သူရော၊ သူ့ နောက်လိုက်တွေနဲ့ ကလေးငယ်အတော်များများ အသေခံသွားကြရတယ်လေ။ သူ့နောက်လိုက်တွေက ဒေးဗစ်ကိုရက်ရှ်ရဲ့ အလိုတော်နဲ့အညီ နာခံလိုက်နာ ကျင့်ကြံခြင်းအားဖြင့် သေပြီးနောက် တမလွန်မှာ ကောင်းကင်ဘုံကို တိုက်ရိုက်ရောက်ကြမယ်၊ ထာဝရဘုရားရဲ့ ကောင်းချီးမင်္ဂလာပေးမှုကို ခံစားကြရမယ်လို့ စွဲစွဲမြဲမြဲယုံကြည်သွားခဲ့ကြတယ်။ ကဲ-ဒီတော့ ခင်ဗျားတို့ ကျွန်တော်တို့အတွက် နှိုင်းယှဉ်စဉ်းစားစရာ တစ်ခုတိုးမလာဘူးလား"

"ကိုလင်းက ဘာကိုဆိုလိုတာလဲ"

"အခုလိုအယူသီးမှုတွေဟာ ခေတ်သစ်သိပ္ပံပညာ ထွန်းကားမှုမရှိတဲ့ဒေသက ခေတ်နောက်ပြန်ဆွဲသမားတွေရဲ့ အလုပ်သာဖြစ်တယ်လို့ ဆိုနိုင်ပါဦးမလား။ ဒီလိုကမ္ဘာ့ထိပ်တန်း နိုင်ငံကြီးတစ်ခုမှာတောင် အယူသီးမှုတွေရှိနေမှဖြင့် ကျွန်တော်တို့ဆီကလူတွေရဲ့ အယူသီးမှုတွေကိုတော့ ခွင့်လွှတ်သင့်တယ်လို့ ကျွန်တော်ထင်တယ်လေ"

"ဟာ၊ ခွင့်မလွှတ်သင့်ဘူး ကိုလင်းရေ၊ ခွင့်မလွှတ်သင့်တဲ့အပြင် စဉ်းစားဉာဏ်ရှိတဲ့လူဆိုရင် ရှက်ဖို့တောင် ကောင်းလှပါသေးတယ်"

"ဘာရှက်စရာ ကောင်းသလဲဗျာ။ သူတို့ဆီမှာဆိုရင် ဗေဒင်ဆရာ၊ မှော်ဆရာ၊ အောက်လမ်းဆရာ၊ ဂန္ဓာရီပညာသည်ဆိုတဲ့လူတွေ မှိုလို ပေါက်ပြီး ကျုပ်တို့ဆီက ဗေဒင်ဆရာတွေ၊ ဘိုးတော်တွေ၊ နတ်ဝင်သည်တွေ ထက်တောင် ဝင်ငွေကောင်းသေးဆိုပဲ"

"ဟုတ်ပါတယ်၊ ခင်ဗျားပြောသလို သူတို့ဆီမှာ ဒါမျိုးတွေကို ယုံကြည်သူတွေ တစ်နေ့တခြား တိုးပွားလာတာမှန်ပေမယ့် သူတို့ မိုက်တိုင်း ကျွန်တော်တို့ကလိုက်ပြီး မိုက်မဲရတော့မှာလားဗျာ။ ဥပမာပြောရရင် ဟိုဘက်အိမ်က မိဘအရင်းမရှိလို့ ပထွေးဆိုးနဲ့နေရတဲ့ မိန်းမပျိုလေး တစ်ယောက် ပျက်စီးနေတာကိုအားကျပြီး ဒီဘက်အိမ်က မိဘမောင်ဖွား အုပ်ထိန်းမှုအောက်မှာရှိနေတဲ့ မိန်းမပျိုလေးကပါ လိုက်ပျက်စီးရတော့မှာလားဗျာ"

"ခင်ဗျာ့ဥပမာကို နည်းနည်းထပ်ရှင်းစမ်းပါဦး ကိုဝင်းရာ"

"ဒီလိုလေဗျာ လောကမှာ မိမိရဲ့ ကံ၊ ဉာဏ်၊ ဝီရိယမှတစ်ပါး အခြားအားထားရာ ကယ်တင်ရှင်၊ ဖန်ဆင်းရှင်ရယ်လို့မရှိဘူးဆိုတဲ့ မူအပေါ် အခြေပြုထားတဲ့ ထေရဝါဒဗုဒ္ဓသာနာတော်ရဲ့ အုပ်ထိန်းမှုအောက်မှာ ကြီးပြင်းလာတဲ့ ခင်ဗျားတို့ကျွန်တော်တို့ဟာ အောက်တန်းစား ဒွန်းစဏ္ဍားဗုဒ္ဓဘာသာဝင်တွေရဲ့ အလုပ်သာလျှင်ဖြစ်တယ်လို့ ဘုရားရှင်ကိုယ်တော်တိုင်ပစ်ပယ်ခဲ့တဲ့ ဗေဒင်၊ ယတြာ၊ အင်္ဂဝိဇ္ဇာ၊ မှော်ဂန္ဓာရီပညာတွေကို ယုံကြည်လိုက်စားနေစရာ လုံးဝမလိုအပ်ဘူးဗျ။ ဒီလို ဆုံးမသွန်သင်မှုအောက်မှာကြီးပြင်းလာတဲ့ ထေရဝါဒဗုဒ္ဓဘာသာဝင်တွေဟာ မိဘမောင်ဖွားအုပ်ထိန်းမှုအောက်မှာရှိနေတဲ့ မိန်းမပျိုလေးလိုပေါ့ဗျာ။ ဒါကို ကံမကောင်းအကြောင်းမလှလို့ မိဘမဲ့ အဆုံးအမအသွန်အသင်မဲ့ပြီး ကြီးပြင်းလာခဲ့ရတဲ့ မိန်းမပျိုလေးနဲ့တူတဲ့လူတွေ မိုက်ကြ၊မှားကြတိုင်း လိုက်မှားနေဖို့ သင့်တော်ပါ့မလား။ သူတို့တောင် မှားသေးမှတော့ ငါတို့မှားတာ အကြောင်းမဟုတ်ဘူးလို့ ပြောဆို၊ ရေးသား၊ ပြုမူနေကြတာလောက် ရှက်စရာကောင်းတာရှိပါဦးမလား ကိုလင်းရာ"

"ဒါတော့ ဟုတ်တယ်ဗျ၊ သူတို့ဆီမှာက လူအများစုလိုက်နာတဲ့ ကိုကျင့်တရားစံနှုန်းတွေဟာ အမျှော်နဲ့အကြောက်ပေါ်မှာ အခြေခံ ထားတာတွေ့ရတယ်။ ကိုယ့်အတွက် ကောင်းကျိုးတစ်စုံတစ်ရာ ရလိမ့်မယ်ဆိုတဲ့ မျှော်လင့်ချက်၊ တစ်နည်းပြောရရင် ဖန်ဆင်းရှင်ရဲ့ ကောင်းချီးမင်္ဂလာကို မျှော်ကိုးမှုနဲ့သာ ကောင်းမှုလို့သတ်မှတ်ထားတဲ့ အပြုအမူတွေကို လုပ်ကိုင်ကြတာပဲ။ မကောင်းမှုလို့ သတ်မှတ်ထားတဲ့ အပြုအမူတွေကို ရှောင်ကြဉ်ရာမှာလည်း ဖန်ဆင်းရှင်ကပြစ်ဒဏ်ခတ်မှာကို ကြောက်ရွံ့စိတ်ပေါ်သာမူတည်တာကိုတွေ့ရတယ်။ ဒါကြောင့် အမျှော်နဲ့အကြောက်မပါဘဲ ကိုယ်ပိုင်ဆင်ခြင်တုံတရားနဲ့ယှဉ်ပြီး သတ္တဝါချင်း စာနာထောက်ထားမှုအပေါ် အခြေတည်ထားတဲ့ ဗုဒ္ဓရဲ့ကိုယ်ကျင့်တရားဆိုင်ရာ စံတွေနဲ့တော့ တခြားစီပဲ"

"ဒီလို အခြေခံချင်းမတူညီတော့ သူတို့ခမျာ ဘယ်လောက်ပဲ ရုပ်ဝတ္ထုပိုင်းဆိုင်ရာနည်းပညာတွေ တိုးတက်ထွန်းကားလာပေမယ့် စိတ်ပိုင်းဆိုင်ရာ ကိုယ်ကျင့်တရားနဲ့ ပတ်သက်လာရင် မျှော်တတ်ကြောက်တတ်တဲ့ အလေ့ကြီးက စွဲကျန်နေရစ်တော့တာပေါ့။ သိပ္ပံပညာကို အလွဲသုံးစားပြုပြီး မျက်လှည့်ဆန်ဆန် ပြကွက်ကလေးတွေနဲ့ လူအထင်ကြီးအောင်လုပ်၊ သူတို့ကိုယ်ကို တန်ခိုးရှင်ယောင်ယောင် သတင်းလွှင့် ဂိုဏ်းဖွဲ့လိမ်စားနေတဲ့

လူတွေရှိသလို ဘာသာရေးကျမ်းစာတွေကို ခုတုံးလုပ်၊ ကိုယ်လိုရာ လှည့်ပတ်ပြီး အဓိပ္ပာယ်ဖွင့်၊ အပြောကောင်းကောင်းနဲ့ မြောက်ချီတစ်ခါ ခြောက်ချီတစ်လှည့် လုပ် စည်းရုံးသိမ်းသွင်းပြီး လူတွေကိုသက်မဲ့ စက်ရုပ်တွေလို ခိုင်းချင်တာအကုန်လုပ်ခိုင်းတဲ့ ပုဂ္ဂိုလ်တွေလည်းရှိတယ်။ နောက်ဆုံးတော့ ဒေးဗစ်ကိုရက်ရှ်တို့လို ဘာသာရေးအရေခြုံ လူလိမ်လူညာ တွေရဲ့မှိုင်းမိပြီး အတိဒုက္ခရောက်သွား ကြရရှာတာပေါ့။ ဒါ့ကြောင့် ကျွန်တော်တို့ ထေရဝါဒဗုဒ္ဓဘာသာဝင်များအနေနဲ့ ဒီလိုအဖြစ်ဆိုးတွေ မကြုံရလေအောင် 'အတ္တာဟိ အတ္တနော နာထော' ဆိုတဲ့ ဗုဒ္ဓဒေသနာကို စွဲစွဲမြဲမြဲ မှတ်သားလိုက်နာကြဖို့ လိုသဗျ"

"ဒါပေမယ့် မိရိုးဖလာအယူအဆတွေကလည်း ရှိသေးတယ် မဟုတ်လား ကိုဝင်းရဲ့။ လူမျိုးတိုင်းမှာ သူတို့နဲ့ ဆိုင်ရာဆိုင်ရာ အယူအစွဲလေး တွေဟာ ယဉ်ကျေးမှုတစ်ရပ်အနေနဲ့တော့ ရှိနေဦးမှာပဲဗျ"

"ဒီနေရာမှာ ယဉ်ကျေးမှုဆိုတဲ့ဝေါဟာရကို ကိုလင်းအနေနဲ့ ဘယ်လို အဓိပ္ပာယ်ဖွင့်မလဲ။ လူနေမှုအဆင့်အတန်း မြင့်မားမှုစံကို ပြောတာ လား၊ ရိုးရာဓလေ့စရိုက်ကို ဆိုလိုတာလား"

"ကျွန်တော်က ရိုးရာဓလေ့စရိုက်ကို ပြောတာပါ"

"ဒါဆိုရင် ရိုးရာဓလေ့စရိုက်တိုင်းဟာ ခေတ်အဆက်ဆက် မပစ် ပယ်ဘဲ ထိန်းသိမ်းလိုက်နာအပ်တယ်လို့ ခင်ဗျားယုံကြည်သလား။ ဘယ် နိုင်ငံ၊ ဘယ်လူမျိုးမဆို ကောင်းတဲ့ဓလေ့စရိုက်တွေရှိသလို မကောင်းတဲ့ ဓလေ့စရိုက်တွေလည်း ရှိကြစမြဲပဲဗျ။ ဒါကို ရိုးရာယဉ်ကျေးမှု မပျက်အောင် ဆိုပြီး ကောင်းတာရော၊ မကောင်းတာပါ အကုန်လုံး သိမ်းကျုံးထွေးပိုက် ထားမယ်ဆိုရင် သဘာဝကျပါ့မလား။ ကိုယ့်တိုင်းပြည် ကိုယ့်လူမျိုးကို တိုးတက် ကြီးပွားစေချင်သူတိုင်းဟာ ကောင်းမြတ်တဲ့ရိုးရာဓလေ့စရိုက် တွေကို ဆက်လက်ထိန်းသိမ်းသွားရမှာဖြစ်သလို ခေတ်နောက်ပြန်ဆွဲပြီး အန္တရာယ်ရှိတဲ့ ဓလေ့စရိုက်တွေကိုတော့ ပစ်ပယ်သွားရမှာပဲ။ အခုခေတ်မှာ ရိုးရာဓလေ့စရိုက်ကို ထိန်းသိမ်းချင်ပါတယ်ဆိုပြီး ဘယ်သူကများ အသား အနာခံလို့ ထိုးကွင်းမင်ကြောင်ထိုးကြဦးမှာလဲ၊ အလုပ်ရှုပ်ခံပြီး သျှောင်ကြီးဗွေ ထားကြဦးမှာလဲဗျ"

"ဒါတော့ဟုတ်တယ် ကိုဝင်းရ၊ တချို့ရိုးရာဓလေ့စရိုက်တွေဟာ တစ်ချိန်တစ်ခါက ဒီလိုရှိခဲ့ဖူးတယ်ဆိုတာကို သမိုင်းအရ မှတ်တမ်းမှတ်ရာ ပြုထားဖို့ကလွဲရင် ဆက်လက်ခံယူကျင့်သုံးဖို့ မသင့်တော့တာအမှန်ဘဲ"

"ဒါတင် ဘယ်ကဦးမလဲ ကိုလင်းရာ၊ သူတစ်ပါးဆီက စံထား ထိုက်တဲ့ ဓလေ့စရိုက်တွေတွေ့ခဲ့ရင်လည်း အတုယူသင့် ယူကြရမှာပဲ။ ငါ့ရိုးရာဓလေ့မှ ငါ့ရိုးရာဓလေ့ဆိုပြီး တစ်ယူသန် အစွန်းရောက်နေရမယ့် ခေတ်မဟုတ်တော့ဘူးလေ။ အခုဆိုရင် အနောက်တိုင်း နိုင်ငံကြီးသား တချို့ဟာ သူတို့ရဲ့ မိရိုးဖလာယုံကြည်မှု အစွဲအလမ်းတွေကို ကျော်ခိုင်း ပစ်ပယ်ပြီး မြန်မာနိုင်ငံက ထေရဝါဒဗုဒ္ဓဘာသာကို ယုံကြည်လက်ခံ လိုက်နာကျင့်သုံးနေကြတာ ကျွန်တော်တို့ မျက်မြင်ကိုယ်တွေ့ပဲ မဟုတ်လား"

"ဟုတ်ပ့ါဗျာ၊ မိရိုးဖလာယုံကြည်မှု အစွဲအလမ်းတွေကို တော်လှန် ပစ်ပယ်ပြီး မှန်တယ်ထင်တဲ့လမ်းကို ရဲရဲဝံ့ဝံ့လှမ်းရဲတဲ့ သူတို့ရဲ့သတ္တိကတော့ ချီးကျူးစရာပါပဲ"

"ဒါကြောင့် သူတို့လို ထေရဝါဒဗုဒ္ဓသာသနာဆိုတဲ့ မိဘမောင်ဖွား တွေရဲ့ အုပ်ထိန်းမှုအောက်မှာ မကြီးပြင်းခဲ့ရသူတွေကတောင် ကျွန်တော်တို့ မိဘရိပ်မှာ လာရောက်ခိုလှုံနေချိန်မှာ မိမဲ့ဖမဲ့ကလေးတွေကို လက်ညှိုးထိုးပြီး သူတို့တောင်မိုက်သေးတာ ငါတို့မိုက်တာ ရှက်စရာမဟုတ်ပါဘူး လို့ ကြွေးကြော်နေကြဖို့သင့်-မသင့် ကိုယ်ပိုင်ဉာဏ်လေးသုံးပြီး ဆုံးဖြတ်ကြ ပါတော့လို့သာ တိုက်တွန်းလိုက်ချင်ပါတော့တယ်ဗျာ"

(၃၀-၄-၉၃)

ဓမ္မရံသီ ၊ ၁၉၉၃ခုနှစ်၊ ဇူလိုင်လ။

# အလှမ်းကျယ် အလယ်မလပ်ကြစေဖို့

"ကိုဝင်း ရောက်နေတာ ကြာပြီလားဗျ"

"သိပ် မကြာသေးပါဘူးဗျာ၊ ဒါနဲ့-ခင်ဗျား စောစောရောက်နေနှင့်မယ်လို့ ပြောထားပြီး ဘာလို့ နောက်ကျနေတာလဲ၊ ကျွန်တော်ဖြင့် ရေနွေးတစ်အိုး ကုန်တော့မယ်"

"ဆောရီးဗျာ၊ လမ်းမှာထီဆိုင်တွေ့တာနဲ့ စိတ်ကြိုက် ဂဏန်းအတွဲလေးတွေ ရွေးထိုးနေလို့ နည်းနည်းနောက်ကျသွားတာပါ၊ သည့်အတွက်ကနေ့လက်ဖက်ရည်ဖိုးကို ကျွန်တော်ပဲ ရှင်းပါ့မယ်ဗျာ"

"ဒီလိုဆိုတော့လည်း ရှိစေတော့ပေါ့ဗျာ၊ အဲ-ခင်ဗျားထီပေါက်ရင်တော့ ဒီလောက်နဲ့မရဘူးနော်"

"ဟောဒီက အထူးမင်္ဂလာစုံတွဲကြီး ပေါက်လို့ကတော့ ခင်ဗျားကြိုက်တဲ့ဟိုတယ် ပြောစမ်းဗျာ"

"ဟ၊ လုပ်လှချေလား ကိုယ့်လူရဲ့၊ ခင်ဗျားထီထိုးတာကလည်းဈေးဖိုးတစ်ပတ်စာလောက် ရှိနေပဲ့လား၊ ကံစမ်းတယ်ဆိုပေမယ့် ကိုယ့်ဝင်ငွေနဲ့ ထွက်ငွေမျှအောင် ချင့်ချင့်ချိန်ချိန်လေး လုပ်ဦးမှပေါ့ဗျာ"

"ဒီတစ်ခါတော့ မချင့်ချိန်တော့ဘူးဗျာ၊ ခင်ဗျားတို့ ကျွန်တော်တို့လိုဝန်ထမ်းတွေအဖို့ ဒီတစ်သက် တိုက်နဲ့၊ ခြံနဲ့၊ ကားနဲ့နေနိုင်ဖို့ဆိုတာ အားကိုးစရာ ဒီထီကလေးပဲ ရှိတာဗျ၊ ***လုံ့ထမ်းလာတာ မြင်ရပေမယ့် ကံထမ်းလာတာ မမြင်ရဘူး*** ဆိုတဲ့စကားလည်း အရှိသားမဟုတ်လား"

"***ကံယုံပြီးဆုံးပုံနင်း*** ရာလည်း ရောက်နေပါဦးမယ် ကိုလင်းရယ်"

"***ကံသာလျှင်အမိ ကံသာလျှင်အဖ*** ဆိုတဲ့ ဗုဒ္ဓရဲ့စကားရှိသေးတယ်လေဗျာ၊ ခင်ဗျားက ကံကိုမယုံရအောင် ဗုဒ္ဓဘာသာဝင် မဟုတ်သလိုပါဘဲလား၊ ခင်ဗျားကြည့်ရတာ အခုခေတ်ပေါ် အနောက်တိုင်းဒဿနတွေကို အားကျပြီး ကံကိုပစ်ပယ်ချင်လာပြီ ထင်တယ်"

"ဘယ်ကလာ အနောက်တိုင်းဒဿနတွေကို အားကျရမှာလဲကိုလင်းရယ်၊ ကျွန်တော်တို့ဘဝမှာ တစ်ခါသေဖူးကတည်းက ပျဉ်ဖိုးနားလည်

ခဲ့ပြီးပါပြီဗျ”

“ဒါဆို ခင်ဗျားက ကံ-ကံရဲ့အကျိုးကို ယုံကြည်ဖို့ကိစ္စမှာ ဘာလို့ အတွန့်တက်ချင်နေရတာတုံး၊ အတော်ပါပဲ၊ တလောကဖတ်လိုက်ရတဲ့ ဆောင်းပါးတစ်ပုဒ်ထဲက ဗုဒ္ဓဝါဒနဲ့ပတ်သက်ပြီး ကျွန်တော်ကြိုက်တဲ့ စာသား လေးတွေကူးထားတဲ့ စာရွက်ပါလာတယ်၊ ဒါဖတ်ပြမှ ခင်ဗျားအမြင် ကြည်လင်သွားမယ်”

“ဆိုစမ်းပါဦး ကိုလင်းရာ၊ ခင်ဗျားလိုလူက တလေးတစားကူးမှတ် ထားရုံမက တခြားသူကိုပါ ဖတ်ပြချင်လောက်အောင် ဖြစ်နေတယ်ဆိုတော့ စိတ်ဝင်စားစရာကောင်းမှာပါပဲ”

“ဒါပေါ့ဗျာ၊ အထူးသဖြင့်ခင်ဗျားတို့လို ကံကိုမယုံတစ်ဝက် ယုံ တစ်ဝက် ဖြစ်နေတဲ့လူမျိုးအတွက်သင့်လျော်လို့ တမင်ကူးယူလာတာ”

“ဆောင်းပါးက ဘာအကြောင်းအရာမို့လဲ”

“အဓိက,ကတော့ အခုတလော ကျုပ်တို့မြန်မာပြည်က လူငယ် စာရေးဆရာတွေနဲ့ စာဖတ်ပရိသတ်တွေအကြား တစ်ကျော့ပြန် ရေပန်းစား လာတဲ့ ***အိတ်ဇစ်ဝါဒ*** နဲ့ ပတ်သက်လို့ပေါ့ဗျာ”

“ဩော် . . . ၊***ဖြစ်တည်မှုပဓာနဝါဒ*** လို့ မြန်မာလိုပြန်ဆိုကြတဲ့ *Existentialism* ကို ပြောတာလား”

“ဟုတ်ပ့ါဗျာ၊ အိတ်ဇစ်စတင်ရှယ်လစ်ဇင်းဆိုတော့ ခေါ်ရတာ ရှည်လွန်းလို့ ***အိတ်ဇစ်*** လို့ အတိုကောက်သုံးကြတယ်၊ အိတ်ဇစ်ဝါဒပေါ့ဗျာ”

“အေးဗျ၊ တစ်ချိန်က *ရုပ်ဝါဒ (Materialism)* ကို ကျွန်တော်တို့ ငယ်စဉ်က စိတ်ဝင်စားခဲ့သလို အခုခေတ်လူငယ်တချို့ကလည်း ခင်ဗျား ပြောတဲ့အိတ်ဇစ်ဝါဒကို စိတ်ဝင်စားလာကြပြန်တာ တွေ့ရသဗျ၊ ဒီဝါဒနဲ့ ပတ်သက်လို့ကတော့ ကျွန်တော်ကခေတ်မမီဘူး၊ နလပိန်းတုံးပဲ၊ ခင်ဗျား သိရင် နည်းနည်းပါးပါးရှင်းပြပါဦး”

“ကျွန်တော်လည်း ခင်ဗျားနဲ့ထူးမခြားနားပါပဲဗျာ၊ ဒါပေမယ့် ဒီဆောင်းပါး ဖတ်မိတော့ အိတ်ဇစ်ဝါဒကိုဗုဒ္ဓဝါဒနဲ့ နှိုင်းယှဉ်တင်ပြထားပုံ လေး သဘောကျလို့ပါ”

“ဒါဆိုလည်း ခင်ဗျားဖတ်လာတဲ့ အိတ်ဇစ်ဝါဒဆိုင်ရာ ဆောင်းပါး ထဲက ဗုဒ္ဓဝါဒနဲ့ပတ်သက်ပြီး သုံးသပ်တင်ပြထားပုံလေး လုပ်စမ်းပါဦး”

“ကျွန်တော်ဖတ်ပြမယ် နားထောင်-*ဤအချက်တွင် အိတ်ဇစ်ဝါဒ သည် ဗုဒ္ဓဝါဒနှင့်ဆန့်ကျင်လိမ့်မည်ဟု ကျွန်တော်ထင်ပါ၏။ ဗုဒ္ဓဘာသာတွင်*

— — — — — — — — — — — — — — — — — — — — —

*ဗုဒ္ဓဝါဒီတစ်ဦးဖြစ်ဖို့အတွက် ပဓာနအကျဆုံးအချက်အဖြစ် ကံနှင့်ကံ၏အကျိုး (ကမ္မဥ္စ၊ ကမ္မဖလဥ္စ) ကိုယုံကြည်ရ၏။ ပြီးသွင်ဒုတိယအဖြစ် သရဏဂုံ တည်ရ၏။ အတိတ်ကံကြောင့် ယခုဘဝတွင် ကံပစ်ချရာ ကံစီမံရာအတိုင်း ဖြစ်လာရခြင်း ဖြစ်၏။ အတိတ်ကံကြောင့် ချမ်းသာ၊ ဆင်းရဲ ကွဲပြားကြရခြင်း ဖြစ်၏*-တဲ့ဗျ"

"အင်း-အိတ်ဇစ်ဝါဒဆိုတာ ဘာမှန်းရေရေရာရာ မသိသေးတဲ့ ကျွန်တော်တို့အဖို့ ဒီဝါဒဟာဗုဒ္ဓဝါဒနဲ့ ဆန့်ကျင်-မကျင်ဆိုတာ မပြောတတ်ပါဘူး၊ အဲ- ဒါပေမယ့် 'အတိတ်ကံကြောင့် အခုဘဝမှာကံပစ်ချရာ-ကံစီမံရာအတိုင်း ဖြစ်လာရတယ်၊ အတိတ်ကံကြောင့် ချမ်းသာ၊ ဆင်းရဲ ကွဲပြားရခြင်း ဖြစ်တယ်' ဆိုတာကတော့ ဗုဒ္ဓရဲ့အယူဝါဒမဟုတ်ဘူး။ 'လူ-ပုဂ္ဂိုလ်-သတ္တဝါတို့ရဲ့ ချမ်းသာ ဆင်းရဲ၊ ကောင်းကျိုး ဆိုးပြစ် ခံစား စံစားမှုမှန်သမျှကို အတိတ်ဘဝကပြုခဲ့တဲ့ အပြုအမူတွေက၊ ဒါမှမဟုတ် တစ်စုံတစ်ယောက် သောဖန်ဆင်းရှင်ထာဝရဘုရားက အစအဆုံးပြဋ္ဌာန်းပေးလိုက်ပြီးသား' လို့ ယုံကြည်ကြတဲ့ **ကံကြမ္မာဝါဒ** *(Fatalism)* ပဲဗျ"

"ခင်ဗျားက ဝေဖန်ဖို့တယ်လောတာကိုး၊ လိမ့်ပတ်လည်အောင် ဆက်နားထောင်ဦးမှပေါ့ဗျာ - *မျက်မှောက်ကံတော့ မပါဘူးလားဟု မေးကြပေလိမ့်မည်။ မျက်မှောက်ကံဖြစ်သော ကြိုးစားမှု-ဇွဲရှိမှု စသည်တို့မှာလည်း ထိုပုဂ္ဂိုလ်သတ္တဝါသည် ကြိုးစားသူ-ဇွဲရှိသူ ဖြစ်လာမည့် ကံပါလာသောကြောင့်ဖြစ်ပေသည်။ သို့သော် ဝီရိယကောင်းပါလျက် ကံမကောင်းလျှင် မကြီးပွားနိုင်* - တဲ့ဗျား"

"ဒါက ပိုဆိုးလာသေးသဗျ၊ ကြိုးစားဇွဲရှိတဲ့သူဖြစ်ဖို့ ကံပါလာလို့ ကြိုးစားဇွဲရှိကြတယ်ဆိုတဲ့ အယူအဆဟာ လူပျင်းလူဖျင်းတွေဘက်က ရှေ့နေလိုက်ရာ ရောက်နေတော့မှာပေါ့၊ သူတို့က 'ကျုပ်တို့မှာပျင်းဖို့ကံ ပါလာလို့ ပျင်းပြီးရေသာခို အချောင်လိုက်နေတာပါခင်ဗျာ' လို့ ပြောမှာ ဖြစ်သလို မတရားပြုမူနေသူတွေကလည်း '*ကျုပ်တို့မှာ ဒီလိုကံပါလာလို့ လုပ်ရတာဗျ၊ ကျုပ်တို့လုပ်ချင်လို့ မဟုတ်ဘူး၊ အပြစ်တင်ချင်ရင် အတိတ်ဘဝကံကိုပဲ အပြစ်တင်ပါ၊ ကျုပ်တို့မှာအပြစ်မရှိဘူး*' လို့ အကြောင်း ပြကြတော့မှာပေါ့၊ ဒီလိုသာဆိုလောကမှာ ချီးမွမ်းထိုက် ပူဇော်ထိုက်သူ လည်းမရှိ၊ ကဲ့ရဲ့ထိုက်သူလည်းမရှိတော့ဘဲ အားလုံးအတိတ်ဘဝကံ ကြောင့်ချည်းပဲလို့ ယူဆရတော့မှာပေါ့။ ဗုဒ္ဓမြတ်စွာက လူသားတွေရဲ့ဘဝ ချမ်းသာကြီးပွားကြောင်းတရား ငါးပါးအဖြစ် **သဒ္ဓါ** ဆိုတဲ့ယုံကြည်ချက်၊ **ပညာ** ဆိုတဲ့ ထိုးထွင်းသိမြင်မှု၊

**ဝီရိယ** ဆိုတဲ့ ကြိုးပမ်းအားထုတ်မှု၊ **သမာဓိ** ဆိုတဲ့ တည်ကြည်မှုနဲ့ **သတိ** ဆိုတဲ့ မမေ့မလျော့ အလေးဂရုပြုမှုတို့နဲ့ ပြည့်စုံဖို့ လိုအပ်ကြောင်းကိုသာ ရည်ညွှန်းဟောကြားခဲ့ပါတယ်”

“အေးဗျ၊ ဗုဒ္ဓမြတ်စွာက ဝီရိယကိုဗိုလ်တစ်ပါးအဖြစ်နဲ့ အလေးအနက်ထား ဟောကြားခဲ့ပေမယ့် အတိတ်ဘဝကံကို ထည့်မဟောခဲ့ပုံထောက်ရင် မျက်မှောက်ဘဝ ကြီးပွားချမ်းသာတိုးတက်ရေးအတွက် ‘ဝီရိယ’ က ‘အတိတ်ကံ’ ထက် အများကြီးအရေးပါ အရာရောက်တယ်ဆိုတာ ထင်ရှားနေပြီပဲ”

“ကဲကဲ - ခင်ဗျားရဲ့ အိတ်ဇစ်ဝါဒ ဆောင်းပါးထဲက ဗုဒ္ဓဝါဒအပေါ် သုံးသပ်ချက် နောက်တစ်ပိုဒ် ဆက်ဖတ်ပြပါဦးဗျာ”

“**နားထောင်ဗျာ . . .** *ဆရာစန္ဒြရေးသော ဘစ်သက်တာ မှတ်တမ်းတွင် နှိုင်းယှဉ်သောဗေဒင်အကြောင်း ထူးထူးဆန်းဆန်း ဖတ်ရပါလိမ့်မည်။ နှိုင်းဗေဒင်တွင် လာခဲ့သူအားလုံးအတွက် ဟောစာတမ်းအသင့်ရှိပြီးသား။ အတိတ်ဘဝကိုလည်းဟောသည်။ လက်ရှိဘဝကိုလည်း ဘဝဆုံးသည်အထိဟောသည်။ တစ်ခုသောဒေသတွင် တစ်ခုသောအချိန်ကာလ၌ မွေးဖွားခဲ့သော ပုဂ္ဂိုလ်တစ်ဦးအတွက် မည်သူက ဟောစာတမ်းအသင့်ရေးပေးထဲ့ပါသနည်း။ ထိုပုဂ္ဂိုလ်သည် ဤဒေသ-ဤကာလတွင် ဤသို့မွေးပြီး အသက် ဤမျှနေရမည်။ နေရသည့် ဘဝ အတွင်း ဒါတွေ ဒါတွေလုပ်လိမ့်မည်ဆိုသည်ကို ကြိုတင်ပြီးဟောထားနိုင်သော ဗေဒင် ဖြစ်၏။ ဖတ်ကြည့်ကြပါ* -တဲ့ဗျား”

“ဆရာစန္ဒြက ဗေဒင်အကြောင်းရေးသွားတာပဲ၊ ဗုဒ္ဓဝါဒနဲ့ဘာများ ပတ်သက်လို့လဲဗျာ၊ ဗေဒင်ဆိုတာ **ဗေဒ** *(Veda)* ဆိုတဲ့ အတ္တဝါဒီ ဗြာဟ္မဏ တွေရဲ့လက်စွဲတော် ဝေဒလေးကျမ်းကဆင်းသက်လာတဲ့ ယုံကြည်မှု တစ်ခုပဲ။ ‘မဟာဗြဟ္မာလို့ခေါ်တဲ့ ဖန်ဆင်းရှင်ထာဝရဘုရားက တော-တောင်-ရေ-မြေ-ကောင်းကင်-နက္ခတ်တာရာ ရှိရှိသမျှ သက်ရှိသက်မဲ့ ဟူသရွေ့ကို ဖန်ဆင်းထားပြီး နက္ခတ်တာရာတွေရဲ့ သွားလာလှုပ်ရှားမှုနဲ့ သက်ဆိုင်ရာ ဂြိုဟ်စောင့်နတ်မင်းတွေရဲ့ အပြုအမူဟာ သက်ရှိလူသား တစ်ဦးစီရဲ့ ကံကြမ္မာကို ပြဋ္ဌာန်းနိုင်တယ်’ ဆိုတဲ့ ဟိန္ဒူဗြာဟ္မဏတို့ရဲ့ အယူအဆနဲ့ ‘လောကမှာ မဖောက်မပြန် အစိုးရတည်တံ့နေတဲ့ အရာ ရယ်လို့ မရှိဘူး’ ဆိုပြီး ဖန်ဆင်းရှင်ထာဝရဘုရားကို ငြင်းပယ်ခဲ့တဲ့ အနတ္တဝါဒီဗုဒ္ဓရဲ့ အယူအဆဟာ ပြဒါးတစ်လမ်း သံတစ်လမ်းစီပါဗျာ။ ဒီလို သက်မဲ့ဂြိုဟ်

နက္ခတ်တာရာတွေဟာ သက်ရှိလူသားတစ်ဦးစီရဲ့ ကံကြမ္မာကို ပြဋ္ဌာန်းပေးနိုင်စွမ်းမရှိပုံကို ဗုဒ္ဓမြတ်စွာက *နက္ခတ်ကို စောင့်မျှော်သော လူမိုက်ကို အကျိုးစီးပွားသည် လွန်မြောက်သွားပေပြီ၊ အကျိုးစီးပွားကို ရခြင်းသည် အကျိုးစီးပွားလိုလားသူ၏ နက္ခတ်ပင်တည်း။ နက္ခတ်တာရာတို့သည် အကျိုး စီးပွား စည်ကားတိုးတက်မှုကို အဘယ်မှာပြီးမြောက်အောင် ဆောင်ရွက် ပေးနိုင်ကြကုန်အံ့နည်း* လို့ အတိအလင်းဟောကြားခဲ့တာကို ဇာတကဝတ္ထု၊ ကေနိပါတ်၊ နက္ခတ္တဇာတ်မှာ တွေ့နိုင်ပါတယ်ဗျာ”

“ဟာ၊ ဒီအတိုင်းဆို စာဖတ်ပရိသတ်အနေနဲ့ ဗုဒ္ဓဝါဒနဲ့ ပြဟ္မဏဝါဒကို ရောထွေးရှုမြင်ပြီး ဗုဒ္ဓဝါဒအပေါ် အမြင်တိမ်းစောင်းကုန်မှာ စိုးရိမ်ရသဗျ၊ အထူးသဖြင့်လူငယ်တွေ အမှန်ကိုသိမြင်လာအောင် ပြန်တည့်မတ်ပေးဖို့ လိုလိမ့်မယ် ကိုဝင်းရေ”

“အင်း . . . အလျဉ်းသင့်ရင်တော့ ဗုဒ္ဓရဲ့ ကံအယူအဆနဲ့ ပတ်သက်တဲ့ ဆောင်းပါး တစ်ပုဒ်လောက်တော့ ရေးသေးတာပေါ့ဗျာ”

“အဲဒီလိုရေးရာမှာလည်း ခင်ဗျားအနေနဲ့ ဓမ္မစာပေပရိသတ်အတွက် ဓမ္မမဂ္ဂဇင်းတစ်ခုခုမှာ အကျယ်တဝင့်ရေးသင့်သလို ဓမ္မစာပေနဲ့ အလှမ်းဝေးပြီး ခေတ်ပေါ်မဂ္ဂဇင်းတွေနဲ့သာ ရင်းနှီးနေတဲ့လူငယ်အများစုအတွက် ခေတ်ပေါ်မဂ္ဂဇင်းတစ်ခုခုမှာ အခုကျွန်တော်ကူးလာတဲ့ ဆောင်းပါးပါ ဗုဒ္ဓဝါဒရေးရာ အယူအဆတိမ်းစောင်းမှုနဲ့ ပတ်သက်ပြီး ပုဂ္ဂိုလ်ရေးထိပါးမှုကင်းတဲ့ အပြုသဘောဆောင် စာတမ်းတစ်ခုလောက်တော့ မကျဉ်းမကျယ် ရေးသင့်တယ်လို့ထင်တယ်”

“ဒါလည်း အချိန်ရရင်တော့ ကြိုးစားကြည့်သေးတာပေါ့ ကိုလင်းရာ”

“ကဲကဲ ဖတ်လက်စနဲ့ နောက်တစ်ပိုဒ်ဆက်မယ်-*ဤအတိုင်း ဆိုလျှင် လူတစ်ဦးအတွက် သူမမွေးမီကပင် သူ့အတွက်ဂုဏ်သတ္တိတွေ၊ အနှစ်သာရတွေ ပြဋ္ဌာန်းပြီး ဖြစ်မနေပေဘူးလား။ သာမန် လက်ဦး ဗေဒင်ကိုပင် ကြည့်ပါ။ ခွေးမွေးသည့်အချိန်ကိုလိုက်၍ ဇာတာခွဲသည်။ ထိုဇာတာတွင် သူနှင့် သူ့ခန်းကျင်အကြောင်း အားလုံးပါသည်။ ဟောတတ် သူကဟောလျှင် အဘိုးအဘွားမှအစ သားမြေးမြစ်အထိ ဤဇာတာ တစ်စောင်တည်းမှ ဟောလို့ရသည်(သတ္တုက္ကသိနဒီဗေဒင်ကျမ်းချုပ်)။ ထို့ကြောင့် ဇာတာရှင် အတွက် အပြုအမူ၊ အပြောအဆို၊ အနေအထိုင်၊ ပညာ၊ အလုပ် အကိုင်၊ အိမ်ထောင်ရေး စသည်အားလုံးမှာ ကံကြမ္မာပံ့ခဲ့ပြီး*

———————————————————

*မဟုတ်ပါလား* . . . တဲ့"

"ဒီအပိုဒ်ကလည်း အိတ်ဇစ်ဝါဒနဲ့ ဗုဒ္ဓဝါဒ နှိုင်းယှဉ်ချက်မဟုတ်ဘဲ အိတ်ဇစ်ဝါဒနဲ့ဗြာဟ္မဏဝါဒ နှိုင်းယှဉ်ချက်ပဲ ဖြစ်နေပါလားဗျ၊ ကိုးကားတဲ့ သတ္တက္ကသိနဒီဗေဒင်ကျမ်းဆိုတာ ဗုဒ္ဓဝါဒနဲ့ဘာဆိုင်လို့တုံး၊ ဗြာဟ္မဏဝါဒက ဆင်းသက်လာတဲ့ ဗေဒင်ကျမ်းကို အကြောင်းပြုပြီး ဗုဒ္ဓဝါဒကို ဘယ်လိုလုပ် သုံးသပ်လို့ဖြစ်ပါ့မလဲ။ ဒါကိုသဘောမပေါက်တဲ့ စာဖတ်ပရိသတ်တွေ၊ အထူးသဖြင့် ကိုယ့်မိရိုးဖလာ ဗုဒ္ဓဘာသာအကြောင်း သေသေချာချာ မလေ့လာဖူးတဲ့ လူငယ်တွေအဖို့ ဗုဒ္ဓဝါဒအပေါ် အထင်အမြင်လွဲမှားမှုတွေ ဖြစ်လာနိုင်တယ်၊ ကဲ. . ဆက်ပါဦးဗျာ"

"ဒီတစ်ပိုဒ်ကတော့ တိုပါတယ် . . . *ဤနေရာတွင် ကျွန်ုပ်ဘော်သည် အိတ်ဇစ်ဝါဒကိုဝေဖန်ခြင်းမဟုတ်ဘဲ အိတ်ဇစ်ဝါဒနှင့်ကံဝါဒတို့ ဝိရောဓိဖြစ်နေပုံကို တင်ပြခြင်းသာဖြစ်ပါ၏။ ကံတရားအကြောင်း ပြောရာတွင်လည်း လူပျင်းများလို ကံကိုသာယိုးမယ်ဖွဲ့ပြီး မျှော်လိုက်နေဖို့အားမပေး နေခြင်းမဟုတ်ပါ-တဲ့ဗျာ၊* အဲ-တစ်ဆက်တည်း လက်သည်းကွင်းနဲ့-(*ထိုသို့ မျှော်လိုက် တတ်သူတို့မှာလည်း ထိုသို့မျှော်လိုက်ရန် ကံပါလာခဲ့သူများသာ ဖြစ်၏*)-လို့ရေးထားသေးတယ်"

"ကိုလင်း အခုဖတ်ပြတဲ့စာပိုဒ်မှာပါတဲ့ ကံဝါဒဆိုတာ ဘာကိုပြော တာလဲ၊ 'ဗုဒ္ဓဝါဒလာ ကံအယူအဆ' ကို ပြောတာလား၊ ဒါမှမဟုတ် ဘဝ တစ်သက်တာ ကောင်းကျိုးဆိုးပြစ်ကို ထာဝရဘုရားသခင်၊ ဒါမှမဟုတ် အတိတ်ဘဝကပြုခဲ့တဲ့ ကုသိုလ်၊ အကုသိုလ်တွေကသာ အကြွင်းမဲ့ပြဋ္ဌာန်း ပေးလိုက်ပြီးဖြစ်တယ်လို့ ကံယုံပြီးဆူးပုံနင်းခိုင်းတဲ့ 'ကံကြမ္မာဝါဒ' ကို ပြောတာလားဆိုတာ ကွဲကွဲပြားပြားဖော်ပြမထားပါလား"

"ကိုဝင်းကလည်းဗျာ၊ အိတ်ဇစ်ဝါဒနဲ့ဗုဒ္ဓဝါဒကို နှိုင်းယှဉ်ပြနေ တာပါဆိုမှ ဒီစာပိုဒ်မှာပါတဲ့ ကံဝါဒဆိုတာ ဗုဒ္ဓဝါဒလာ ကံအယူအဆကိုပဲ ရည်ညွှန်းနေတယ်ဆိုတာ အထင်းသားပဲဗျ"

"ဒီလိုဆိုရင် အိတ်ဇစ်ဝါဒအကြောင်းကိုတော့ ကျွန်တော်ဘာမှ နားမလည်တော့ ဒီဝါဒဟာ 'ဗုဒ္ဓဝါဒလာ ကံအယူအဆ' နဲ့ ဝိရောဓိဖြစ် သလား၊ သဟဇာတဖြစ်သလား မပြောနိုင်ဘူး၊ ဒါပေမဲ့ ကံကိုသာယိုးမယ် ဖွဲ့ပြီး မျှော်လိုက်နေဖို့အားမပေးဘူးလို့ ရှေ့ကဆိုထားပြီးမှ နောက်က ကွင်းစ ကွင်းပိတ်နဲ့ ထိုသို့မျှော်လိုက်တတ်သူများမှာလည်း ထိုသို့မျှော်လိုက်ရန်ကံ ပါလာသူများသာဖြစ်၏လို့ ပြန်ပြီး လူပျင်းတွေဘက်က ရှေ့နေလိုက်ထား

ပြန်တော့ ရှေ့စကားနောက်စကား မညီညွတ်တဲ့စာပိုဒ်လို့ ဆိုရမှာပဲ။ ဒီလို ရှေ့နောက် မညီညွတ်တဲ့အယူအဆမျိုးကို ဗုဒ္ဓမြတ်စွာဘယ်တုန်းကမှ မဟောခဲ့ပါဘူး”

“ဒါဆို ဆောင်းပါးရှင် သုံးသပ်ပြနေတဲ့ အတိတ်ဘဝကံကိုသာ အကြွင်းမဲ့အားထားတဲ့ အယူအဆဟာ ဗုဒ္ဓဝါဒနဲ့ ဘာမှမသက်ဆိုင်တော့ ဘူးပေါ့နော်”

“သေချာတာပေါ့ဗျာ၊ ဒီလို မျက်မှောက်ဘဝမှာ ဖြစ်လာတဲ့ သုခ၊ ဒုက္ခ၊ ဝေဒနာ မှန်သမျှဟာ အတိတ်ဘဝကံ တစ်ခုတည်းကိုသာ အကြောင်း ပြုတယ်ဆိုတဲ့အယူအဆကို ဗုဒ္ဓမြတ်စွာကိုယ်တော်တိုင် ငြင်းပယ်ခဲ့တဲ့ အထောက်အထားကို ပိဋကတ်တော်မှာ အထင်အရှားတွေ့နိုင်ပါတယ်”

“ဗုဒ္ဓမြတ်စွာက မျက်မှောက်ဘဝတွေ့ကြုံလာခဲ့တဲ့ ခံစား၊ စံစား မှုတွေနဲ့ပတ်သက်ပြီး ဘယ်လိုများဟောကြားခဲ့လို့တုံး ကိုဝင်းရ”

“ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှားရှိစဉ် အခါကပေါ့ဗျာ၊ မေဠိယ သီဝကဆိုတဲ့ ပရိဗိုဇ်တစ်ဦးက ဗုဒ္ဓထံပါးချဉ်းကပ်ပြီး *အရှင်ဂေါတမ၊ တစ်စုံ တစ်ရာသော သုခဝေဒနာကိုဖြစ်စေ၊ ဒုက္ခဝေဒနာကိုဖြစ်စေ၊ ဥပေက္ခာ ဝေဒနာကိုဖြစ်စေ လူသတ္တဝါတို့ခံစားရခြင်းသည် အားလုံး ရှေးကံကြောင့် ဖြစ်သည်ဟု အချို့သော သမဏဗြာဟ္မဏတို့က ဆိုကြပါသည်။ ဤအရာ၌ အရှင်ဂေါတမက မည်သို့ဆိုပါသနည်း* လို့ မေးလျှောက်ခဲ့ဖူးတယ်”

“ဒီမေးခွန်းရဲ့အဖြေဟာ ကျွန်တော်တို့ အခုဆွေးနွေးနေတဲ့ အကြောင်းအရာအတွက် အဖြေပဲဗျ၊ ဗုဒ္ဓမြတ်စွာရဲ့ ဖြေကြားချက်ကိုလည်း ဆက်ပါဦး ကိုဝင်းရာ”

“ဗုဒ္ဓမြတ်စွာက *သီဝက၊ ဤလောက၌ ဝေဒနာတို့သည် သလိပ် ကြောင့်သော်လည်းကောင်း၊ လေကြောင့်သော် လည်းကောင်း၊ သည်းခြေ၊ သလိပ်၊ လေ သုံးပါးပေါင်းဆုံခြင်းကြောင့်သော် လည်းကောင်း၊ ဥတု ဖောက်ပြန်ခြင်းကြောင့်သော် လည်းကောင်း၊ မညီမညွတ်ဆောင်ရွက်ခြင်း ကြောင့်သော် လည်းကောင်း၊ သူတစ်ပါး၏ လုံ့လပယောဂကြောင့်သော် လည်းကောင်း၊ ပြုလုပ်ခြင်း၏အကျိုးတရား(ကမ္မဝိပါက)ကြောင့်သော် လည်းကောင်းဖြစ်ကုန်၏။ ဤအကြောင်းကို ကိုယ်တိုင်လည်းသိအပ်၏ လောကသည်လည်း အမှန်ဟုသမုတ်အပ်၏။ သို့ဖြစ်သောကြောင့် တစ်စုံ တစ်ခုသောဝေဒနာ ခံစားရခြင်းသည် ရှေးကံကြောင့်သာဖြစ်သည်ဟု ဆိုသော သူတို့၏ စကားကို အမှားဟုငါဆို၏* လို့ ဖြေကြားခဲ့တာကို သံယုတ္တ

နိကာယ်၊ ဝေဒနာသံယုတ်၊ သီဝကသုတ်မှာ အထင်အရှားတွေ့နိုင်ပါတယ်ဗျာ”

“ဟာ၊ အခုအတိုင်းဆို ဒီဆောင်းပါးထဲက ဗုဒ္ဓဝါဒနဲ့ပတ်သက်ပြီး ဖော်ပြထားတဲ့ သုံးသပ်ချက်ဟာ တက်တက်စင်အောင် လွဲမှားနေပါ ပေါ့လား၊ လူငယ်ကြိုက် ခေတ်ပေါ်မဂ္ဂဇင်းတစ်ခုမှာ ရေးထားတာဆိုတော့ ဒီအယူမှားတွေကိုဖတ်ပြီး လူငယ်တွေစိတ်ထဲ အမှားကိုအမှန်ထင်၊ အမှန်ကို အမှားမှတ်သွားကြမှဖြင့် ဒုက္ခပါပဲဗျာ”

“တစ်ချိန်တုန်းကလည်း ခင်ဗျားတို့ကျွန်တော်တို့တစ်တွေ ဗုဒ္ဓဝါဒကို အပေါ်ယံရှုပ်လေ့လာ၊ အမည်ခံဗုဒ္ဓဘာသာဝင်တွေရဲ့ မတော်မတည့် အပြုအမူတွေကိုကြည့်ပြီး နားမလည်ပါးမလည်နဲ့ ဗုဒ္ဓနဲ့ဗုဒ္ဓဝါဒကို ပုတ်ခတ်ပြီး တိုင်းခြားပြည်ခြားကလာတဲ့ ဘုတ်အုပ်ထူကြီးတွေထဲက စာတွေကိုသာ အထင်ကြီးပြီး မတတ်တတတ်နဲ့ဖတ်၊ မဟုတ်တရုတ်တွေလုပ်ခဲ့လို့ အကြီးအကျယ် ဒုက္ခရောက်ခဲ့ဖူးပြီမဟုတ်လား ကိုလင်းရာ”

“ဟုတ်ပါ့ဗျာ၊ ဒီလိုမှမဖတ်၊ မပြောပြန်ရင်လည်း အချင်းချင်း တိုးတက်တဲ့ အမြင်မရှိတဲ့ကောင်၊ ခေတ်ရှင်ပေါက်စ စသဖြင့် ပုတ်ခတ်ကြသေးတယ်၊ ဗုဒ္ဓဝါဒကိုလည်း လူတန်းစားမမှန်တဲ့ ဘူဇွာဝါဒလို့ တိုက်ခိုက်ပြောဆိုခဲ့ကြသေးတယ်၊ အဲ-ထူးဆန်းတာက အဲဒီတုန်းက အာဘောင်အာရင်း သန်ခဲ့တဲ့ ပုဂ္ဂိုလ်တချို့ဟာ အခုတော့ ဝတ်ဖြူစင်ကြယ်ဝတ်၊ ပုတီးကြီးတွေ လည်ပင်းမှာချိတ်ပြီး မုတ်ဆိတ်တဖွားဖွားနဲ့ ဖြစ်နေကြတာ ရယ်စရာပဲဗျာ”

“ဒီလူတွေဟာ ဘယ်ဝါဒကိုမှ ခြေခြေမြစ်မြစ်နားလည်အောင် မလေ့လာဘဲ လူအထင်ကြီးခံချင်တဲ့စိတ်နဲ့ ခါတော်မီဝါဒတွေနောက် လိုက်ဖို့ လောက်သာ အားသန်ခဲ့တာဆိုတော့ ဘာလုပ်လုပ်-အစွန်းတရားနှစ်ပါးကို မရှောင်နိုင်တော့ဘဲ မှားပြီးရင်းဆက်မှား နေကြတာပေါ့ဗျာ၊ ကဲကဲ ခင်ဗျား ဆောင်းပါးလေးဆက်ပါဦး”

“အင်း-*ဗုဒ္ဓဝါဒနဲ့ပတ်သက်တဲ့ သုံးသပ်ချက်တွေထဲက နောက်ဆုံး အပိုင်းကတော့ဗျာ လွတ်လပ်မှုအတွက်၊ လွတ်လပ်ရေးအတွက် တိုင်းသူပြည်သားတိုင်းမှာ တာဝန်ရှိသည်။ ထို့ကြောင့် ကိုယ့်မှာလည်း တာဝန်ရှိသည်၊ ထိုတာဝန်ကိုဆောင်ရွက်နိုင်ဖို့ အကာ ကိုယ့်ကိုပြုပြင်ခြင်း၊ ထို့ကြောင့်ပင် ကိုယ်က ဘကိုမြင်၍ ပြုပြင်ခြင်းမျိုး ဆက်ခံယူနိုင်ပါလိမ့်မည်။ ဥပမာ-လွတ်လပ်မှုကိုမြတ်နိုးခြင်း၊ ရန်သူကိုဒူးမထောက်ခြင်း၊ အမိနိုင်ငံတော်အပေါ် သစ္စာကြီးခြင်း၊ ဤကိစ္စကို သဘောပေါက်လျှင်*

*အိတ်ဇစ်ပါဒနှင့်ကံတို့ ငြိမ်းချမ်းစွာအတူယှဉ်တွဲ နေနိုင်လိမ့်မည်ဟု ကျွန်တော် ယူဆပါသည်*-တဲ့ဗျာ"

"လွတ်လပ်ရေးအတွက် ကိုယ်အပါအဝင် တိုင်းသူပြည်သား တိုင်းမှာ တာဝန်ရှိတယ်ဆိုတာကတော့ မှန်ပါတယ်။ ဒါပေမဲ့ ဒီတာဝန်ကို ဆောင်ရွက်နိုင်ဖို့ ကံကကိုယ့်ကို ပြဋ္ဌာန်းတယ်ဆိုတာကတော့ ဘဝင်ကျစရာ မဟုတ်ဘူးဗျ။ ကိုလင်းလည်း စဉ်းစားကြည့်လေ၊ ဗုဒ္ဓရဲ့အလိုအရဆိုရင် တိုင်းပြည်တစ်ပြည် လွတ်လပ်ရေး ဆုံးရှုံးခြင်းဆိုတဲ့ မကောင်းတဲ့ရလဒ်-ဒုက္ခ ဝေဒနာ ခံစားရတာဟာ ဘာကြောင့်လို့ ကျွန်တော်တို့ပြောမလဲ"

"အင်း-ဗုဒ္ဓဝါဒီတစ်ယောက်အနေနဲ့ ပြောရမယ်ဆိုရင် တိုင်းသူ ပြည်သားတွေရဲ့ မညီမညွတ်ဆောင်ရွက်ခြင်းကြောင့်သော် လည်းကောင်း၊ နယ်ချဲ့တို့ရဲ့ လုံ့လပယောဂကြောင့်သော် လည်းကောင်း၊ တိုင်းသူပြည်သား တို့ရဲ့ ကာယကံ၊ ဝစီကံ၊ မနောကံမြောက် မှားယွင်းတဲ့ပြုလုပ်ခြင်း၏ အကျိုး တရား (ကမ္မဝိပါက)ကြောင့်သော်လည်းကောင်း တိုင်းပြည်တစ်ပြည် လွတ်လပ်ရေး ဆုံးရှုံးခဲ့ရတယ်လို့ အဖြေထုတ်ရမှာပဲဗျ"

"မှန်တာပေါ့ဗျာ၊ လွတ်လပ်ရေးဆုံးရှုံးတာဟာ အတိတ်ဘဝကံ ကြောင့် မဟုတ်သလို လွတ်လပ်ရေးအတွက် တိုင်းသူပြည်သားတိုင်း ပါဝင်ဖို့၊ တိုင်းသူပြည်သားတိုင်း သူ့ကျွန်မခံတွန်းလှန်လိုစိတ်တွေ ဖြစ်ပေါ်လာဖို့ ကိုလည်း အတိတ်ဘဝကံက ပြဋ္ဌာန်းမပေးနိုင်ပါဘူးဗျာ၊ ကမ္ဘာနဲ့အဝန်း လွတ်လပ်ရေးဆုံးရှုံးခဲ့ရတဲ့နိုင်ငံတွေက တိုင်းသူပြည်သားတွေ ထဲမှာ မျိုးချစ်ပုဂ္ဂိုလ်တွေရှိသလို သစ္စာဖောက်တွေလည်း ရှိခဲ့တာပဲ မဟုတ်လား။ လူတစ်ကိုယ် စိတ်တစ်မျိုးစီ ကွဲလွဲနေမှုကို အတိတ်ဘဝကံက ဘယ်လိုလုပ်ပြီး ပြဋ္ဌာန်းပေးနိုင်ပါ့မလဲ။ ***လွတ်လပ်ရေး ပြန်ရကြတာဟာ အတိတ်ဘဝကံကြောင့်မဟုတ်ဘဲ မျိုးချစ်ပြည်သူ ပြည်သားတွေရဲ့ ညီညီညွတ်ညွတ် ဆောင်ရွက်မှု၊ ကာယကံ၊ ဝစီကံ၊ မနောကံမြောက် မှန်မှန်ကန်ကန် ပြုမူခဲ့တဲ့ အကျိုးတရား (ကမ္မ ဝိပါက)၊ မျိုးချစ် ခေါင်းဆောင်ကြီးတွေရဲ့ လုံ့လပယောဂကြောင့်သာ ဖြစ်တယ်ဆိုတာ မမေ့ သင့်ဘူးလေ။*** ဒါကြောင့် ဗုဒ္ဓဝါဒအရဆိုရင် အတိတ်ကံတစ်ခုတည်းက လူပုဂ္ဂိုလ်တစ်ဦးချင်းကိုရော လူ့အဖွဲ့အစည်း တစ်ခုလုံးရဲ့အနာဂတ်ကိုပါ ပြဋ္ဌာန်းပေးနိုင်စွမ်း မရှိပါဘူး"

"အေးဗျ၊ ဗုဒ္ဓမြတ်စွာရဲ့ ကံအယူအဆဟာ မျက်မှောက်ဘဝမှာ လူတွေ ကြိုးကုတ်အားထုတ်ကြတဲ့ ကာယကံ၊ ဝစီကံ၊ မနောကံမြောက်

အပြုအမူတွေကိုသာ အမိအဖသဖွယ် အားကိုးအားထားပြုကြဖို့ကို ဆိုလိုတာပဲ၊ အတိတ်ဘဝကံ ပစ်ချရာမှာနေ၊ အတိတ်ဘဝကံ စေရာသွားပြီး အတိတ်ဘဝကံပြုသမျှ နုရတယ်ဆိုတဲ့ အစွန်းရောက်ကံကြမ္မာဝါဒနဲ့ ဖြောင့်ဖြောင့်ကြီး ဆန့်ကျင်တာပဲဗျ"

"ဒါကြောင့် ဗုဒ္ဓဝါဒဟာ အတိတ်ကပြုခဲ့တဲ့ ကုသိုလ် အကုသိုလ်ကံရဲ့အကျိုးကို အကြွင်းမဲ့မပစ်ပယ်ခဲ့ပေမယ့် အတိတ်ကံဘယ်လောက် ဆိုးလို့ ဘယ်လိုဘဝမျိုး၊ ဘယ်လိုပတ်ဝန်းကျင်မျိုးမှာ မွေးဖွားကျင်လည် ရပါစေ၊ မျက်မှောက်ဘဝ တစ်သက်တာကံကြမ္မာကို လူသားတိုင်းရဲ့ မျက်မှောက်ဘဝ အပြုအမူတွေကသာ ပြဋ္ဌာန်းကြောင်း အလေးအနက် ညွှန်ပြထားတယ်။ ဒါကြောင့် ဗုဒ္ဓဝါဒီတိုင်းဟာ သူတို့ရဲ့အနာဂတ်ကို သူတို့ စိတ်ကြိုက် ရွေးချယ်ပိုင်ခွင့်ရှိတယ်။ *လူဆိုတာ အတိတ်ဘဝကံဆိုတဲ့ ပုံစံခွက် ထဲကထွက်လာတဲ့ သံပတ်ရုပ် မဟုတ်ဘူး။ လူတစ်ဦးချင်းစီရဲ့ အနာဂတ်ဟာ အဲဒီလူတစ်ဦးချင်းစီရဲ့ လက်ထဲမှာပဲရှိတယ်။ ဘယ်ဉပဒေသ၊ တန်ခိုးရှင်တို့ရဲ့ ထိန်းချုပ်မှု အောက်မှာမှမရှိဘဲ လွတ်လပ်စွာ ရွေးချယ်ဆုံးဖြတ်ပိုင်ခွင့် ရှိတယ်* ဆိုတာ ဗုဒ္ဓဝါဒီတိုင်း နားလည်ထားကြရမယ့် အချက်ပဲဗျ"

"ဒီအတိုင်းဆို လူပုဂ္ဂိုလ်တစ်ဦးဟာ ကံ၊ စိတ်၊ ဥတု၊ အာဟာရ ဆိုတဲ့ အကြောင်းတရားလေးပါး ပေါင်းဆုံညီညွတ်မှုကြောင့် ဖြစ်တည်လာခဲ့ ရပြီးတဲ့နောက်မှာ သူ့ဘဝရဲ့အနှစ်သာရ ဂုဏ်သတ္တိကို သူ့စိတ်ကြိုက် ဖန်တီးခွင့် ရှိတာပေါ့နော်"

"မှန်တာပေါ့ဗျာ၊ ဒီအယူအဆဟာ လွန်ခဲ့တဲ့ နှစ်ပေါင်းနှစ်ထောင့် ခြောက်ရာလောက်ကတည်းက ပေါ်ပေါက်ခဲ့ပြီး ကျွန်တော်တို့ မြန်မာ တိုင်းရင်းသားတွေရဲ့ အသွေးထဲအသားထဲမှာ ရာစုနှစ်ပေါင်းများစွာ စိမ့်ဝင် တည်ရှိခဲ့တဲ့ ဗုဒ္ဓဝါဒစစ်စစ်ပေါ့ဗျာ"

"အေးဗျာ၊ ဒါကိုခေတ်လူငယ် အတော်များများက မသိကြတော့ ဗုဒ္ဓဝါဒအပေါ် ယုန်ထင်ကြောင်ထင်ဖြစ်လာကြပြီး အနောက်တိုင်းကလာတဲ့ ဒဿနသစ်တွေနောက်လိုက်ဖို့ ခြေလှမ်းပြင်ကုန်ကြတာပေါ့ ကိုဝင်းရာ"

"တကယ်တော့ဗျာ၊ အခု ကျွန်တော်တို့ပြောနေကြတဲ့ အိတ်ဇစ်ဝါဒ အပါအဝင် ဘယ်နိုင်ငံ ဘယ်ဒေသကလာတဲ့ အယူဝါဒမျိုးကိုမဆို ပွင့်လင်းတဲ့ စိတ်ထား *(Open Mind)* နဲ့ ကြိုဆိုပြီး ခြေခြေမြစ်မြစ် နားလည်အောင် လေ့လာကြမယ်ဆိုရင် မြန်မာလူငယ်တွေအဖို့ ကောင်းသောလက္ခဏာပါပဲ၊ ဒါပေမယ့် ကိုယ့်ရှိရင်းစွဲ ဘိုးဘွားအမွေအနှစ် ဗုဒ္ဓဝါဒကိုလည်း ပိုင်ပိုင်နိုင်နိုင်

မသိကျွမ်း၊ နိုင်ငံရပ်ခြားဝါဒသစ်တွေကိုလည်း ဂဃနဏနားမလည်ဘဲ သူများယောင်လို့ပေါင်ရတယ် အမောင်တောင်မှန်း မြောက်မှန်းမသိဆိုသလို ဖြစ်လာကြရင်တော့ မကောင်းဘူးပေါ့ဗျာ”

“အေးဗျာ၊ ကျွန်တော်တို့ကိုယ်တိုင် ဗုဒ္ဓဘာသာဝင်ပါလို့ ဆိုပေမယ့် ဗုဒ္ဓရဲ့ကံအယူအဆနဲ့ ဗြာဟ္မဏတို့ရဲ့ကံအယူအဆကို သဲသဲကွဲကွဲ နားမလည်ခဲ့ဘူးဗျာ”

“ဒါ့ကြောင့် မျက်မှောက်ခေတ် မြန်မာလူငယ်တွေကို ကျွန်တော်တို့ တိုက်တွန်းသင့်တာက အရပ်ဆယ်မျက်နှာက လာလာသမျှအယူဝါဒ ဒဿနတွေကို လေ့လာကြပါ။ ဒါပေမယ့် ဒီလိုမလေ့လာကြခင် ကိုယ့် မိရိုးဖလာ ဘာသာတရားတစ်ရပ်အနေနဲ့ တည်ရှိနေတဲ့ ဗုဒ္ဓဝါဒအစစ်အမှန် ဟာဘာလဲ ဆိုတာလောက်တော့ သိအောင်လုပ်ထားကြပါဦး။ နိုင်ငံခြားက လာတဲ့ ဘုတ်အုပ်ထူကြီးတွေထဲက ခေတ်ပေါ်ဒဿနတွေဆီသာ စိတ်အား ထက်သန်နေကြပြီး မွေးရာပါအခွင့်အရေး တစ်ရပ်အနေနဲ့ လွယ်လင့်တကူ ခူးဆွတ်လေ့လာ လိုက်နာကျင့်သုံးနိုင်တဲ့ ဗုဒ္ဓဒဿနကိုတော့ မစူးစမ်းဘဲ ကောက်ချက်ချ မစောကြပါနဲ့၊ အလှမ်းကျယ် အလယ်မလပ်ကြပါစေနဲ့လို့ ပါပဲဗျာ”

(၂၇-၉-၉၂)

ဓမ္မရံသီ၊ ၁၉၉၂ခုနှစ်၊ ဒီဇင်ဘာလ။

# အနာဂတ်အတွက်မြှုပ်နှံခြင်း

"စာကြည့်စားပွဲမှာ တစ်ယောက်တည်းထိုင်ပြီး ဘာတွေများ တွေးနေတာတုံး ကိုဝင်းရဲ့"

"တခြားမဟုတ်ပါဘူးဗျာ၊ အသိပညာပေး ဆောင်းပါးလေး တစ်ပုဒ်ရေးမလားလို့ပါ"

"ခင်ဗျားက ဆရာကြီးလုပ်ဦးမလို့ပေါ့လေ"

"ဆရာကြီးလုပ်တာ မဟုတ်ရပါဘူးဗျာ၊ စာဖတ်ပရိသတ်ထဲမှာ ကျွန်တော့်ထက်အဆများစွာ ဉာဏ်အမြော်အမြင် ကြီးမားသူတွေပါတယ် ဆိုတာ သိပြီးသားပါ။ ကိုယ်တွေးတောဆင်ခြင်မိတဲ့ အသိတရားလေး တစ်ခုကို မျှဝေဆွေးနွေးချင်တဲ့ သဘောပါဗျာ"

"စာမူခရတာချင်းအတူတူ ဦးနှောက်မစားဘဲ ပိုက်ဆံရလွယ်၊ လူမုန်းလည်းမများတဲ့ စာမျိုးတွေရေးစမ်းပါဗျာ"

"စာမူခရဖို့ တစ်ခုအတွက်နဲ့တော့ ဒီစာမျိုးတွေ ဘယ်ရေးပါ့မလဲ ဗျာ။ ကိုယ့်ဘဝအနာဂတ်အတွက် ရင်းနှီးမြှုပ်နှံမှုတစ်ခုအနေနဲ့ ကြိုးစားနေ တာပါ"

"ငွေကြေးလည်း မချမ်းသာ၊ စီးပွားရေးလည်း ဟုတ်တိပတ်တိ မလုပ်တတ်တဲ့ ခင်ဗျားလိုလူကများ အခုခေတ်ကြီးမှာ ရင်းနှီးမြှုပ်နှံတယ် ဆိုတဲ့စကား မသုံးစမ်းပါနဲ့ဗျာ"

"လောကမှာ ငွေတို့၊ အတတ်ပညာတို့ထက် အရေးတကြီး တန်ဖိုးထားရမယ့် ရင်းနှီးမြှုပ်နှံစရာကိစ္စတွေ ရှိတယ်ဆိုတာ ကိုလင်း သတိ မမူမိလို့နေမှာပါ"

"ကဲ- ဒါဖြင့် ငွေတို့၊ အတတ်ပညာတို့ထက် အရေးကြီးတဲ့ အရင်း အနှီးအကြောင်း ရှင်းစမ်းပါဦး ကိုဝင်းရယ်"

"အသိပညာအရင်းအနှီးပဲပေါ့ဗျာ။ လူ့အဖွဲ့အစည်းတစ်ခုရဲ့ အနာဂတ်ကို အဲဒီလူ့အဖွဲ့အစည်းထဲမှာပါဝင်တဲ့ လူသားတွေရဲ့အသိ တရားကသာ အဆုံးအဖြတ်ပေးသွားမှာပဲဗျ"

"ခင်ဗျားရဲ့ အသိတရားက ရောင်းစားလို့ရတာမှ မဟုတ်ဘဲ"

"အပေါ်ယံရှုပ်တွေးရင်တော့ အသိတရားက ရောင်းစားလို့မရဘူး ပေါ့ဗျာ။ ရောင်းစားလို့ရမယ့် ထုတ်ကုန်တစ်ခု ဖြစ်လာဖို့ဆိုတာ ငွေအရင်းအနှီး၊ အတတ်ပညာစတဲ့ သွင်းကုန်တွေ လိုအပ်တာပေါ့"

"အဓိက,က အတတ်ပညာပဲဗျ။ အခုခေတ်က အတတ်ပညာချင်း ယှဉ်ပြိုင်နေတဲ့ခေတ်။ ကွန်ပျူတာ အတတ်ပညာတွေဆိုရင် အချိန်နဲ့အမျှ တိုးတက်ပြောင်းလဲနေတာ ခင်ဗျားလည်းအသိပဲ မဟုတ်လား"

"ဟုတ်ပါတယ်ဗျာ။ စားပွဲပေါ်တင်ထားတဲ့ ကွန်ပျူတာ ဖန်သားပြင်ပေါ်ကနေ တစ်ကမ္ဘာလုံးမှာရှိတဲ့ သတင်းအချက်အလက်တွေကို ချက်ချင်းလက်ငင်း ဆက်သွယ်ရယူနိုင်တဲ့ အင်တာနက်စနစ်အကြောင်း ကျွန်တော်လည်းဖတ်ဖူးပါတယ်၊ ဒါပေမယ့် အဲဒီအတတ်ပညာတွေကို လူ့ကျင့်ဝတ်ဆိုတဲ့အသိတရားနဲ့ ထိန်းကွပ်ပေးနိုင်ပါမှ လူသားတွေအတွက် အမှန်တကယ်အကျိုးပြုနိုင်လိမ့်မယ်ဆိုတာကော ခင်ဗျားသတိပြုမိရဲ့လား"

"ဘာဆိုင်လို့လဲဗျာ၊ ကွန်ပျူတာနည်းပညာတွေ တိုးတက်လာတာနဲ့အမျှ တစ်ကမ္ဘာလုံးမှာရှိတဲ့ ဗဟုသုတ သတင်းအချက်အလက်တွေကို လေ့လာဆည်းပူး ရယူနိုင်မယ်။ ဒီနည်းနဲ့တင် လူသားအကျိုးပြုလုပ်ငန်းတစ်ခုကို ဖော်ဆောင်ပေးနေနိုင်ပြီပဲဗျ"

"မဟုတ်သေးဘူး ဆရာရေ့၊ အခုလို တစ်ကမ္ဘာလုံးနဲ့ ဆက်သွယ်လို့ရတဲ့ အခွင့်ကောင်းကိုယူ၊ တိုးတက်ထွန်းကားလာတဲ့ နောက်ဆုံးပေါ်အတတ်ပညာတွေကိုသုံးပြီး မကောင်းမှုဒုစရိုက်တွေ ကျူးလွန်လာကြတာကိုလည်း ထည့်စဉ်းစားဦးလေ။ တချို့ဆိုရင် ကွန်ပျူတာအတတ်ပညာကိုသုံးပြီး ကိုယ့်တိုင်းပြည်ရဲ့လျှို့ဝှက်ချက်တွေကို ဖောက်ထွင်း ရယူ၊ တစ်ဖက်ရန်သူနိုင်ငံကို သတင်းအချက်အလက် ရောင်းစားတာတို့၊ ဘဏ်ရဲ့ကွန်ပျူတာစနစ်ကို ချိုးဖျက်ပြီး သူများပိုင်ငွေကို သန်းနဲ့ချီခိုးယူသွားတာတို့၊ အင်တာနက်ထဲကနေတစ်ဆင့် လူတွေရဲ့အကျင့်စာရိတ္တကို ပျက်ပြားစေမယ့် ကာမရာဂနှိုးဆွတဲ့ရုပ်ရှင်တွေ၊ ရုပ်ပုံတွေထုတ်လွှင့်ပေးတာတို့ စတဲ့အတတ်ပညာကို အလွဲသုံးစားပြုမှုတွေ ထုနဲ့ထေးပေါ်လာကြပြီဗျ"

"သူများရဲ့ ကွန်ပျူတာစနစ်နဲ့သိမ်းထားတဲ့ အချက်အလက်တွေကို ဖျက်ဆီးနိုင်တဲ့ ဗိုင်းရပ်(စ်)ပရိုဂရမ်တွေလည်း မနည်းဘူးဗျနော်"

"အဲဒီ ပရိုဂရမ်တွေကို အပြိုင်အဆိုင်ရေးနေတဲ့ လူတွေဟာ သာမန်ပုဂ္ဂိုလ်တွေမဟုတ်ဖူး ကိုလင်းရေ၊ တကယ့်ကို ကွန်ပျူတာပရိုဂရမ် ရေးသားမှု

အတတ်ပညာမှာ ထိပ်ထိပ်ကြဲတော်တဲ့ လူတွေပဲဗျ”

“ဒီလို တော်တဲ့ ပညာရှင်ကြီးတွေက မဟုတ်တာ လုပ်ပါ့မလားဗျာ”

“ဩော်- ကိုလင်းရယ်၊ အတတ်ပညာရှင်ဆိုတိုင်း လူ့ကျင့်ဝတ်သိက္ခာ စောင့်စည်းရမယ်ဆိုတဲ့ အသိတရားရှိကြတာ မဟုတ်ဘူးဗျ။ လူသားတွေကို သန်းနဲ့ချီပြီး မိနစ်ပိုင်းအတွင်းသေစေနိုင်တဲ့ ဟိုက်ဒြိုဂျင်ဗုံးတို့၊ ရောဂါဘယတွေဖြစ်၊ ကပ်ဆိုက်ပြီးသေစေနိုင်တဲ့ ဇီဝလက်နက်တို့၊ ဓာတုလက်နက်တို့ ဆိုတာတွေဟာ အတတ်ပညာရှင်တွေရဲ့ ဦးနှောက်က ထွက်လာတဲ့ ထုတ်ကုန်တွေပဲ”

“အေးဗျ၊ တိုးတက်လာတဲ့အတတ်ပညာကို အသိတရားချွန်းနဲ့ အုပ်ပြီးအသုံးချပါမှ လူသားတွေအတွက် အမှန်တကယ်အကျိုးပြုနိုင်မှာပဲ”

“ဒါကြောင့် လူ့အဖွဲ့အစည်းတစ်ခု တိုးတက်ဖွံ့ဖြိုးလာဖို့ဆိုရင် အတတ်ပညာ တိုးတက်လာဖို့လိုသလို တစ်ဖက်ကလည်း လူသားတွေရဲ့ အသိတရား မြင့်မားလာအောင် ဟန်ချက်ညီညီ အားထုတ်သွားရမှာပဲဗျ။ အတတ်ပညာ တိုးတက်တာနဲ့အမျှ ရုပ်ဝတ္ထုပစ္စည်းတွေ တိုးတက်လာမှာပဲ၊ အဲဒီတိုးတက်လာတဲ့ ရုပ်ဝတ္ထုပစ္စည်းတွေကို လူသားထုကောင်းကျိုး သယ်ပိုးတဲ့ဘက်ကို ဦးတည်သွားအောင် ထိန်းကွပ်လမ်းညွှန်ပေးသွားရမှာက အသိတရားရှိတဲ့ လူသားတွေပဲ မဟုတ်လား”

“ဟုတ်ပါ့ဗျာ၊ တိုးတက်တဲ့အတတ်ပညာဟာ လူ့ကျင့်ဝတ်သိက္ခာနဲ့ ညီညွတ်တဲ့ ပုဂ္ဂိုလ်တွေရဲ့လက်ထဲမှာရှိနေဖို့ အရေးကြီးတာပေါ့”

“အမြော်အမြင်ကြီးမားတဲ့ ကမ္ဘာ့စီးပွားရေးပညာရှင်ကြီးတွေကလည်း လူ့အဖွဲ့အစည်းတစ်ခုတိုးတက်ဖို့ အရေးအကြီးဆုံး သွင်းကုန် ဟာ လူသားအရင်းအမြစ် *(Human Resources)* ပဲ ဖြစ်တယ်လို့ ပြောကုန်ကြပြီလေ”

“ဟား. . ၊ လူသားအရင်းအမြစ်ကတော့ ကျုပ်တို့ဆီမှာ ကြွယ်ဝပါတယ်ဗျာ။ တစ်နှစ်တစ်နှစ် တိုးလာလိုက်တဲ့ ပါးစပ်ပေါက်တွေ. . ”

“လူသားအရင်းအမြစ်ဆိုတာ လူဦးရေ *(Population)* ပေါ်မှာ မူမတည်ဘူး ကိုလင်းရဲ့၊ လူ့အဖွဲ့အစည်းတစ်ခု တိုးတက်လာအောင် ဆောင်ကြဉ်းပေးနိုင်မယ့် အရည်အသွေးရှိတဲ့ လူသားတွေကိုသာ လူသားအရင်းအမြစ်လို့ခေါ်တယ်”

“အတတ်ပညာလည်းရှိ၊ အသိတရားနဲ့လည်း ပြည့်စုံတဲ့ လူတွေကို ဆိုလိုတာပေါ့”

"မှန်ပါတယ်။ ဒီလို အရည်အသွေးပြည့် လူသားတွေ တိုးပွားသည်ထက် တိုးပွားလာတာနဲ့အမျှ ကျွန်တော်တို့နေထိုင်ရာ လူ့အဖွဲ့အစည်း လည်း ဖွံ့ဖြိုးလာမှာ မလွဲကေန်ပါပဲ"

"ဒါပေမယ့် ဒီကိစ္စက လွယ်တဲ့ကိစ္စတော့ မဟုတ်ဘူးဗျနော်"

"ကျွန်တော်တို့မျိုးဆက်မှာ အခြေအနေအရ မဖြစ်လာနိုင်သေးရင်တောင် ကျွန်တော်တို့ သားသမီးမြေးမြစ်တွေရဲ့ခေတ်မှာ ဖြစ်လာအောင် မျိုးဆက်တစ်ခုပြီးတစ်ခု လက်ဆင့်ကမ်း ကြိုးပမ်းကြရမှာပေါ့ဗျာ"

"ခင်ဗျားဖြစ်ချင်တာကို ကျွန်တော် သဘောပေါက်ပါတယ်ဗျာ၊ အရည်အသွေးပြည့် လူသားတွေနဲ့ဖွဲ့စည်းထားပြီး ဖွံ့ဖြိုးတိုးတက်တဲ့ လူ့အဖွဲ့အစည်းအသိုင်းအဝိုင်းထဲမှာ အဆင့်အတန်းမြင့်မြင့် နေချင်တဲ့ ဆန္ဒနဲ့ 'အသိတရားရင်းနှီးမြှုပ်နှံမှု' လုပ်သင့်တယ်ဆိုတာကိုလည်း နားလည် ပါပြီ။ ဒါပေမယ့် ခင်ဗျားအသက်ရှင်နေစဉ် ကာလအတွင်း မျှော်မှန်းသလို ဖြစ်မလာခဲ့ရင် ခင်ဗျားရဲ့ ကြိုးပမ်းမှုတွေရဲ့ရလဒ်ကို ခံစားရပါဦးမလား"

"အခုနပြောခဲ့သလိုပေါ့ဗျာ၊ ကျွန်တော်တို့မျိုးဆက်မှာ မအောင်မြင်သေးရင် နောက်လာမယ့်မျိုးဆက်အသစ်တွေက ကြိုးစားသွားရမှာပဲ။ တကယ်စဉ်းစားကြည့်ရင် ကျွန်တော်တို့ရဲ့ အမျိုးဗီဇ၊ ဇာတိသွေးတွေ စီးဆင်းနေတာနဲ့အမျှ၊ လက်ဆင့်ကမ်းခံယူသွားကြမယ့် မျိုးဆက်သစ်တွေဟာ ကျွန်တော်တို့ရဲ့ အနာဂတ်တွေပါပဲ"

"ပညာတတ်ပြီး အသိတရားပြည့်ဝတဲ့ လူ့ပတ်ဝန်းကျင်တစ်ခုကို ဖော်ဆောင်ချင်တဲ့ ရည်ရွယ်ချက်နဲ့စေတနာကိုတော့ ကျွန်တော်လက်ခံပါတယ်၊ ဒါပေမယ့် ဒီအလုပ်မျိုးကို ခင်ဗျားတစ်ယောက်တည်း လုပ်လို့တော့ နှမ်းတစ်စေ့နဲ့ ဆီမဖြစ်ပါဘူးဗျာ"

"ဟာ- ဒီအလုပ်ကို ကျွန်တော်တစ်ယောက်တည်း လုပ်နေတယ်လို့ဘယ်တုန်းကမှ မပြောရပါလားဗျာ၊ ကျွန်တော်ကစဉ်းစားခန်း ဝင်နေတုန်းရှိသေးတယ်။ ကျွန်တော်တို့ထက် ရှေးကျတဲ့မျိုးဆက်ပေါင်း များစွာကတည်းက အသိဉာဏ်အမြော်အမြင်ပြည့်ဝတဲ့ ရဟန်းပညာရှိ၊ လူပညာရှိကြီးတွေက တတ်စွမ်းသမျှလုပ်ခဲ့ပြီးပါပြီ။ ဥပမာတစ်ခုပဲ ပြောမယ်ဗျာ၊ မဟာဂန္ဓာရုံဆရာတော် အရှင်ဇနကာဘိဝံသရဲ့ အဆိုအမိန့်တစ်ခုကိုပဲ ကြည့်လေ၊ သူ့ကျောင်းရဲ့ဆောင်ပုဒ် လုပ်ငန်းစဉ် (၁၀)ရပ်ကို အများသိအောင် ရေးထားရာမှာ ထိပ်ဆုံးက '***စိတ်ကောင်းရှိဖို့ ကပထမ***' လို့ အတိအလင်း ကြော်ညာခဲ့တာပဲ"

"အဲဒါတော့ ဟုတ်တယ်ဗျို့၊ ဆရာတော်ကြီးက ပညာတွေ ဘယ်လောက်တတ်တတ်၊ စိတ်ထားမမြင့်မြတ်ရင် အလကားပဲဆိုတာ သိအောင် ဆုံးမခဲ့တာပဲ။ စိတ်ကောင်းရှိဖို့ဆိုတာ အသိတရားလိုတယ်၊ အသိတရားရှိပြီး ပညာပြည့်ဝတဲ့ အရည်အသွေးပြည့် လူသားတွေသာ တန်ဖိုးရှိတယ်ဆိုတာ ဆရာတော်ကြီးက မျိုးဆက်သစ်တွေကို ပညာပေး သွားခဲ့တာပဲ"

"အချုပ်ပြောရရင်ဗျာ၊ အတတ်ပညာဆိုတာ လွယ်ပြောင်းရယူဖို့ လွယ်ပါတယ်။ အသိတရားနဲ့ ပြည့်စုံဖို့ကတော့ သားစဉ်မြေးဆက် ပြုစု ပျိုးထောင် သွားရမယ့်ကိစ္စပဲ၊ ဒီကိစ္စဟာ တစ်ဦးတစ်ယောက်ချင်း လုပ်လို့ ရမယ့်ကိစ္စလည်း မဟုတ်လေတော့ ကိုယ်နေထိုင်ရာ လူ့အဖွဲ့အစည်း တိုးတက်မြင့်မားလာတာကို လိုလားတဲ့သူတိုင်း၊ ကိုယ့်ဘဝရဲ့ အနာဂတ် အတွက် အမွန်မြတ်ဆုံး ရင်းနှီးမြှုပ်နှံမှုကို ပြုကြပါစို့လို့ နှိုးဆော်လိုက်ချင် ပါတယ်ဗျာ"

(၁၃-၉-၉၇)
မွေ့ရံသီ၊ ၁၉၉၈ခုနှစ်၊ ဇန်နဝါရီလ။

Future Publishing House

# ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဘာသာဝင်

တလောက မိတ်ဆွေတစ်ဦးနှင့် စကားလက်ဆုံကျရင်း မြန်မာများနှင့်ပတ်သက်၍ အနောက်တိုင်းမှထုတ်ဝေခဲ့သည့် စာအုပ်များအကြောင်း ရောက်သွားခဲ့သည်။ မိတ်ဆွေက သူနောက်ဆုံးသိရသမျှ မြန်မာများနှင့် ပတ်သက်သော စာအုပ်တစ်အုပ် မကြာမတင်ကပင် အနောက်တိုင်းမှာ ထွက်ခဲ့သည်ဟုဆိုသည်။ ရေးသူမှာလည်း မြန်မာနိုင်ငံသားဖြစ်ခဲ့ဖူးသော အနောက်တိုင်းရောက် စီးပွားရေးပါရဂူကြီးတစ်ဦးဟုဆိုသည်။ ယင်းစာအုပ်ထဲတွင် ဗုဒ္ဓဘာသာဝင်အများစုဖြစ်သော မြန်မာတိုင်းရင်းသားတို့၏ စရိုက်လက္ခဏာများကို ထည့်သွင်းရေးသားထားကြောင်း သိရှိရသည်။

ယင်းသို့ရေးသားရာတွင် ပါရဂူကြီးက မြန်မာတိုင်းရင်းသားအများစုအပေါ် ဗုဒ္ဓဘာသာ၏ ဩဇာလွှမ်းမိုးမှု အရှိန်အဝါကြီးမားပုံကို ဖော်ပြထားသည်။ ဗုဒ္ဓဘာသာသည် မြန်မာတိုင်းရင်းသားတို့၏ ခေတ်နှင့်အညီ တိုးတက်ထွန်းကားရေး လမ်းကြောင်းပေါ်တွင် အတားအဆီးတစ်ရပ် အနေနှင့်ရှိခဲ့သည်ဟု သဘောသက်ရောက်သော ကောက်ချက်ချမှုများ လည်း ပါဝင်ခဲ့သည်ဟုဆိုသည်။

မိတ်ဆွေက ယင်းစီးပွားရေးပါရဂူကြီး၏ အဆိုအမိန့်သည် ယုတ္တိတန်ကြောင်း၊ သူ့အနေနှင့်လည်း ယင်းသို့ပင်ခံစားမိသည်မှာ ကြာပြီဖြစ်ကြောင်းပြောသည်။ သူကိုယ်တိုင်ပင် ဗုဒ္ဓဘာသာဝင်တစ်ဦး ဖြစ်သော်ငြားလည်း၊ အထက်ကဆိုသလိုပင် ဗုဒ္ဓဘာသာသည် ဗုဒ္ဓဘာသာဝင် မြန်မာတိုင်းရင်းသားတို့ကို ကမ္ဘာနှင့်ရင်ပေါင် မတန်းစေနိုင်သည့် အကန့်အသတ်တစ်ခုများ ဖြစ်နေမလားဟု တွေးမိသည်ဟုဆိုသည်။ ခေတ်ပညာတတ် ဗုဒ္ဓဘာသာဝင် မြန်မာလူငယ်အချို့မှာလည်း သူ့လိုပင် ထင်မြင်ယူဆသည်ကိုတွေ့ရကြောင်းပြောသည်။

အမှန်ကား ယခုကဲ့သို့ဗုဒ္ဓဘာသာအပေါ် တွေဝေလာကြခြင်း သည် **ဗုဒ္ဓဘာသာ** နှင့် **ဗုဒ္ဓဘာသာဝင်** ဆိုသော ဝေါဟာရနှစ်ခုအကြား ခြားနားသော အဓိပ္ပာယ်သက်ရောက်မှု ရှိကြောင်းကို မစဉ်းစားမိ၍သာ

ဖြစ်ပေသည်။ အနောက်တိုင်းရောက် စီးပွားရေးပါရဂူကြီးအပါအဝင် ဗုဒ္ဓဘာသာ၏ ဩဇာလွှမ်းမိုးမှုအပေါ် သံသယဝင်လာသော ခေတ်ပညာတတ် မြန်မာလူငယ်များအနေနှင့် ယင်းဝေါဟာရနှစ်ခု၏ အဓိပ္ပာယ်နှင့်အနှစ်သာရကို သဘောပေါက်ရန် အထူးလိုအပ်လှပေသည်။ သို့ဖြစ်၍ ဤဆောင်းပါးတွင် ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဘာသာဝင်ဆိုသော ဝေါဟာရနှစ်ခုအကြား ခြားနားသော အနက်အဓိပ္ပာယ်ဆောင်ပုံကို အကျဉ်းချုံးတင်ပြသွားပါမည်။

ဗုဒ္ဓဘာသာဟူသည် အဘယ်နည်း။ ဤဝေါဟာရနှင့်ပတ်သက်၍ နိုင်ငံတော် သီးခြားဝိနည်းမိုရ်အဖွဲ့ အမှတ်(၂) က လူသေလူဖြစ် ဝါဒါနုဝါဒ ဝိနိစ္ဆယဆုံးဖြတ်ချက်တွင် . . . *ဘာသာဟူသော စကားလုံးသည် ပါဠိ စကားမှ ဆင်းသက်လာသည်။ ဘာသီယတေကာတီယတေတိ ဘာသာ၊ ဗုဒ္ဓဿ ဘာသာ ဗုဒ္ဓဘာသာ - ဗုဒ္ဓရှင်တော်မြတ် ဟောပြောတော်မူအပ် သောကြောင့် ဗုဒ္ဓ၏အဆုံးအမဟူသမျှ၊ စကားတော်ဟူသမျှသည် ဗုဒ္ဓဘာသာမည်၏။ ယင်းကို အင်္ဂလိပ်ဘာသာဖြင့်* ***Buddhism or Buddha's Teaching*** *ဟုခေါ်ဆိုရသည်။ ဗုဒ္ဓဘာသာ မြန်မာတိုင်းရင်းသား တို့အလယ်တွင် ဗုဒ္ဓဘာသာဟုဆိုလိုက်သည်နှင့် တစ်ပြိုင်နက် ဗုဒ္ဓရှင်တော် မြတ်၏အဆုံးအမ တရားစကား၊ ဗုဒ္ဓသာသနာဟူသော အနက်အဓိပ္ပာယ်ကို ယခုအခါ၌ တစ်ချက်တည်း နားလည်သွား၏* ဟု အဓိပ္ပာယ်ဖွင့်ဆိုခဲ့သည်။ သို့ဖြစ်ရာ ဗုဒ္ဓသက်တော်ထင်ရှားရှိစဉ်က ဟောကြားခဲ့သော အဆုံးအမ စကားအားလုံးကို ဗုဒ္ဓဘာသာဟု ခေါ်ဆိုနိုင်လေသည်။

ဗုဒ္ဓဘာသာ၏ အနက်အဓိပ္ပာယ်ကို သဘောပေါက်ပြီးလျှင် ဗုဒ္ဓဘာသာဝင်ဆိုသောဝေါဟာရ၏ အနက်အဓိပ္ပာယ်ကိုလည်း နားလည်ရန် လိုအပ်လှပေသည်။ တစ်ချိန်ကဆိုလျှင် စာရေးသူကိုယ်တိုင်ပင် ဗုဒ္ဓဘာသာဝင် ဟူသော ဝေါဟာရ၏အနက်ကို လွဲမှားစွာဖွင့်ဆိုခဲ့ဖူးပါသည်။ သို့ရာတွင် နိုင်ငံတော် သီးခြားဝိနည်းမိုရ်အဖွဲ့ အမှတ်(၃)၏ ကြောင်းပန်းတောရဝါဒ ဝိနိစ္ဆယကျမ်းကို ဖတ်ပြီးသောအခါ ဗုဒ္ဓဘာသာဝင်ဟူသော ဝေါဟာရ၏ အဓိပ္ပာယ်ကို အောက်ပါအတိုင်း သဘောပေါက်ခဲ့သည်။

*ဗုဒ္ဓဘာသာဝင်* ***(Buddhist)*** *ဟူသောဝေါဟာရနှင့်ထပ်တူညီသော ပိဋကတ်တော်လာ အသုံးအနှုန်းမှာ ဥပါသကဆိုသော ဝေါဟာရပင် ဖြစ်သည်။ ဥပါသက၏အဓိပ္ပာယ်မှာ ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်သူပင် ဖြစ်၏။ ဗုဒ္ဓဘာသာဝင်သမိုင်းတွင်အား တပုဿနှင့်ဘလ္လိက ညီနောင် နှစ်ဦးမှာ ရှေးဦးပထမ ဥပါသကများပင်ဖြစ်သည်။ သူတို့ ဗုဒ္ဓမြတ်စွာကို*

*ဖူးတွေ့ ရင်းအခါ သံသယဟူ၍ မရှိသေးသဖြင့် ဗုဒ္ဓနှင့်ဓမ္မကို ကိုးကွယ်ရာဟူ၍ ဆည်းကပ်ပါ၏။ လျှောက်ထားပြီး ရတနာနှစ်ပါးအပေါ် ဒွေဝါစိကသရဏဂုံ ဆောက်တည်ခဲ့ကြရသည်။ နောက်ပိုင်း ဗုဒ္ဓ၏နောက်လိုက် သံဃာ အစည်းအရုံး ပေါ်ပေါက်လာချိန်တွင်ကား ဗုဒ္ဓ၊ ဓမ္မနှင့်သံဃာဆိုသော ရတနာမြတ် သုံးပါးကို ကိုးကွယ်ရာဟူ၍ဆည်းကပ်ပါ၏ဟု စိတ်တွင် ညွတ်ကိုင်းပြင်းအားဖြင့် သရဏဂုံဆောက်တည်ပြီးသူကို ဗုဒ္ဓဘာသာဝင်ဟု သမုတိသဘောအရ ခေါ်ဝေါ်ပညတ်နိုင်ပေသည်။*

အဋ္ဌကထာ ဆရာများအလိုအရကား ***လောကုတ္တရာသရဏဂုံ*** နှင့် ***လောကီသရဏဂုံ*** ဟူ၍ထပ်မံခွဲခြားနိုင်သည်။ လောကုတ္တရာသရဏဂုံ ဆိုသည်မှာ သောတာပန်အစရှိသော အရိယာသူတော်စင်ကြီးများ၏ ရတနာမြတ်သုံးပါးအပေါ် မမှိတ်မသုန်ယုံကြည် ကိုးကွယ်ခြင်းပင်ဖြစ်သည်။ လောကုတ္တရာ သရဏဂုံတည်ပြီးသူတစ်ဦးအဖို့ ဗုဒ္ဓဘာသာဝင်အဖြစ်မှ မည်သည့်အခါမျှ မဆုံးရှုံးနိုင်တော့ချေ။ လောကီသရဏဂုံ တည်သူမှာကား အခြားဘာသာဝင်အဖြစ် ခံယူသွားလျှင်ဖြစ်စေ၊ ဘဝတစ်ပါးသို့ ကူးပြောင်းသွားလျှင်ဖြစ်စေ ဗုဒ္ဓဘာသာဝင်အဖြစ်မှ ဆုံးရှုံးသွားနိုင်ပေသည်။ လောကီသရဏဂုံတည်သူကိုလည်း-

(၁)ရတနာသုံးပါးကို မိမိကိုယ်ကိုစွန့်လွှတ် လှူဒါန်းခြင်းဖြင့် ဆည်းကပ်သူ၊ (၂) ရတနာသုံးပါးသည်သာ မှီခိုလဲလျောင်းရာဟု ယုံကြည် အားကိုးခြင်းဖြင့် ဆည်းကပ်သူ၊ (၃) ရတနာသုံးပါး၏ တပည့်အဖြစ်ခံယူခြင်းဖြင့် ဆည်းကပ်သူ၊ (၄) ရတနာသုံးပါးကို ဆွေမျိုးတော်၍ သော်လည်းကောင်း၊ ကြောက်၍ သော်လည်းကောင်း၊ လောကီအကျိုးစီးပွားအတွက် နည်းပေးလမ်းပြ ဆရာသမားတော်ခဲ့ဖူး၍ သော်လည်းကောင်း ရှိသေရှိခိုးခြင်းမျိုး မဟုတ်ဘဲ လောက၌အမြတ်ဆုံးဟုသဘောပိုက်ကာ ရှိသေမြတ်နိုး၍ရှိခိုးခြင်းဖြင့် ဆည်းကပ်သူဟူ၍ လေးမျိုးလေးစားခွဲခြားပြခဲ့သည်။

ထို့ကြောင့် ဗုဒ္ဓဟောကြားသောတရား အဆုံးအမဒေသနာတော်တို့နှင့်အညီ လိုက်နာကျင့်သုံးခြင်းမရှိသေးသော်လည်း ရတနာမြတ်သုံးပါးကို လောကတွင်အမြတ်ဆုံးကိုးကွယ်ရာဟု ယုံကြည်ကိုးစားသောစိတ်ဖြစ်ပေါ်ခဲ့လျှင်ပင် ယင်းပုဂ္ဂိုလ်သည် လောကီသရဏဂုံ တည်သွားပြီဖြစ်၍ သမုတိသစ္စာ သဘောအရ ဗုဒ္ဓဘာသာဝင်တစ်ဦးဟု ခေါ်ဝေါ်ပညတ်ခြင်း ခံထိုက်သွားပြီဖြစ်သည်။

ဗုဒ္ဓသက်တော်ထင်ရှား ရှိစဉ်အခါကပင် ယင်းသို့သော ပုဂ္ဂိုလ်

မျိုးများရှိခဲ့ဖူးသည်။ ဗုဒ္ဓ၏ လမ်းညွှန်အဆုံးအမနှင့်အညီ လိုက်နာကျင့်သုံးနေသော ဗုဒ္ဓဘာသာဝင်များနှင့် အမည်ခံဗုဒ္ဓဘာသာဝင်တို့အကြား အနှစ်သာရချင်း ကွာခြားမှုကိုသိမြင်သော ဗုဒ္ဓမြတ်စွာက သူ၏ဥပါသက(ဝါ) ဗုဒ္ဓဘာသာဝင်များကို *ဒွန်းစဏ္ဍာားနှင့်တူသောဥပါသက* (အောက်တန်းစား ဗုဒ္ဓဘာသာဝင်)နှင့် *ပဒုမ္မာကြာနှင့်တူသောဥပါသက* (အထက်တန်းစား ဗုဒ္ဓဘာသာဝင်)များဟူ၍ ပိုင်းခြားသတ်မှတ်ခဲ့သည်။

ဗုဒ္ဓမြတ်စွာက အောက်ပါအင်္ဂါရပ်များနှင့် ပြည့်စုံသူတို့ကို ဒွန်းစဏ္ဍားနှင့်တူသော ဥပါသကများအဖြစ် အဓိပ္ပာယ်ဖွင့်ဆိုခဲ့သည်။

(၁) ရတနာမြတ်သုံးပါးကို အလွန်ကြည်ညိုမှုမရှိခြင်း၊ (၂) သီလ မလုံခြုံခြင်း၊ (၃) အကြား၊ အမြင် စသောလောကီမင်္ဂလာကို ပြုလုပ်လေ့ရှိခြင်း၊ (၄) အကြား၊ အမြင်စသော လောကီမင်္ဂလာကိုယုံ၍ ကံကိုမယုံခြင်း၊ (၅) သာသနာပဥ္စအလှူခံရှာ၍ အလှူပေးခြင်းတို့ပင် ဖြစ်သည်။

ခြုံငုံသုံးသပ်ပြရလျှင် ဒွန်းစဏ္ဍားနှင့်တူသော ဥပါသက (အောက်တန်းစား ဗုဒ္ဓဘာသာဝင်)များသည် ရတနာမြတ်သုံးပါးအပေါ် အသိဉာဏ်ပညာနှင့်ယှဉ်သော ကြည်ညိုသဒ္ဓါစိတ်ခေါင်းပါးရကား ဗုဒ္ဓ၏ လမ်းညွှန်အဆုံးအမများအပေါ် ယုံယုံကြည်ကြည် လိုက်နာလေ့မရှိပေ။ ထို့ကြောင့် ကိုယ်ကျင့်သီလဆိုင်ရာ ဗုဒ္ဓ၏လမ်းညွှန်ပညတ်ချက်များကို မသိ ကျိုးကျွံ ပြု၍ အခွင့်သာတိုင်းချိုးဖောက်လေ့ရှိသည်။ မိမိကိုယ်ကိုသာ အားထားရာ ဆိုသော ဗုဒ္ဓ၏ဒေသနာကို ကျောခိုင်းပြီး ဖြတ်လမ်းမှ ကြီးပွားမည့်နည်းကို ရှာလေ့ရှိသည်။ ကြားရသောအသံ၊ မြင်ရသောအဆင်း သဏ္ဌာန်တို့ကိုစွဲ၍ အတိတ်နမိတ်ကောက်ယူလေ့ရှိသော မင်္ဂလာအယူအဆများကို ယုံကြည်စွဲလမ်းသည်။ ဗေဒင်၊ ယတြာ၊ ဓာတ်ဆင်၊ ဓာတ်ရိုက်၊ အင်္ဂဝိဇ္ဇာ၊ အတိတ်တဘောင်စသည်များကို အားကိုးသည်။

မိမိစေတနာမှ ပေါက်ဖွားလာသော ကံ၏အကျိုးပေးမှုကို မယုံကြည်ချေ။ မကောင်းသောစေတနာကိုမွေးပြီး ကောင်းသောရလဒ်ကိုသာ လိုချင်ကြသည်။ ဤတွင် စစ်မှန်သော ဗုဒ္ဓသာသနာတော်မှ သွေဖည်ယိမ်းယိုင်နေသည့် ကယ်တင်စောင်မနိုင်သည် ဆိုသူများကို အားကိုးတကြီးတွယ်ကပ် ပူဇော်ကြသည်။ သူရဿတီ၊ လက်ချမီး၊ စန္ဒီ၊ ကွမ်ယင် စသည့် သာသနာပမယ်တော်များ၊ မဟိန္ဒရာသူတော်စင်၊ ဆိုင်းဘာဘာစသော ဖကီးကြီးများ၊ ဆာဒူးကြီးများ၊ ယက္ကန်းစင်တောင်၊ ရှင်မထီး၊ ဘိုးဘိုးအောင်၊ ဘိုးမင်းခေါင်စသော ဝိဇ္ဇာဓိုရ်များ၊ စစ်မှန်သော ဗုဒ္ဓဘာသာအလိုအရ

နတ်စာရင်းမဝင်သော သုံးဆယ့်ခုနစ်မင်းနတ်များ၊ ဗေဒင်ဟူးရား အခါပေး ပညာရှင်ဆိုသူများအား ဆည်းကပ်လေ့ရှိကြသည်။ ဗုဒ္ဓကိုယ်တော်တိုင် ဟောကြားခဲ့သည့် သုံးဆယ့်ရှစ်ဖြာသော မင်္ဂလာတရားတော်နှင့်အညီ လိုက်နာနေထိုင်ကျင့်ကြံရန်ကား စိတ်ကူးထဲပင်မထည့်ကြပေ။

ဗုဒ္ဓမြတ်စွာသည် အောက်ပါအင်္ဂါရပ်များနှင့် ပြည့်စုံသူများကိုမူ 'ပဒုမ္မာကြာ' နှင့်တူသည့် ဥပါသကများအဖြစ် သတ်မှတ်တော်မူခဲ့သည်။

(၁) ရတနာသုံးပါးကို မမှိတ်မသုန်ကြည်ညိုခြင်း၊ (၂) သီလ လုံခြုံခြင်း၊ (၃) လောကီမင်္ဂလာကို မပြုလုပ်ခြင်း၊ (၄) အကြား၊ အမြင်စသော လောကီမင်္ဂလာကိုမယုံဘဲ ကံကိုသာယုံခြင်း၊ (၅) သာသနာတွင်း၌သာ အလှူခံပုဂ္ဂိုလ်ရှာ၍ အလှူပေးခြင်းတို့ပင်ဖြစ်သည်။

ပဒုမ္မာကြာနှင့်တူသောဥပါသကများသည် ရတနာမြတ်သုံးပါးအပေါ် အသိဉာဏ်ပညာနှင့်ယှဉ်လျက် မမှိတ်မသုန်ကြည်ညိုသောကြောင့် ဗုဒ္ဓ၏ အဆုံးအမစကားတော်နှင့်အညီ လိုက်နာကျင့်သုံး နေထိုင်လေ့ရှိကြသည်။

ထို့ကြောင့် ကိုယ်ကျင့်သီလမြဲမြံသည်။ မိမိဘဝ ကြီးပွားတိုးတက် ရေးအတွက် မိမိကိုယ်ပိုင် ကံ၊ ဉာဏ်၊ ဝီရိယမှတစ်ပါး အခြားအားကိုးရာ မရှာတော့ချေ။ မှန်စွာကြံ၊ မှန်စွာပြောပြီး၊ မှန်စွာလုပ်ကိုင် ဆောင်ရွက်နေ သူများဖြစ်ရကား မည်သူ့ကိုမျှလည်း ထိတ်လန့်စိုးရွံ့နေမည် မဟုတ်ချေ။ ဖြတ်လမ်းလည်းမရှာ၊ ရှာစရာလည်းမလိုပေ။ ဤသို့သော ပုဂ္ဂိုလ်မျိုးအဖို့ ပြဿဒါး၊ ရက်ရာဇာ၊ နဂါးဦးခေါင်းလှည့်စသည့် ကိစ္စများကို ထည့်စဉ်းစား နေစရာမလိုတော့ပေ။ အတိတ်နိမိတ်များ၊ တဘောင်များ၊ ဗေဒင် ယတြာများ၊ အခါပေးပညာရှင်များ၊ နတ်များ၊ ဝိဇ္ဇာမိုရ်များကိုလည်း အားကိုးခြင်းမရှိချေ။ သူ့အတွက် နေ့တိုင်းရက်ရာဇာပင် ဖြစ်တော့သည်။ ဗုဒ္ဓဟောကြားတော်မူခဲ့သော သုံးဆယ့်ရှစ်ဖြာမင်္ဂလာတရားနှင့်အညီ လိုက်နာကျင့်ကြံရင်း ဘဝတက်လမ်းကို တစ်ဆင့်ချင်းမှန်မှန် လှမ်းနေသူပင် ဖြစ်သည်။ ဘုရား၊ တရား၊ သံဃာတည်းဟူသော ရတနာမြတ်သုံးပါးကိုသာ ကိုးကွယ် ဆည်းကပ်နေသူဖြစ်၍ အခြားမည်သည့် အယူဝါဒမတူသူက မည်သို့သောမြောက်လုံး ချောက်လုံးတို့နှင့် ဆွဲဆောင်စေကာမူ မမြောက်၊ မကြောက်တော့ဘဲ စစ်မှန်သော ဗုဒ္ဓဘာသာဝင်တစ်ဦးအဖြစ် ရာသက်ပန် မတုန်မလှုပ်နေထိုင် ကျင့်ကြံသွားသူများပင် ဖြစ်တော့သည်။

ဤမျှဆိုလျှင် ဗုဒ္ဓဘာသာဝင်ဟူ၍ သမုတိသစ္စာသဘောအရ အမည်သညာ ပညတ်နိုင်သော်ငြားလည်း အထက်တန်းစား ဗုဒ္ဓဘာသာဝင်

နှင့် အောက်တန်းစားဗုဒ္ဓဘာသာဝင်ဟူ၍ ဗုဒ္ဓကိုယ်တော်တိုင်က ခွဲခြားသတ်မှတ်ထားခဲ့ကြောင်း စာရှုသူတို့ သဘောပေါက်လောက်ပေပြီ။

သို့ဖြစ်ရာ ပဒုမ္မာကြာနှင့်တူသောဥပါသကဆိုသည့် အထက်တန်းစား ဗုဒ္ဓဘာသာဝင်များရော ဒွန်းစဏ္ဍားနှင့်တူသော ဥပါသကဆိုသည့် အောက်တန်းစား ဗုဒ္ဓဘာသာဝင်များပါ ရောနှောပါဝင်နေသူအားလုံး၏ အကျင့်စရိုက်လက္ခဏာတို့ကို ခြုံငုံအကဲခတ်ပြီး ဗုဒ္ဓဘာသာအပေါ် တန်ဖိုးဖြတ်၍မရစကောင်းပေ။

ဗုဒ္ဓဘာသာအဆုံးအမနှင့်အညီ လိုက်နာကျင့်ကြံအားထုတ်သူတိုင်းသည် ဗုဒ္ဓဘာသာဝင် ဖြစ်ပေသည်။ သို့သော် ဗုဒ္ဓဘာသာဝင် အဖြစ် 'သမုတိသဘောအရ ပညတ်ခေါ်ဝေါ်ခြင်း' ကို ခံယူထားသူတိုင်းသည် ဗုဒ္ဓဘာသာ အဆုံးအမနှင့်အညီ လိုက်နာကျင့်ကြံ အားထုတ်နေသူများ မဟုတ်ကြချေ။ ထိုကြောင့် အောက်တန်းစား ဗုဒ္ဓဘာသာဝင်များ၏ ကြံစည်၊ ပြောဆို၊ ပြုမူလုပ်ဆောင်မှုတို့ကြောင့် ဖြစ်ထွန်းလာသည့် ရလဒ်အချို့ကို ကြည့်ပြီး ဗုဒ္ဓဘာသာအပေါ် အပြစ်ပုံချကြမည်ဆိုပါက ခွင့်လွှတ်နိုင်ဖွယ် မရှိသောအမှားတစ်ရပ်ကို ကျူးလွန်လိုက်ရာ ရောက်ပေလိမ့်မည်။

တစ်ဆက်တည်း တိုက်တွန်းလိုသည်ကား ယခုအခါ ဗုဒ္ဓဘာသာဝင်ဟု အမည်ခံထားသူများအနေနှင့် မိမိကိုယ်ကိုမိမိတို့ အထက်တန်းစား ဗုဒ္ဓဘာသာဝင်များလော၊ အောက်တန်းစား ဗုဒ္ဓဘာသာဝင်များလော ဆိုသည်ကို ပြန်လည်ဆန်းစစ် ကြည့်ကြရန်ပင် ဖြစ်သည်။

မြန်မာတိုင်းရင်းသား ဗုဒ္ဓဘာသာဝင် လူငယ်များအနေနှင့်လည်း မိမိတို့ကိုယ်ကို အထက်တန်းစား ဗုဒ္ဓဘာသာဝင်များ ဖြစ်လာအောင် ဦးတည်ကြိုးပမ်းသွားဖို့ အထူးလိုအပ်လှပေသည်။ အောက်တန်းစား ဗုဒ္ဓဘာသာဝင်များ ယုတ်လျော့သွားပြီး အထက်တန်းစား ဗုဒ္ဓဘာသာဝင်များ တိုးပွားလာသည်နှင့်အမျှ ဗုဒ္ဓဘာသာသည် မြန်မာ့လူဘောင်၏ တိုးတက်ရာလမ်းကြောင်းပေါ်တွင် အဟန့်အတား မဟုတ်သည့်အပြင် ရှေ့ဆောင် လမ်းပြမီးရှူးတန်ဆောင် တစ်ခုပင်ဖြစ်ကြောင်း နားလည်သဘောပေါက်လာကြမည်မှာ မြေကြီးလက်ခတ်မလွဲပင် ဖြစ်ပေတော့သည်။

(၂၄-၁၂-၉၂)
ဓမ္မရံသီ၊ ၁၉၉၃ခုနှစ်၊ ဧပြီလ။

# ထေရဝါဒဆိုသည်မှာ

မြန်မာတိုင်းရင်းသားအများစုသည် မိမိတို့ကိုယ်ကို ထေရဝါဒ ဗုဒ္ဓဘာသာဝင်များအဖြစ် ခံယူထားကြပေသည်။ ထို့ကြောင့် ထေရဝါဒ ဆိုသော ဝေါဟာရသည် မြန်မာတို့နားတွင် မစိမ်းတော့ချေ။ သို့ရာတွင် 'ထေရဝါဒဆိုတာဘာလဲ၊ ဘာ့ကြောင့် ထေရဝါဒဗုဒ္ဓဘာသာလို့ ဝိသေသ ပြုပြီးခေါ်ဆိုရပါသလဲ' ဟု မေးခွန်းထုတ်ကြည့်လျှင်ကား ဂဃနဏရေရေ ရာရာ အဖြေပေးနိုင်သူဦးရေ နည်းပါးလှသေးကြောင်း တွေ့ပေလိမ့်မည်။

အချို့က "ထေရဝါဒဗုဒ္ဓဘာသာဆိုတာ ငါတို့ မြန်မာ၊ သီရိလင်္ကာ၊ ထိုင်း၊ ကမ်ပူးချား၊ လာအိုစတဲ့ တောင်ဘက်ခြမ်းနိုင်ငံတွေက ကိုးကွယ်တဲ့ တောင်ပိုင်းဗုဒ္ဓဘာသာပဲကွ။ တရုတ်၊ ဂျပန်၊ နီပေါလ်၊ တိဗက်၊ ကိုရီးယား၊ ဗီယက်နမ်၊ ဘူတန်၊ ရုရှားစတဲ့ မြောက်ဘက်ခြမ်းနိုင်ငံတွေက ကိုးကွယ်တဲ့ ဗုဒ္ဓဘာသာကိုတော့ မြောက်ပိုင်းဗုဒ္ဓဘာသာလို့ ခေါ်တယ်ကွ" ဟု ပထဝီ အနေအထားပိုင်းခြား၍ အဖြေပေးကြသည်။

အချို့ကမူ *ထေရဝါဒဗုဒ္ဓဘာသာဆိုတာ ဟီနယာနဗုဒ္ဓဘာသာကို ပြောတာကွ၊ ဗုဒ္ဓဘာသာမှာ ကြီးကျယ်မြင့်မြတ်တဲ့လမ်းစဉ်လို့ အဓိပ္ပာယ်ရတဲ့ မဟာယာနဗုဒ္ဓဘာသာနဲ့ နိမ့်ကျတဲ့လမ်းစဉ်လို့ အဓိပ္ပာယ်ရတဲ့ ဟီနယာန ဗုဒ္ဓဘာသာလို့ နှစ်မျိုးရှိတယ်။ ငါတို့မြန်မာနိုင်ငံက ဗုဒ္ဓဘာသာကတော့ ဟီနယာနဗုဒ္ဓဘာသာ (ခေါ်) ထေရဝါဒဗုဒ္ဓဘာသာပေါ့ကွ* ဟု ဆိုသူက ဆိုသည်။

ဤအဖြေစကားများသည် လက်ခံကျေနပ်ဖွယ်ရာ အကြောင်း မရှိချေ။ မည်သည့်ဘာသာအယူဝါဒကို ယုံကြည်သက်ဝင်သူမဆို မိမိ ယုံကြည်သက်ဝင်ရာ အယူဝါဒကို အဘယ့်ကြောင့် ဤသို့အမည်သညာ သတ်မှတ်ရသည်ဆိုခြင်းနှင့် ယင်းအယူဝါဒ၏သဘော အနှစ်သာရ အကျဉ်းချုပ်လောက်တော့ ရေရေရာရာသိရှိထားသင့်ပေသည်။ ထိုသို့ မဟုတ်ပါက မိမိယုံကြည်သက်ဝင်ရာ ဘာသာအယူဝါဒဆိုင်ရာ လုပ်ငန်းများ ကို လုပ်ဆောင်ရာတွင် ယင်းဘာသာအယူဝါဒလာ အဆိုအမိန့်များနှင့်

ကိုက်ညီခြင်းရှိ-မရှိ မည်သို့နှိုင်းချိန်နိုင်ပါမည်နည်း။

ထေရဝါဒဗုဒ္ဓဘာသာဝင်ဆိုသူများ အနေနှင့်လည်း မိမိတို့၏ ဘာသာရေးဆိုင်ရာ လုပ်ရပ်များသည် ထေရဝါဒဗုဒ္ဓဘာသာနှင့် ကိုက်ညီနေပါ၏လော၊ သို့တည်းမဟုတ် သွေဖည်လမ်းချော်နေပြီလော ဆိုခြင်းကို နှိုင်းဆချိန်ထိုးနိုင်ရန်အလို့ငှာ ထေရဝါဒဟူသောဝေါဟာရ၏ အဓိပ္ပာယ်ဝိသေသနှင့် အနှစ်သာရအကျဉ်းချုပ်မှုကို တင်ပြသွားပါမည်။

ထေရဝါဒဆိုရာတွင် 'ထေရ' ဟူသော ပါဠိဝေါဟာရကို 'ထေရ်၊ မထေရ်' ဟူ၍ ပြန်ဆိုကြ၏။ မထေရ်ဟူသည်မှာ အနည်းဆုံး ဆယ်ဝါရပြီးသော ရဟန်းတော်ကို ဆိုလိုပေသည်။ ထေရ်ကြီးဝါကြီးဟု ဆိုလျှင် ဝါတော်သိက္ခာတော် ကြီးရင့်သည့် ရဟန်းတော်ကြီးများကို ဆိုလိုခြင်းဖြစ်ပေသည်။

'ဝါဒ' ဆိုသည်မှာကား အယူအဆ၊ ခံယူချက်ကို ဆိုလိုသည်။

ထို့ကြောင့် 'ထေရဝါဒ' ဆိုသည်မှာ သီလ၊ သမာဓိ၊ ပညာနှင့် ပြည့်စုံတော်မူသည့် ဝါတော်သိက္ခာတော် ကြီးရင့်သော ရဟန်းသံဃာတော်များ၏ အယူအဆ၊ ခံယူချက်ဟု အဓိပ္ပာယ်ဖွင့်ဆိုနိုင်ပေသည်။

သို့သော် ဤမျှဖြင့် ပြည့်စုံသောအဖြေကို မရနိုင်သေးချေ။ အဘယ်ကြောင့် ဝါတော်၊ သိက္ခာတော်ကြီးရင့်သော ရဟန်းတော်ကြီးများ၏ အယူအဆ၊ ခံယူချက်ဟုဆိုရပါသနည်း။ ဝါတော်သိက္ခာတော် မကြီးရင့် သော ရဟန်းများ၏အယူအဆ၊ ခံယူချက်ကော ရှိနေပါသေးသလောဟု ထပ်ဆင့်မေးဖွယ်ရာ ရှိပေသည်။ ဤမေးခွန်းကို ဗုဒ္ဓသာသနာတော် သမိုင်းကြောင်းအကျဉ်းနှင့် ဆက်စပ်တင်ပြဖြေဆိုမှသာ ပြေလည်နိုင်မည် ဖြစ်သည်။

ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်မပြုမီကပင် သံဃာတော်များအတွင်း၌ 'ဆွမ်းဆန်ထဲကြွက်ချေးရော' ဆိုသကဲ့သို့ ဗုဒ္ဓချမှတ်ထားသည့် ဝိနည်းသိက္ခာပုဒ်အချို့ကို ကျူးလွန်ဖောက်ဖျက်လိုသည့် ရဟန်းဆိုးများရှိခဲ့သည်။ ဗုဒ္ဓဘုရားရှင်ကို မလွန်ဆန်ဝံ့၍သာ နေခဲ့ရသည်။ ဗုဒ္ဓ၏ ဝိနည်းသိက္ခာပုဒ်များသည် မလိုအပ်ဘဲတင်းကြပ်လှသည်ဟု ယူဆကာမကျေမချမ်းဖြစ်နေခဲ့ကြသည်။ ဗုဒ္ဓဘုရားရှင် ပရိနိဗ္ဗာန်စံဝင်သည်နှင့် ထိုအုပ်စု ခေါင်းထောင်လာခဲ့ကြသည်။

*"ရဟန်းကြီးဂေါတမသည် ငါတို့ကိုအရာရာတွင် ချုပ်ချယ်ခဲ့၏။ ယခုမူကား ငါတို့ပြုလိုရာ ပြုကြကုန်အံ့၊ မပြုချင်သည်ကို မပြုဘဲနေကြ*

ထုန်အံ့" ဟု ထုတ်ဖော်တိုင်ပင် လာကြတော့သည်။

ဤသည်ကို ***အရှင်မဟာကဿပ မထေရ်ကြီး*** အမှူးပြုသော ရဟန္တာမထေရ်မြတ်ကြီးများ ကြားသိလေသော် အနာဂတ်သာသနာတော် အရေးအတွက် ရတက်မအေးဖြစ်ကြရသည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာ၏ ဓမ္မဒေသနာတော်တို့ကို အကျင့်ပျက်ရဟန်းများ ပြင်ဆင်၊ ဖျက်သိမ်း၊ အစားထိုးခြင်းမပြုစေဘဲ မူလအတိုင်းစနစ်တကျ တည်ရှိနေစေရေးအတွက် အများသဘောတူ ညှိနှိုင်းစိစစ်တည်းဖြတ်၍ တညီတညွတ်တည်း ရွတ်ဆိုအတည်ပြုကြရန် (သင်္ဂါယနာ တင်ကြရန်) ဆုံးဖြတ်ကြသည်။

ထို့နောက် သာသနာသက္ကရာဇ် ၁-ခုနှစ် (ဗုဒ္ဓ ပရိနိဗ္ဗာန်စံပြီးနောက် တစ်နှစ်အတွင်း) တွင် အရှင်မဟာကဿပ၊ အရှင်ဥပါလိနှင့် အရှင်အာနန္ဒာ အမှူးပြုသော ဝါတော်သိက္ခာတော် အကြီးရင့်ဆုံး ရဟန္တာမထေရ်မြတ်ကြီး ငါးရာတို့သည် ***ဘုရင်အဇာတသတ်*** ၏ အထောက်အပံ့ဖြင့် ရာဇဂြိုလ်ပြည်၌ ပထမအကြိမ် သင်္ဂါယနာတင်ရာတွင် ဗုဒ္ဓမြတ်စွာ၏ ဓမ္မဒေသနာတော်တို့ အနက်မှ ပုဂ္ဂိုလ်အားလျော်စွာဟောကြားခဲ့သော နှုတ်ကပါဌ်တော်တို့ကို ***သုတ္တန်ပိဋကတ်*** အဖြစ်လည်းကောင်း၊ သံဃိကအစည်းအရုံးဆိုင်ရာ ကျင့်ဝတ် စည်းကမ်းဥပဒေများကို ***ဝိနည်းပိဋကတ်*** အဖြစ်လည်းကောင်း၊ နက်နဲသော သီဝရီသဘောတရားများကို ***အဘိဓမ္မာပိဋကတ်*** အဖြစ်လည်းကောင်း စနစ်တကျစီစဉ်ပိုင်းခြား သတ်မှတ်ခဲ့ကြသည်။ ပမာဆိုရသော် ဗုဒ္ဓမြတ်စွာ၏ ဓမ္မဒေသနာပန်းပုံကြီးကို ပထမသင်္ဂါယနာတင် မထေရ်မြတ်ကြီးတို့က ပိဋကတ်သုံးပုံအဖြစ် အစီအစဉ်တကျ သီကုံးပေးလိုက်ခြင်းပင် ဖြစ်ပေသည်။

ပထမသင်္ဂါယနာတင် ရဟန္တာမထေရ်မြတ်ကြီးများသည် သံဃာတော်များအနေဖြင့် ဗုဒ္ဓမြတ်စွာ မူလကပညတ်ခဲ့သည်တို့ကို အသစ်တိုးချဲ့ ဖြည့်စွက်ခြင်းမပြုရန်၊ ဖြုတ်ပယ် ဖျက်သိမ်းခြင်းမပြုရန်နှင့် ပညတ်တော် သိက္ခာပုဒ် စည်းကမ်းဥပဒေများကို ရိုသေစွာလိုက်နာ ကျင့်သုံးသွားကြရန် လည်း တညီတညွတ်တည်း ဆုံးဖြတ်ခဲ့ကြပေသည်။ ဤသည်ကို အကျင့်ပျက် ရဟန်းများက မကျေနပ်ကြသော်လည်း ဓမ္မဝါဒီတို့အင်အား ကောင်းနေချိန်ဖြစ်သဖြင့် အဓမ္မဝါဒီတို့ ခွန်းတုံ့မပြန်ဝံ့ခဲ့ကြပေ။

သို့သော် သာသနာတော် သက္ကရာဇ် (၁၀၀)ပြည့်နှစ် ခန့်တွင်ကား အကျင့်ပျက်ရဟန်းများ ခေါင်းထောင်လာကြပြန်သည်။ အားပေးချီးမြှောက်မည့် အဓမ္မဝါဒီ မင်းစိုးရာဇာများလည်း ပေါ်ပေါက်လာခဲ့သည်။ အဆိုပါ

အကျင့်ပျက်ရဟန်းများသည် ဝိနည်းသိက္ခာပုဒ်များကို ၎င်းတို့အလိုကျ ပြင်ဆင်၊ ဖြည့်စွက်၊ ဖျက်သိမ်းခြင်းများ ပြုလာကြတော့သည်။

ထို့ကြောင့် ဓမ္မဝါဒီရဟန္တာမထေရ်မြတ်ကြီးများမှာ မနေသာတော့ဘဲ အကျင့်ပျက်ရဟန်းတို့၏ မှားယွင်းသောအယူအဆ၊ ဟောပြောလုပ်ဆောင်ချက်များကို ထောက်ပြခဲ့ကြသည်။ အဓမ္မဝါဒများကို ဖယ်ရှားသန့်စင်ကာ မြတ်ဗုဒ္ဓ၏ စစ်မှန်သော ဓမ္မဒေသနာတော်များ ဆက်လက်တည်တံ့နေရန်အလို့ငှာ ***အရှင်မဟာယသ*** အမှူးပြုသော ရဟန္တာမထေရ်မြတ် ၇၀၀ တို့သည် သာသနာသက္ကရာဇ် (၁၀၀)ပြည့်နှစ်တွင် ဝေသာလီပြည်၌ ***ကာလာသောက*** ဘုရင်၏ အထောက်အပံ့ဖြင့် ဒုတိယသင်္ဂါယနာတင်ခဲ့ကြသည်။ ဒုတိယသင်္ဂါယနာတင် ရဟန္တာမထေရ်မြတ်ကြီးများသည် ပထမသင်္ဂါယနာတင် ရဟန္တာမထေရ်မြတ်ကြီးများ၏ အယူအဆနည်းတူ ဗုဒ္ဓဓမ္မဒေသနာတော်များကို မူလအတိုင်းဆက်လက်ခံယူ လိုက်နာကျင့်သုံးရန် တညီတညွတ်တည်း ဆုံးဖြတ်ခဲ့ကြသည်။ ဤဆုံးဖြတ်ချက်ကို အကျင့်ပျက်ရဟန်းတို့က မနာခံကြသဖြင့် ၎င်းတို့အားသံဃာ့ကံပြုကာ ဗုဒ္ဓ၏ မူလသံဃိကအစည်းအရုံးမှ အပြီးအပိုင်ထုတ်ပယ်လိုက်တော့သည်။

ဤတွင် အဓမ္မဝါဒီ အကျင့်ပျက်ရဟန်းတို့ကလည်း သူတို့အားထောက်ခံသူများပြားသည့် ***ကောသမ္ဗီပြည်*** တွင် သွားရောက်စုရုံးပြီး ဗုဒ္ဓဒေသနာတော်များအား သူတို့အလိုကျ ပြင်ဆင်၊ ဖြည့်စွက်မှုများ ပြုကာ ***စင်ပြိုင်သင်္ဂါယနာ*** တင်ခဲ့ကြသည်။ သူတို့၏ သံဃာ့အစုအဝေးကိုလည်း ***ကြီးကျယ်မြင့်မြတ်သော သံဃိကအစည်းအရုံး (ဝါ) မဟာသံဃိကဂိုဏ်း*** ဟု အမည်ပေးလိုက်ကြသည်။

ယင်းကာလမှစတင်၍ ဗုဒ္ဓဘုရားရှင်၏ မူလဓမ္မဒေသနာတော် တို့ကို ပြင်ဆင်၊ ဖြည့်စွက်၊ ဖျက်ဆီးခြင်းအလျှဉ်းမပြုဘဲ အတိအကျ လိုက်နာကြရမည်ဟူသော ရဟန္တာမထေရ်မြတ်ကြီးများ၏ အယူအဆအားဆက်လက်ခံယူထားသည့် သံဃာ့အဖွဲ့အစည်းကို ***ထေရဝါဒဂိုဏ်း*** ဟုလည်းကောင်း၊ အဓမ္မဝါဒီရဟန်းများ ဦးဆောင်သည့် သံဃာ့အဖွဲ့အစည်းကို ***မဟာသံဃိကဂိုဏ်း*** ဟူ၍ လည်းကောင်း ခေါ်ဝေါ်လာခဲ့ကြသည်။

ဒုတိယသင်္ဂါယနာတင်ခေတ် နောက်ပိုင်းတွင် ထေရဝါဒဂိုဏ်းအတွင်းမှပင် မူလဗုဒ္ဓဝါဒမှသွေဖည်လိုသည့်ရဟန်းများက ထပ်မံခွဲထွက်ခဲ့ကြပြန်ရာ ***ဝဇ္ဇီပုတ္တကာ၊ မဟိသာသကာ၊ သဗ္ဗတ္ထိဝါဒ*** စသည့် ဂိုဏ်းခွဲ(၁၁)ခုပေါ်ပေါက်လာပြန်သည်။ မဟာသံဃိကဂိုဏ်းမှလည်း ဂိုဏ်းခွဲခြောက်ခု

ထပ်မံကွဲသွားသည့်အပြင် သာသနာပတက္ကတွန်းများကလည်း ဗုဒ္ဓသာသနာ အတွင်း ဝင်ရောက်ဂိုဏ်းထောင်ခဲ့ရာ **အန္ဓက** အစရှိသည့် ဂိုဏ်းခွဲကိုးခု ပေါ်ပေါက်လာခဲ့ပေသည်။ ထေရဝါဒဂိုဏ်းမှအပ အခြားဂိုဏ်းခွဲများသည် သူတို့အလိုကျ သုတ္တန်အသစ်၊ ဝိနည်းအသစ်၊ အဘိဓမ္မာအသစ်များ တီထွင် ရေးသား ဟောပြောလာခဲ့ကြသည်။

ယင်းတို့အနက် အချို့ဂိုဏ်းများသည် ပြာဟ္မဏဝါဒ၊ ဂျိမ်းဝါဒ စသည့် သာသနာပအယူဝါဒများကို ဗုဒ္ဓဝါဒဆိုင်းဘုတ်အတွင်း ဆွဲသွင်းလာ ခဲ့ကြသည်။ ဂေါတမဗုဒ္ဓသည် ပြာဟ္မဏတို့ကိုးကွယ်ရာ ဖန်ဆင်းရှင်မဟာ အတ္တကြီး၏ ကိုယ်ပွား၊ ဗိဿနိုးနတ်မင်း၏ လူဝင်စားတစ်ဦး ဖြစ်သည်ဟု ဆိုသူကဆိုသည်။ 'ဗုဒ္ဓသည် လူသားကဖြစ်သော ဘုရားမဟုတ်၊ နဂိုကပင် ဘုရားဖြစ်နှင့်ပြီးသား ထာဝရဘုရားဖြစ်သည်၊ သတ္တဝါတို့ အကျိုးအတွက် သူ၏တန်ခိုး အာနုဘော်တို့ကို ဂါထာမန္တန်များထဲ၌ ထည့်သွင်းထားခဲ့ရာ သူ၏ဂါထာမန္တန်များကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်းဖြင့် ဘေးရန်ကင်းမည်၊ စီးပွားတိုးတက်မည်၊ ဂုဏ်တက်မည်၊ နောက်ဆုံး နိဗ္ဗာန်မဂ်ဖိုလ်ကိုပင် လွယ်လွယ်နှင့် ရကြလိမ့်မည်' ဟူ၍ ပြောသူကပြောလာကြသည်။

ဗုဒ္ဓဝါဒကို နာမ်ဝါဒဖြစ်သည်ဟူ၍ လည်းကောင်း၊ ရုပ်ဝါဒ ဖြစ်သည်ဟူ၍ လည်းကောင်း ကိုယ်သန်ရာသန်ရာဆွဲ၍ အဓိပ္ပာယ်ဖွင့်ဆို လာကြသည်။ တစ်နေ့တခြားဆိုးရွားလာသည့် အဓမ္မဝါဒီ ရဟန်းပျက်များကို သာသနာတော်အတွင်းမှ သန့်စင်ပစ်ရန် လိုအပ်လာတော့သည်။ ထို့ကြောင့် ***အရှင်မဟာမောဂ္ဂလိပုတ္တတိဿ*** မထေရ်မြတ်နှင့် ပါဋလိပုတ်ပြည့်ရှင် ***အသောကမင်းကြီး*** တို့သည် ရဟန်းကောင်းနှင့်ရဟန်းပျက်တို့ကို ခွဲခြားစိစစ် ကာ ထေရဝါဒီ ရဟန္တာအရှင်မြတ် (၁၀၀၀)တို့ဖြင့် သာသနာသက္ကရာဇ် ၂၃၅- ခုနှစ်တွင် ***တတိယအကြိမ်သင်္ဂါယနာ*** တင်ခဲ့ကြသည်။ ဤတွင် ဘုရင့် အာဏာစက်ဖြင့် နှင်ထုတ်ခံရသော အဓမ္မဝါဒီ ရဟန်းပျက်များကလည်း အားကျမခံ နာလန္ဒမြို့၌စုံရုံးကာ သူတို့၏အဓမ္မဝါဒကို တညီတညွတ်တည်း ဖြစ်စေရန် ဒုတိယအကြိမ်မြောက် စင်ပြိုင်သင်္ဂါယနာ တင်ခဲ့ကြလေသည်။

မဇ္ဈိမဒေသတွင် မြတ်ဗုဒ္ဓ၏မူလသာသနာ အဓွန့်ရှည်ရန် မလွယ် ကူတော့ကြောင်း ရိပ်စားမိလာသည့် ထေရဝါဒီရဟန်းတော် မထေရ်မြတ် များသည် မြန်မာ၊ သီရိလင်္ကာအစရှိသော ကိုးတိုင်း၊ ကိုးဌာနသို့ သာသနာပြု ရဟန်းတော်များ စေလွှတ်ခဲ့သည်။ ယင်းသာသနာပြု ရဟန်းတော်များ၏ ကျေးဇူးဖြင့် သုဝဏ္ဏဘုမ္မိမှတဆင့် ကျွန်ုပ်တို့ မြန်မာနိုင်ငံတစ်ဝန်း ထေရဝါဒ

ဗုဒ္ဓသာသနာတော် ပြန့်ပွားထွန်းကားလာခဲ့ခြင်းပင်ဖြစ်သည်။

ဤနေရာတွင် အလျဉ်းသင့်၍ဖော်ပြလိုသည်မှာ ထေရဝါဒဗုဒ္ဓဘာသာသည် ဟီနယာနဗုဒ္ဓဘာသာ မဟုတ်ခြင်းပင်ဖြစ်သည်။ မဟာယာန= (မဟာ=မြတ်သော+ယာန=ယာဉ်)၊ ဟီနယာန= (ဟီန=နိမ့်ကျသော+ ယာန= ယဉ်) ဟူ၍ ခွဲခြားသောအယူအဆသည် မူလပင်မ ဗုဒ္ဓဘာသာဖြစ်သည့် ထေရဝါဒဂိုဏ်းမှ ထုတ်ပယ်ခြင်းခံရသော မဟာသံဃိက၊ အန္ဓက၊ ဝဇ္ဇီပုတ္တက၊ မဟိသာသက၊ သဗ္ဗတ္ထိဝါဒ စသည့် ဂိုဏ်းခွဲများအကြား အယူဝါဒ ရေးရာ ငြင်းခုံမှုမှ ပေါ်ပေါက်လာခြင်းသာဖြစ်သည်။

မဟာယာနတို့က မိမိတို့ကိုယ်ကို ဘုရားအလောင်းဗောဓိသတ္တများအဖြစ်ခံယူကြ၏။ သံသရာတစ်လျှောက်လုံး ပါရမီဖြည့်ကျင့်ကာ ဘုရားအဖြစ်နှင့် ဝေနေယျသတ္တဝါအပေါင်းကို ကယ်တင်ချွေချွတ်ပြီးမှ နိဗ္ဗာန်သို့ စံဝင်ကြရမည်ဟုဆိုသည်။ သူတို့၏ ကြီးကျယ်မြင့်မြတ်သော ဘုရားအလောင်းလမ်းစဉ်ကို လက်မခံသည့် သဗ္ဗတ္ထိဝါဒဂိုဏ်းသားများ၊ သတ္တန္တိဂိုဏ်းသားများနှင့် ဝိညာဏဂိုဏ်သားအချို့အား နိမ့်ကျသော သာဝကလမ်းစဉ်လိုက်သည့် ဟီနယာနဂိုဏ်းသားများဟု ခေါ်ဝေါ်ပညတ်ရာမှ ဤအသုံးအနှုန်း တွင်ကျယ်လာခဲ့ခြင်းဖြစ်သည်။

မဟာယာနနှင့်ဟီနယာနတို့ ဂိုဏ်းကွဲချိန်တွင် အိန္ဒိယနိုင်ငံ၌ ထေရဝါဒဗုဒ္ဓဘာသာ ကွယ်ပျောက်ခဲ့ပြီးဖြစ်ရာ မဟာယာန၊ ဟီနယာန ဆိုသည့် အသုံးအနှုန်းများသည် ထေရဝါဒနှင့်မည်သို့မျှမသက်ဆိုင်ချေ။

ထေရဝါဒဗုဒ္ဓဘာသာသည် အိန္ဒိယနိုင်ငံတွင် ကွယ်ပျောက်သွားခဲ့သော်လည်း မြန်မာ၊ သီရိလင်္ကာ၊ ထိုင်း၊ ကမ်ပူးချား၊ လာအိုး စသည့် နိုင်ငံများသို့ ပျံ့နှံ့သွားခဲ့သည်။ သာသနာသက္ကရာဇ် (၄၅၀)တွင် သီရိလင်္ကာ နိုင်ငံ၌ စတုတ္ထသင်္ဂါယနာတင်ခဲ့ရာ ပိဋကတ်သုံးပုံအား ပေထက် အက္ခရာတင်ခဲ့သည်။ သာသနာသက္ကရာဇ် (၂၄၀၀)တွင် မြန်မာနိုင်ငံ မန္တလေး ရတနာပုံနေပြည်တော်၌ ပဥ္စမသင်္ဂါယနာတင်ခဲ့ရာ ပိဋကတ်သုံးပုံကို ကျောက်ထက်အက္ခရာတင်ခဲ့ပြီး သာသနာသက္ကရာဇ် (၂၅၀၀)တွင် ရန်ကုန်မြို့၌ ဆဋ္ဌသင်္ဂါယနာတင်ကာ ပိဋကတ်သုံးပုံကို ပုံနှိပ်ကျမ်းစာအုပ်များအဖြစ် ထုတ်ဝေနိုင်ခဲ့သည်။

ထေရဝါဒမဟုတ်သည့် အခြားဂိုဏ်းခွဲများမှာကား သာသနာသက္ကရာဇ် (၆၀၀)ပြည့်နှစ်တွင် ကက်ရှမီးယားဒေသ၌ တတိယနှင့် နောက်ဆုံးအကြိမ်အဖြစ် သင်္ဂါယနာတင်ခဲ့ကြသေးသည်။ ယင်းနောက်တွင်ကား

မဟာယာန၊ ဟီနယာနစသည်ဖြင့် ဂိုဏ်းခွဲအမျိုးမျိုး၊ အဘိဓမ္မာ အသွယ်သွယ် ကွဲပြားသွားရာ မည်သို့မျှပြန်လည်စုစည်း၍ မရတော့ချေ။ သို့သော် ယင်းတို့၏အယူအဆ အတွေးအခေါ် အကျင့်အကြံများသည် ယခုတိုင်အောင် ခေတ်အဆက်ဆက် ထေရဝါဒအတွင်း စိမ့်ဝင်ထိုးဖောက် ဖျက်ဆီးမှုများ ရှိခဲ့ပေသည်။

ဗုဒ္ဓရုပ်ပွားတော်များ၊ ဗောဓိသတ္တရုပ်ထုများကို ပုံသဏ္ဍာန်အမျိုးမျိုး၊ မုဒြာ (လက်အနေအထား) အမျိုးမျိုးဖြင့် အမည်အမျိုးမျိုးပေးကာ လောကီ အကျိုးစီးပွားအတွက် သိဒ္ဓိတင်အစီအရင်များပြုလုပ်ခြင်း၊ ဂါထာမန္တန် အမျိုးမျိုး တီထွင်ရေးစပ်ကာ လောကီအကျိုးစီးပွားအတွက် ရွတ်ဖတ်ခြင်း၊ ဗေဒင်ယတြာ ဓာတ်ဆင်ဓာတ်ရိုက်ပြုလုပ်ခြင်း၊ ဂြိုဟ်များ၊ နက္ခတ်တာရာများ ကို ပူဇော်ခြင်း၊ ဝိဇ္ဇာဓိုရ်များ၊ နတ်ပြဟ္မာများ၊ ဒေဝီများ စသည်တို့ကို ကိုးကွယ် ပသခြင်း စသည့်လုပ်ရပ်များသည် မဟာယာန၊ မန္တရ၊ တန္တရဂိုဏ်း သားတို့၏ ဩဇာ လွှမ်းမိုးလာသည့် ပြယုဂ်များပင် ဖြစ်သည်။

ထေရဝါဒဗုဒ္ဓဘာသာဝင်များအနေဖြင့် ဗုဒ္ဓဘုရားရှင်ဟောကြား ခဲ့သည့် 'မိမိကိုယ်ကို မိမိသည်သာ အားထားရာ' (အတ္တာဟိ အတ္တနော နာထော) ဆိုသည့်ဒေသနာတော်နှင့် 'ခပ်သိမ်းသောတရားတို့သည် အနှစ် ကင်း၍ အစိုးမရသည်သာတည်း' (သဗ္ဗေဓမ္မာ အနတ္တာ) ဟူသည့် ဒေသနာ တော်တို့ကို သဘောပေါက်ထားပါက မိမိလုပ်ဆောင်သည့် ဘာသာရေး ဆိုင်ရာ ကိစ္စအဝဝတွင် အခြားတစ်ပါးသော အယူဝါဒများ၏ နှောင့်ယှက် လွှမ်းမိုးမှုမှ လွတ်ကင်းနိုင်မည်ဖြစ်သည်။

သတ္တဝါမှန်သမျှသည် ကံတည်းဟူသော မိမိပြုခဲ့ဘူးသောအလုပ်၊ ဉာဏ်တည်းဟူသော မိမိကိုယ်ပိုင် ဆင်ခြင်တွေးခေါ်ကြံဆမှု၊ ဝီရိယတည်း ဟူသော မိမိ၏ ကြိုးပမ်းအားထုတ်မှုတို့အပေါ် မူတည်၍သာ မျက်မှောက် ဘဝ၌ကောင်းကျိုး၊ ဆိုးပြစ် ခံစားနေရခြင်းဖြစ်သည်။ မည်သည့် ဖန်ဆင်းရှင်၊ တန်ခိုးရှင်၊ နတ်၊ ပြဟ္မာ၊ ဝိဇ္ဇာဓိုရ်၊ ရုပ်တုဆင်းတု၊ အင်းအိုင်၊ ခါးလှည့်၊ လက်ဖွဲ့၊ ယတြာ၊ ဂါထာမန္တရား၊ ဂြိုဟ် နက္ခတ်တာရာ ကမှ မိမိ၏ ကံကြမ္မာကို ဖန်တီးမပေးနိုင်ပေ။ ဤသည်ကို ကောင်းစွာသိမြင်တော်မူသော ဗုဒ္ဓဘုရားရှင်က မိမိကိုယ်ကို မိမိမှတစ်ပါး အားထားရာမရှိဟု ပြတ်သားစွာ လမ်းညွှန် ဆုံးမခဲ့ခြင်းဖြစ်သည်။ လောကတွင် နောက်ထပ်တစ်ဖန် ထပ်မံ ဖြိုခွဲ၍မရသော မိမိအလိုအတိုင်းအစိုးရနေသော အမာခံအမြုတေ အနှစ်သာရဟူ၍ မရှိကြောင်း သိပ္ပံပညာကလည်း လက်ခံလာရပြီဖြစ်သည်။

ထို့ကြောင့် ထာဝရမဖောက်မပြန်တည်မြဲနေသော ဖန်ဆင်းရှင်၊ ဘုရားသခင်၊ မဟာပြဟ္မာ၊ အတ္တမန်၊ နတ်ဒေဝတာ၊ ဝိဇ္ဇာမိုရ် ဟူ၍လည်းမရှိချေ။

ထို့ကြောင့် ဤလောကသည် မတည်မြဲ (အနိစ္စ)၊ ဆင်းရဲ၏ (ဒုက္ခ)၊ အနှစ်ကင်း၍အစိုးမရ (အနတ္တ) ဟူသော ဗုဒ္ဓ၏ဒေသနာတော်ကို ယုံကြည်လက်ခံ၍ ဤလောကမှ လွန်မြောက်လိုပါသည်ဆိုလျှင် မိမိကိုယ်ကိုမိမိမှတစ်ပါး အားထားရာ အခြားကယ်တင်ရှင် တစ်စုံတစ်ဦးကို မျှော်လင့်စောင့်စားနေ၍မရချေ။ မိမိကိုယ်ကို အစိုးမရသော ဤလောကတွင် တစ်စုံတစ်ယောက်သောသူက အခြားတစ်ပါးသော သူတို့အားအစိုးရ၍ ကယ်တင်နိုင်သူ ဟူ၍လည်းမရှိချေ။ ထို့ကြောင့် ဤလောကမှ ကျော်လွှားလွန်မြောက်ရာ လောကုတ္တရာဉာဏ်၊ မဂ်ဖိုလ်အမှန်ကို ရလိုသည်ဆိုပါက မိမိအားမိမိကိုးကာ မိမိ၏ခန္ဓာငါးပါးတို့ ဖြစ်ပုံပျက်ပုံ အဝဝကို မပြတ်သော သတိဖြင့် ဝိပဿနာ ဉာဏ်ထင်အောင် ရှုမှတ်ဆင်ခြင်ရန်သာ ဖြစ်ပေသည်။ အကယ်၍ လောကီဘဝတွင်သာ ကျင်လည်လိုပါသေးသည် ဆိုလျှင်လည်း အထူးပြောဖွယ်ရာမရှိ၊ မိမိကံကြမ္မာကို မိမိသာဖန်တီးရမည်ဖြစ်ပေရာ မိမိ၏ ကံ၊ ဉာဏ်၊ ဝီရိယမှတစ်ပါး အခြားပြင်ပ ပယောဂတစ်စုံတစ်ရာကို ယုံကြည်အားထားရန် လုံးဝမလိုအပ်ချေ။

ဤမျှဆိုလျှင် ထေရဝါဒဟူသော ဝိဘဇ္ဇဝါဒ၏ အဓိပ္ပာယ်၊ ပေါ်ပေါက်လာပုံ သမိုင်းအကျဉ်းနှင့် ထေရဝါဒဗုဒ္ဓဘာသာဝင်တိုင်း ခံယူအပ်သည့် ဗုဒ္ဓဒေသနာတော်အချုပ်တို့ကို သိမြင်လောက်ပေပြီ။သိမြင်သည့်အလျောက် မိမိကိုယ်ကိုမိမိ ထေရဝါဒဗုဒ္ဓဘာသာဝင် စစ်မှန်ပါ၏လော ဆိုသည်ကိုလည်း အစစအရာရာ စိစစ်သုံးသပ်သင့်ပေပြီ။

မိမိ၏ ဘာသာရေးဆိုင်ရာ လုပ်ဆောင်ချက်အဝဝသည် ထေရဝါဒ ဗုဒ္ဓဘာသာနှင့်မကိုက်ညီ သွေဖည်နေပါက အချိန်မီပြုပြင်ကြရပေမည်။ မိမိပတ်ဝန်းကျင်တွင် ပြုပြင်သင့်သည်များကို တွေ့ရှိပါကလည်း စွမ်းအားရှိသလောက် ကူညီပြုပြင်ပေးကြစေလိုသည်။ သို့မှသာ မိမိလည်းအကျိုးရှိ သာသနာတော်အကျိုးလည်း သယ်ပိုးရာရောက်ပြီး ဗုဒ္ဓမြတ်စွာ၏ ကျေးဇူးတော်အနန္တကို တတ်စွမ်းသမျှပေးဆပ်ရာ ရောက်မည်ဖြစ်ကြောင်း တင်ပြလိုက်ရ ပေသတည်း။

(၁၇-၃-၉၁)

ဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ ဇွန်လ။

# ဝါဒတစ်ရပ် ထွန်းပျံ့လိုသော်

မိမိယုံကြည် လက်ခံထားသော အယူဝါဒတစ်ရပ် ထွန်းကားပျံ့နှံ့စေလိုကြသည်မှာ လူသားတိုင်း၏ဓမ္မတာပင်ဖြစ်သည်။ မိမိယုံကြည်လက်ခံသကဲ့သို့ အခြားအခြားသောသူများအားလည်း ယုံကြည်လက်ခံစေလို ကြသည်။ ထို့ကြောင့် လူသားတို့သည် မိမိတို့ယုံကြည်ရာ အယူဝါဒကို ထွန်းကားသည်ထက်ထွန်းကား ပျံ့နှံ့သည်ထက်ပျံ့နှံ့စေရေးအတွက် ခေတ်အဆက်ဆက် လုပ်ဆောင်လာခဲ့ကြသည်။

ယင်းသို့ လုပ်ဆောင်ရာတွင် တရားမျှတသော နည်းလမ်းများကို အသုံးပြုခဲ့ကြသလို မတရားနိုင်ထက်စီးနင်းပြုကျင့်သော နည်းလမ်းများကိုလည်း အသုံးပြုတတ်ကြပေသည်။ မိမိတို့၏ အယူဝါဒထွန်းကား ပျံ့နှံ့ရေးတည်းဟူသောဦးတည်ချက်ဖြင့် လုပ်ဆောင်မှုမှန်သမျှ သည် တရားမျှတသည်ချည်းဖြစ်သည်ဟု မှားယွင်းစွာ စွဲလမ်းခဲ့ကြသောကြောင့်ပင်ဖြစ်သည်။

သို့ဖြစ်ရာ မူလကကောင်းမြတ်သော ရည်ရွယ်ချက်ဖြင့် ပေါ်ပေါက်ခဲ့သော အယူဝါဒတချို့သည် လူသားတို့အား အန္တရာယ်ကြီးမားလှသော အကျိုးသက်ရောက်မှုများကို ဖြစ်ပေါ်စေခဲ့သည်။ အယူဝါဒကို အကြောင်း ပြု၍ လူသတ်ပွဲများ ဆင်နွှဲခဲ့ကြသည်။ လူသားတို့ကောင်းကျိုးအတွက် ရည်ရွယ်ပါသည်ဆိုသော အယူဝါဒတို့က လူသားတို့၏ တိုတောင်းလှသော ဘဝတစ်သက်တာ အချိန်ကာလကို အချည်းနှီးဝါးမျိုပစ်ခဲ့ကြသည်။

အယူဝါဒရေးရာ ပဋိပက္ခများကို အကြမ်းဖက်နည်းဖြင့် ဖြေရှင်းကြရာတွင် အနိုင်ရသောဘက်က မိမိတို့၏အယူဝါဒက အနိုင်ရလေပြီဟု အမှတ်မှားခဲ့ကြသည်။ မိမိတို့အနိုင်ရသည့် နယ်မြေဒေသတစ်ခုတွင် မိမိတို့၏အယူဝါဒကို စိတ်ကြိုက်ပြန့်ပွားစေနိုင်ပြီဟု အထင်ရောက်ခဲ့ကြသည်။ ယင်းသည် အယူဝါဒတစ်ရပ် ထွန်းကားပျံ့နှံ့သည်ဆိုခြင်းအပေါ် မှားယွင်းစွာ အဓိပ္ပာယ်ဖွင့်ဆိုခဲ့ကြသောကြောင့်သာ ဖြစ်ပေသည်။

နယ်မြေဒေသ၊ ကာလတစ်ခုတွင် အယူဝါဒတစ်ရပ်နှင့်သက်ဆိုင်သော သင်္ကေတများ၊ အဆောက်အအုံများ ထိုးထိုးထောင်ထောင် ထွက်ပေါ်

လာခြင်း၊ အခမ်းအနားသဘင်များ ဆင်ယင်ကျင်းပခြင်း၊ ယင်းအယူဝါဒကို သက်ဝင်ယုံကြည်ပါသည်ဟု အမည်ခံထားသူဦးရေ များပြားလာခြင်းတို့ကို ကြည့်၍ ယင်းအယူဝါဒ ထွန်းကားပျံ့နှံ့နေလေပြီဟု တစ်ထစ်ချမှတ်ယူ၍ မရနိုင်ချေ။ စင်စစ်အားဖြင့် ယင်းအယူဝါဒ ထွန်းကားပျံ့နှံ့ခြင်းရှိ-မရှိ ဆိုသည်ကို အောက်ပါအချက်သုံးရပ်နှင့် ပြည့်စုံမှုရှိ-မရှိ လေ့လာသုံးသပ်၍သာလျှင် အဆုံးအဖြတ်ပေးနိုင်မည် ဖြစ်ပေသည်။

## (၁)
## အယူဝါဒဆိုင်ရာ စစ်မှန်သောသဘောတရားများ သန့်ရှင်းခိုင်မာစွာတည်ရှိခြင်း

အယူဝါဒတစ်ရပ် ထွန်းကားပျံ့နှံ့ရန်မှာ ယင်းအယူဝါဒဆိုင်ရာ မူလသဘောတရားများကို ဖြုတ်ပယ်ခြင်း၊ ပြင်ဆင်ခြင်း၊ ချဲ့ကားခြင်း၊ အစားထိုးခြင်းတို့မရှိဘဲ စစ်မှန်သန့်ရှင်းစွာတည်တံ့နေရန် အထူးလိုအပ်လှပေသည်။ ယင်းသို့တည်တံ့နေရန်အတွက် အယူဝါဒဆိုင်ရာ သင်တန်းကျောင်းများ၊ တက္ကသိုလ်များ ဖွင့်လှစ်သင်ကြားပို့ချခြင်း၊ လူထုဆက်သွယ်ရေးဆိုင်ရာ နည်းလမ်းများမှတစ်ဆင့် ဖြန့်ဖြူးပေးခြင်း၊ သုတေသနပြုခြင်း၊ သဘောတရားရေးရာ တတ်ကျွမ်းနားလည်သူ ပညာရှင်များတိုးပွားလာအောင် အားပေးချီးမြှောက်ခြင်းတို့သည် မရှိမဖြစ်လိုအပ်ချက်များပင် ဖြစ်ပေသည်။

ထို့အပြင် ယင်းအယူဝါဒ၏အမည်ကိုအရေခြုံ၍ လူတစ်စု၊ လူတစ်ဖွဲ့၊ လူတန်းစားတစ်ရပ်အကျိုးအတွက် ဝါဒဖြန့်ချိရေးလက်နက် အဖြစ်အသုံးချခြင်း၊ စီးပွားရေးအမြတ်ထုတ်ရန်သာ ရည်ရွယ်လျက် လူပြိန်းအကြိုက်လိုက်ကာ အယူမှားဝါဒမှားများဖြင့် လူအများလမ်းမှားရောက်အောင် ပို့ဆောင်နေခြင်းတို့ကိုလည်း ဖော်ထုတ်သန့်စင်ပစ်ကြရမည်။

ထို့ကြောင့် အယူဝါဒတစ်ရပ်ကို ဖြန့်ဖြူးရန်တာဝန်ယူထားသူတို့သည် မိမိတို့ဖြန့်ဖြူးရမည့် အယူဝါဒနှင့်စပ်လျဉ်း၍ အမှားအမှန်ဝေဖန်ပိုင်းခြား တည်းဖြတ်နိုင်သည်အထိ နှိုက်နှိုက်ချွတ်ချွတ် လေ့လာထားကြရမည်ဖြစ်သည်။

အယူဝါဒတစ်ရပ်ဖြန့်ဖြူးရန် တာဝန်ယူထားသူသည် မိမိ၏အယူဝါဒဆိုင်ရာ သဘောတရားများကို လူသားတို့၏ဘဝတွင် မည်သို့ဆက်စပ်အသုံးချသင့်သည်ကိုလည်း ကောင်းစွာသိရှိထားရမည်ဖြစ်သည်။ ဤသို့ သိရှိပြီး မိမိ၏ အယူဝါဒဆိုင်ရာ သဘောတရားများကို လက်တွေ့ဘဝနှင့်

ယှဉ်၍ တင်ပြနိုင်မှသာလျှင် လူအများနားလည် သဘောပေါက်ကာ သက်ဝင်ယုံကြည်မှု တိုးပွားလာမည် ဖြစ်ပေသည်။

(၂)

## အယူဝါဒဆိုင်ရာသဘောတရားက လမ်းညွှန်သော နည်းလမ်းဥပဒေများနှင့်အညီ လိုက်နာကျင့်သုံးခြင်း

အယူဝါဒတစ်ရပ် ထွန်းကားပျံ့နှံ့ရန်မှာ ယင်းအယူဝါဒဆိုင်ရာ သဘောတရားများချည်း တည်ရှိနေရုံမျှဖြင့်မပြီးချေ။ ယင်းသဘောတရားက လမ်းညွှန်သော နည်းလမ်းဥပဒေသများနှင့်အညီ လိုက်နာကျင့်သုံးကြရန် လိုအပ်ပေသည်။

လက်တွေ့လိုက်နာကျင့်သုံးမှုကင်းသော သဘောတရားသည် သေနေသော သဘောတရားတစ်ရပ်သာ ဖြစ်ပေလိမ့်မည်။ သုတေသီတို့ အနေဖြင့် ကာလတစ်ရပ်က ဒေသတစ်ခုတွင် ဤမည်သောအယူဝါဒ တစ်ရပ် ပေါ်ပေါက်ခဲ့ဖူးလေသည်ဆိုသော အသိမှတစ်ပါး အခြားမည်သည့် အကျိုးတစ်စုံတစ်ရာမျှ ထူးခြားမှုရှိမည်မဟုတ်ပေ။

လက်တွေ့လိုက်နာဆောင်ရွက်ခြင်းရှိမှသာ ယင်းအယူဝါဒက ရည်ရွယ်သော ကောင်းမြတ်သည့်ဦးတည်ချက်များ အတိုင်းအတာတစ်ခု အထိ ရုပ်လုံးပေါ်လာမည် ဖြစ်ပေသည်။ ဤနေရာတွင် အရေးကြီးသည်မှာ ယင်းအယူဝါဒ၏ သဘောတရားရေးရာ လမ်းညွှန်ချက်အစစ်အမှန်ကို နားလည် သဘောပေါက်ထားမှသာ မှန်ကန်စွာလိုက်နာ ဆောင်ရွက်နိုင်ကြမည်ဆိုခြင်းပင်ဖြစ်သည်။ သဘောတရားအစစ်အမှန်ကို နားမလည်ဘဲ တတ်ယောင်ကား လုပ်ဆောင်ကြမည်ဆိုပါက ဦးတည်ချက်လမ်းကြောင်း လွဲချော်သွားကာ ယင်းအယူဝါဒ၏ ရည်မှန်းချက်အစစ်အမှန်တို့ ရုပ်လုံးပေါ်လာမည် မဟုတ်တော့ချေ။ ထို့ကြောင့် သဘောတရားနှင့်လက်တွေ့သည် အပြန်အလှန်မှီခို အားထားနေရပေသည်။ လက်တွေ့ဘဝမှ ထွက်ပေါ်လာသော အယူဝါဒဆိုင်ရာ သဘောတရားတစ်ရပ်သည်သာ မှန်ကန်သလို ယင်း မှန်ကန်သော သဘောတရားနှင့်အညီ လိုက်နာကျင့်သုံးကြမှသာလျှင် လက်တွေ့ဘဝတွင် အောင်မြင်မှုရရှိမည်ဖြစ်သည်။

ထို့ကြောင့် ***သူကတော့ သဘောတရားသမား-စာသမားပဲ၊ ငါကတော့ အလုပ်သမား-အကျင့်သမားပဲ*** ဟု ခွဲခြားပုတ်ခတ်နေကြရန် မသင့်ချေ။ စာသမားသည် တစ်ချိန်တည်းမှာပင် လက်တွေ့ကျင့်ကြံနေသူ

ဖြစ်ပြီး အကျင့်သမားကလည်း တစ်ချိန်တည်းမှာပင် စာပေသဘောတရား လေ့လာသူ ဖြစ်နေရပေမည်။ သို့မှသာ အယူဝါဒတစ်ရပ်ကို ယုံကြည်လက်ခံပါသည် ဆိုသူများအနေဖြင့် ယင်းအယူဝါဒဆိုင်ရာ သဘောတရားက လမ်းညွှန်သော နည်းဥပဒေများနှင့်အညီ အမှန်တကယ် လိုက်နာကျင့်သုံးခြင်း မည်ပေလိမ့်မည်။

## (၃)
## အယူဝါဒရေးရာရည်မှန်းချက်များ အကောင်အထည်ပေါ်လာခြင်း

အထက်ကဆိုခဲ့သည့်အတိုင်း သဘောတရားနှင့်လက်တွေ့ အချိုးညီညီပေါင်းစပ် အားထုတ်လုပ်ဆောင်ကြပါက မိမိတို့၏အယူဝါဒဆိုင်ရာ ရည်မှန်းချက်များသည်လည်း တစ်ဆင့်ပြီးတစ်ဆင့် အကောင်အထည် ပေါ်လာမည် ဖြစ်ပေသည်။ ယင်းသို့ အကောင်အထည်ပေါ်လာသည့် ရလဒ်တို့သည် မိမိအပါအဝင် ပတ်ဝန်းကျင်လူ့အဖွဲ့အစည်းအပေါ် မည်ရွေ့မည်မျှ အကျိုးပြုသည်-မပြုသည်ကိုထောက်ရှု၍ ယင်းအယူဝါဒတစ်ရပ် ထွန်းကားပျံ့နှံ့သည်-မပျံ့နှံ့သည်ကို အဆုံးအဖြတ်ပေးနိုင် ပေလိမ့်မည်။

အယူဝါဒတစ်ရပ်က လူ့အဖွဲ့အစည်းအပေါ် အကျိုးကျေးဇူး ပြုနိုင်မှု အတိုင်းအတာအပေါ်မူတည်၍ ယင်းအယူဝါဒတစ်ရပ် ထွန်းကား ပျံ့နှံ့နေမည့် သက်တမ်းကိုလည်း မှန်းဆနိုင်ပေသည်။ အယူဝါဒတိုင်းသည် လူ့အဖွဲ့အစည်း ကောင်းကျိုးကို ရည်မျှော်၍ ပေါ်ပေါက်လာကြသည်ချည်း ဖြစ်ရာ အယူဝါဒတစ်ရပ်၏ လမ်းညွှန်ချက်နှင့်အညီ လုပ်ဆောင်ခြင်းဖြင့် ၎င်း၏ရည်ရွယ်ချက်များ အထမြောက်လာပြီဆိုမှသာလျှင် ယင်းအယူဝါဒ အမှန်တကယ် ထွန်းကားပျံ့နှံ့နေလေပြီဟု မှတ်ယူသင့်ပေသည်။

ထို့ကြောင့် ကာလ၊ ဒေသ တစ်ခုတွင် အယူဝါဒတစ်ရပ်နှင့် စပ်ဆိုင်သော သင်္ကေတများ၊ အဆောက်အအုံများ၊ အခမ်းအနားသဘင်များ၊ ယင်းအယူဝါဒကို ယုံကြည်သက်ဝင်ပါသည်ဟု အမည်ခံထားသူများ ပေါများနေရုံမျှဖြင့် ယင်းအယူဝါဒ ထွန်းကားပျံ့နှံ့နေလေပြီဟု တထစ်ချမဆိုသင့်ကြောင်း ထင်ရှားလှပေသည်။

မိမိယုံကြည်သက်ဝင်သည့် အယူဝါဒကို မှန်မှန်ကန်ကန် နားလည် သဘောပေါက်ခြင်း၊ သဘောပေါက်သည့်အတိုင်း တိကျစွာလိုက်နာ ကျင့်သုံးခြင်း၊ ဤသို့လိုက်နာကျင့်သုံးရသည့် အကျိုးကျေးဇူးကို မျက်မှောက် ဘဝ၌ပင် အတိုင်းအတာတစ်ခုအထိခံစားရခြင်းဖြင့် တစ်ဦးချင်းစီ၏

ကိုယ်စိတ်နှလုံးတွင် ယင်းအယူဝါဒ အမှန်တကယ် ထွန်းကားပျံ့နှံ့နေမည် ဖြစ်ပေသည်။

ယင်းသို့သော ပုဂ္ဂိုလ်တစ်ဦးချင်းဖြင့် ဖွဲ့စည်းထားသော လူ့အဖွဲ့အစည်းတစ်ရပ်ကိုသာ ဤမည်သောအယူဝါဒတစ်ရပ် ခိုင်မာစွာထွန်းကားပျံ့နှံ့နေသော လူ့အဖွဲ့အစည်းတစ်ရပ်ဟု ခေါ်ဆိုနိုင်မည် ဖြစ်ပါကြောင်း တင်ပြလိုက်ရပေသတည်း။

(ဗုဒ္ဓဒေသနာလာ ပရိယတ္တိ၊ ပဋိပတ္တိနှင့် ပဋိဝေဓဟူသော သာသနာသုံးရပ်ကို ရည်ညွှန်းပါသည်။)

(၁၇-၄-၉၁)

မဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ ဇူလိုင်လ။

# ဗုဒ္ဓဝါဒသည် အဆိုးမြင်ဝါဒလော

တစ်ခါက ဘာသာခြားမိတ်ဆွေတစ်ဦးနှင့် ဗုဒ္ဓဘာသာအကြောင်း စကားလက်ဆုံ ကျခဲ့ဘူးပါသည်။

မိတ်ဆွေက *သူလည်း ဗုဒ္ဓဘာသာစာပေကို အတော်အသင့် လေ့လာဖူးကြောင်း၊ ဗုဒ္ဓ၏တရားတော်များကို ခြုံငုံသုံးသပ်လိုက်သောအခါ အဆိုးမြင်ဝါဒသက်သက် ဖြစ်နေသည်ကိုတွေ့ရကြောင်း၊ အဘယ့်ကြောင့် ဆိုသော် ဗုဒ္ဓ၏အဆိုအရ လောကသည်မမြဲခြင်း (အနိစ္စ)၊ ဆင်းရဲခြင်း (ဒုက္ခ)၊ အနှစ်သာရကင်းမဲ့ခြင်း (အနတ္တ) ဟူသော စိတ်ဓာတ်ကျဖွယ် ရှုမြင်ထားသောကြောင့် ဖြစ်ကြောင်း* ဝေဖန်ပြောဆိုလာပါသည်။

မိတ်ဆွေ၏စကားက စာရေးသူအားရုတ်တရက် မှင်တက်သွားစေခဲ့ပါသည်။ သူပြောသလိုပင် စာရေးသူတို့ ကိုးကွယ်ယုံကြည် ဆည်းကပ်ကြကုန်သော ဗုဒ္ဓဝါဒသည် အဆိုးမြင်ဝါဒပင် ဖြစ်လေသလော။ လေးလေးနက်နက် ဆင်ခြင်တွေးဆမိသောအခါ ဘာသာခြားမိတ်ဆွေရော စာရေးသူပါ သဘောကျကျေနပ်ခဲ့ရသည့် အဖြေမှန်တစ်ခု ရရှိခဲ့ပါသည်။

ဗုဒ္ဓဝါဒကို ဝေဖန်သုံးသပ်မှုမပြုမီ ဘာသာခြားမိတ်ဆွေ ပြောသည့် ***အဆိုးမြင်ဝါဒ*** ဆိုသည်မှာအဘယ်နည်း၊ ***အကောင်းမြင်ဝါဒ*** ဆိုသည်မှာကော အဘယ်သို့နည်း။ ယင်းကိစ္စကို ဦးစွာဆင်ခြင် သုံးသပ်သင့်ပါသည်။

အကောင်းမြင်ဝါဒဆိုသည်မှာ ဘာပဲဖြစ်ဖြစ်အကောင်းချည်းပဲဟု မြင်သောဝါဒကို ဆိုလိုပါသလား။ ဥပမာ - လူတစ်ဦးချမ်းသာနေသည်။ ချမ်းသာခြင်းသည် ကောင်း၏ဟုဆိုက မမှားနိုင်သော်လည်း ထိုသူ ဆင်းရဲနွမ်းပါးသွားသည့်အခါတွင် ဆင်းရဲနွမ်းပါးခြင်းသည်လည်း ကောင်း၏ဟု အမြဲအကောင်းဘက်ကချည်း မြင်နေသောဝါဒကို အကောင်းမြင်ဝါဒဟု ခေါ်နိုင်ပါသလား။

ချောင်းဆိုးသွေးပါ၍ ရင်ဘတ်အောင့်နေသူတစ်ဦးကို 'ခင်ဗျား မပူနဲ့၊ နေရင်းထိုင်ရင်းကောင်းသွားမှာပါ။ သောက်နေကျဆေးလိပ်နဲ့ အရက်ကိုလည်း ဆက်သာသောက်၊ နေကောင်းသွားမှာပါ' ဟု ကောင်းသော

မျှော်လင့်ချက်တွေ၊ အားပေးစကားတွေ ဖောင်အောင်ပြောနေခြင်းကိုလည်း အကောင်းမြင်ဝါဒဟု ဆိုနိုင်ပါမည်လော။

ထိုလူကိုပင် ဆရာဝန်တစ်ဦးက 'ခင်ဗျားတော့ တီဘီရောဂါ ဖြစ်နေပြီထင်တယ်၊ ဓာတ်မှန်ရိုက်၊ သွေးစစ်ပါ၊ ရောဂါရှိတယ်ဆိုရင် တီဘီဆေး အလုံးသုံးဆယ် ဆက်တိုက်ထိုးရမယ်၊ ဆေးလိပ်နဲ့အရက်ကိုဖြတ်ပါ၊ မဖြတ်ရင် ခင်ဗျားသေသွားနိုင်တယ်၊ ကြပ်ကြပ်သတိထားပါ' ဟု ပြောခြင်းကို အားပျက်စိတ်ဓာတ်ကျဖွယ် အဆိုးမြင်ဝါဒဟုဆိုရမည်လော။

စာရှုသူတို့လည်း ဝိုင်းစဉ်းစားကြည့်သင့်ပါသည်။ တတ်ကျွမ်းနားလည်သူက ရောဂါရှိနေသူအား ရောဂါရှိနေသည်ဟု ပြောခြင်းသည် အဆိုးမြင်ဝါဒ မဟုတ်သလို ရောဂါရှိနေသူအား 'ဆေးကုစရာမလို၊ သည်အတိုင်းသာဆက်နေရင်း ကောင်းသွားမှာပါ' ဟု ပြောနေခြင်းကိုလည်း အကောင်းမြင်ဝါဒဟု မခေါ်ဆိုနိုင်ပါ။

အကယ်၍ ထိုရောဂါသည်အား ဆရာဝန်က 'ခင်ဗျာ့ရောဂါကတော့တီဘီပဲဗျ၊ ဘာမှလုပ်မနေနဲ့တော့ဗျာ၊ မကြာခင်သေမှာပဲ' ဟု ပြောလိုက်ပါမူ အဆိုးမြင်ဝါဒသက်သက်ဖြစ်ကြောင်း ထင်ရှားလှပါသည်။

ယခုမူ ဆရာဝန်ကရောဂါအခြေအနေကို ပြောပြသတိပေးသည်။ ပျောက်ကင်းနိုင်မည့်နည်းလမ်းနှင့် ရှောင်ရှားရမည့်ကိစ္စများကို လမ်းညွှန်သည်။ သည့်ထက် ကောင်းမြတ်မှန်ကန်သောအမြင် ရှိပါဦးမည်လော။ ဤသည်ကား ရုပ်ပိုင်းဆိုင်ရာ ဝေဒနာတစ်ရပ်အပေါ် သာဓကထား၍ သုံးသပ်တင်ပြထားခြင်း ဖြစ်ပါသည်။

***လူတို့၏ကိုယ်ခန္ဓာတွင် ဖြစ်ပွားနေသည့် ရောဂါများအနက် ရှစ်ဆယ်ရာခိုင်နှုန်းကျော်ခန့်သည် လည်ပင်းအထက်ပိုင်းတွင် အခြေခံသည်ဟု ခေတ်သစ်ဆေးသိပ္ပံပညာရှင်များက ဆိုပါသည်။***

သဘောကတော့ လူတို့၏ရုပ်ပိုင်းဆိုင်ရာ ရောဂါဝေဒနာအများစုသည် လည်ပင်းအထက်ပိုင်းရှိ ဦးနှောက်မှာဖြစ်ပေါ်လာသည့် တွေးဆပူပင်မှု စိုးရိမ်သောက အစွဲအလမ်းများကြောင့်ဟု ဆိုလိုခြင်းဖြစ်ပါသည်။ အစာအိမ်၊ သွေးတိုး၊ နှလုံး၊ ကင်ဆာအစရှိသည့် ရောဂါကြီးများ၏ ဖြစ်ပေါ် တိုးပွားမှုသည် လူတို့၏စိတ်ပိုင်းဆိုင်ရာ ခံစားချက်တို့အပေါ် များစွာအခြေခံလျက်ရှိကြောင်း ဆေးသိပ္ပံပညာက လက်ခံထားပြီးဖြစ်ပါသည်။ ဤစိတ်ပိုင်း ဆိုင်ရာ သောကဝေဒနာတို့၏ အခြေတည်ရာသည်ကား လောဘ၊ ဒေါသ၊ မောဟနှင့် မာန်မာနတို့ပင် ဖြစ်ကြောင်းကိုလည်း သူတို့ လက်ခံလာခဲ့ကြပြီ ဖြစ်ပါသည်။

ယင်းစိတ်ပိုင်းဆိုင်ရာ သောကဝေဒနာများကို ခေတ်သစ်ဆေးသိပ္ပံပညာရှင်များက အမြစ်ပြတ်ပျောက်ကင်း ကောင်းမွန်လာအောင် ကုသနိုင်သည့်ဆေး ရှာမတွေ့ကြသေးပါ။ လူတို့၏ရုပ်ပိုင်းဆိုင်ရာကို အဓိကထား သည့် သိပ္ပံပညာတွင် ဆေးဝါးမတွေ့ကြသေးသော်လည်း လွန်ခဲ့သော နှစ်ပေါင်းနှစ်ထောင့်ငါးရာကျော်ကပင် ယင်းဝေဒနာများကို အမြစ်ပြတ်အောင် ကုသပေးနိုင်ခဲ့သော စိတ်ပညာပါရဂူ မဟာလူသားတစ်ဦး ပေါ်ထွန်းခဲ့ပြီးဖြစ်ပါသည်။

ထိုသူကား စာရေးသူတို့ ကိုးကွယ်ရာဟူ၍ ယုံကြည်ဆည်းကပ်ကြသော ဗုဒ္ဓရှင်တော် မြတ်ဘုရားပင်ဖြစ်ပါသည်။ လူသားများအပါအဝင် သက်ရှိသတ္တဝါအားလုံး၏ရင်မှာ တောက်လောင်လျက်ရှိသော စိတ်သောက ဝေဒနာမီးတို့၏ အကြောင်းရင်းဇစ်မြစ်နှင့် ပျောက်ကင်းနိုင်မည့် နည်းလမ်းများကို ဗုဒ္ဓကကောင်းစွာ သိမြင်ခဲ့ပါသည်။ သိမြင်ခဲ့သည့်အလျောက် ယင်းနည်းလမ်းကောင်းများကို လမ်းညွှန်ပြသခဲ့ပါသည်။

ဗုဒ္ဓက လောကသည် မတည်မြဲ၊ ဆင်းရဲ၏၊ အနှစ်ကင်း၏ဟု ဟောကြားခဲ့သည်။ ယင်းသည် မှန်သလား၊ မှားသလားဆိုသည်ကို ယခုခေတ်လူသား၏ ဘဝကိုလေ့လာ သုံးသပ်ခြင်းဖြင့် အဖြေမှန်ရနိုင်ပါသည်၊

ခေတ်သစ်လူသားသည် တစ်နေ့ထက်တစ်နေ့၊ တစ်နာရီထက်တစ်နာရီ၊ တစ်မိနစ်ထက်တစ်မိနစ် မတူထူးခြားစွာ ပြောင်းလဲသစ်လွင်နေသည့် ရုပ်ဝတ္ထုပိုင်းဆိုင်ရာ အသိပညာ၊ အတတ်ပညာများကို အလျဉ်မီအောင် လေ့လာလိုက်စားနေရသည်။

ထူးခြားဆန်းသစ် မက်မောဖွယ်ရာ ရုပ်ပိုင်းဆိုင်ရာ သာယာမှုများကိုလည်း အများနှင့်ရင်ပေါင်တန်း၍ ခံစားနိုင်အောင် ကြိုးပမ်းအားထုတ်ရပြန်သည်။ 'သူများက ငါ့ထက်ပို၍ ပညာရေး၊ စီးပွားရေး၊ လူမှုရေးတွေမှာ သာလွန်သွားပြီလား' ဟူသောအသိက ခေတ်သစ်လူသား၏ စိတ်ဘဝင်ကို မောဟိုက်စေပါသည်။

တစ်နေ့ထက်တစ်နေ့ ခေတ်မီဆန်းသစ်လာသည့် လူသုံးကုန်တွေကို အများနည်းတူ သုံးစွဲခံစားနိုင်ရန် အဓိကလိုအပ်ချက်မှာ ငွေဖြစ်သည်။ ငွေကို မည်သည့်နည်းနှင့်ရှာရမည်ကို အစဉ်တွေးတောနေရသည်။ ငွေများများ ရနိုင်မည့်ပညာကို အပတ်တကုတ်သင်ယူရသည်။

ငွေများများရမည့်အလုပ်ကို ကြိုးစားပမ်းစား လုပ်ရသည်။ ငွေနောက်လိုက်ရလွန်းတော့ စာရိတ္တပိုင်းဆိုင်ရာ စည်းကမ်းများကို လျစ်လျူ

ရှုလိုက်ရတော့သည်။ ဘာသာတရားအသီးသီးက သွန်သင်သည့် လူလူချင်း ကိုယ်ချင်းစာဖို့၊ မေတ္တာထားဖို့ဆိုတာတွေကို ဥပေက္ခာပြုကျောခိုင်းလိုက်တော့သည်။ မိမိလိုချင်တာရဖို့ဆိုလျှင် ဘနဖူးသိုက်တူးရတူးရဆိုသော စိတ်ရိုင်းများက ကြီးစိုးလာတော့သည်။

နိုင်ငံနှင့်ချီ၍ ကြည့်ပါကလည်း 'ဟိုဘက်နိုင်ငံအုပ်စုက ငါတို့နိုင်ငံအုပ်စုထက် လက်နက်တွေ ဆန်းသစ်သာလွန်သွားပြီး ဦးအောင်ဆော်သွားမှဖြင့် ငါတို့သေရချေရဲ့' ဟူသောအသိစိတ်က ခေတ်လူသားတို့ကို ခြောက်လှန့်နေသည်။ သူ့အုပ်စုက ကိုယ့်အုပ်စုထက် နည်းနည်းမျှကျောမသွားရအောင် ပို၍ပို၍ဆန်းသစ်သော၊ ရှင်းရှင်းပြောရလျှင် တစ်ဖက်လူတွေကို အမြန်ဆုံးအချိန်အတွင်း အများဆုံးသတ်ဖြတ်ဖျက်ဆီးနိုင်မည့် လက်နက်များကို အချိန်ရှိသရွေ့ တီထွင်ကြံဆနေကြရသည်။ မည်သည့် ဘာသာတရားက မည်သို့ပင်သွန်သင်စေကာမူ လူလူချင်းမည်သို့မျှ မေတ္တာပွား၍ မရသောဘဝသို့ ရောက်ကြရရှာသည်။

ဤသို့သောအခြေအနေတွင် လူသားတို့၏ရင်မှ လောဘ၊ ဒေါသ၊ မောဟမီးများကို မည်ကဲ့သို့ငြိမ်းသတ်၍ ရပါဦးမည်နည်း။ ဤအခြေအနေတွင် အမြင်မှန်ရသူလူ လက်တစ်ဆုပ်စာခန့်က ကမ္ဘာ့ငြိမ်းချမ်းရေး၊ ချူးကလီးယားဆန့်ကျင်ရေး၊ ဒုက္ခသည်ကယ်တင်ရေး၊ လက်နက်ဖျက်သိမ်းရေးကို ကြွေးကြော် လှုပ်ရှားနေသော်လည်း လက်တွေ့တွင်မူ မြင့်မိုရ်တောင်ကို ဆီးစေ့ဖြင့်ပေါက်သည့်နှယ် ထိရောက်မှုမရှိလှပေ။

လက်နက်ထုတ်သူတွေက ထုတ်တုန်း၊ စစ်ပွဲနွှဲသူတွေက နွှဲတုန်း၊ သတ်သူတွေက သတ်တုန်း၊ သေသူတွေက သေတုန်း။ ငတ်သူတွေက ငတ်တုန်းပင် မဟုတ်ပါလား။ ဒုက္ခသည်တွေကို ကူညီထောက်ပံ့ပါသည် ဆိုသော အဖွဲ့အစည်းများထဲတွင်ပင် စေတနာမှန်ဖြင့်လုပ်သူတွေ ရှိသလို ကိုယ့်အုပ်စု၊ သူ့အုပ်စုဟူသော အစွဲအလမ်းနှောင်ကြိုးတွေက ပါနေတတ်ပြန်သည်။ ကျန်းမာရေးအတွက် ရောဂါကာကွယ်ဆေး ထုတ်လုပ်သူ အများစုမှာလည်း သူ့ထက်ငါဦးအောင်တီထွင်နိုင်ဖို့၊ နာမည်ကြီးပြီး မူပိုင်လုပ်ကာ သန်းကြွယ်သူဌေးဖြစ်ဖို့၊ ကမ္ဘာကျော်ဖို့ဆိုသည့် လောဘစိတ်က ဦးဆောင်နေသည်။

ဒုတိယကမ္ဘာစစ်အတွင်းကဆိုလျှင် ဂျာမန်နှင့်ဂျပန်စစ်ဘက် ဆိုင်ရာ ဆေးပညာရှင်အချို့သည် ဆေးသုတေသနအတွက်ဟုဆိုကာ သုံ့ပန်းများကို ဖားကလေး၊ ငှက်ကလေးတွေလို ခွဲချင်တိုင်းခွဲ၊ စိတ်ချင်တိုင်း

စိတ်ကာ လက်တည့်စမ်းခဲ့ကြဖူးပါသည်။

ဤသို့မေတ္တာတရား ဆိတ်သုန်း၍ လောဘ၊ ဒေါသ၊ မောဟ မီးတွေ အစဉ်တောက်လောင်နေသည့် ခေတ်သစ်လူသားတို့အဖို့ မိမိတို့ ကြံစည်တိုင်း အထမမြောက်သည့်အခါ အကြီးအကျယ်စိတ်ဆင်းရဲ ရသည်။ မိမိ၏လက်ရှိဘဝအခြေအနေကို ဆက်လက်ရင်ဆိုင်နိုင်စွမ်း မရှိတော့ဘဲ မိမိဘဝကိုစွန့်ပစ် ကျောခိုင်းချင်လာတော့သည်။ နောက်ဆုံး စိတ်ပိုင်းဆိုင်ရာ ချုံးချုံးကျပြီး ရူးသွပ်သွားသူတွေ၊ မိမိကိုယ်ကို သေကြောင်း ကြံစည်သူတွေ များပြားလာတော့သည်။

သည်ကြားထဲတွင် 'ဘဝကို အပန်းတကြီးရုန်းကန်ရင်ဆိုင်ကာ မိမိ လိုချင်သည့် အောင်မြင်မှုကို မရ-အရယူနိုင်ခဲ့သူတွေကော မရှိတော့ဘူးလား' ဟု မေးဖွယ်ရှိပါသည်။ မိမိအစွမ်းအစဖြင့် ရုန်းကန်လှုပ်ရှား၍ဖြစ်စေ၊ ပတ်ဝန်းကျင်အခြေအနေ၏ ထောက်ကူမှုကြောင့် အလွယ်တကူဖြစ်စေ အောင်မြင်မှုရခဲ့သူတွေ ရှိပါသည်။

သို့သော် အောင်မြင်မှုသရဖူကို သက်ဆုံးတိုင်ဆောင်းသွား နိုင်သည်က ရှားပါးလှသည်။ ရှားသည့်ကြားမှ ရှိခဲ့သည့်ပဲထားဦး၊ လူတစ်ဦး၏ အောင်မြင်မှုသည် လူ့သက်တမ်းတည်းဟူသော အကန့်အသတ်ကို ကျော်လွှားနိုင်စွမ်း မရှိပါပေ။ သက်တမ်းစေ့သည်နှင့် မိမိ၏အောင်မြင် နေသောဘဝအပေါ် ကျေနပ်နှစ်သိမ့်ခံစားမှုများကို မစွန့်ချင်ဘဲစွန့်ခွာရကာ သေခြင်းတရားနောက် ကောက်ကောက်ပါအောင် လိုက်ပါသွားကြရသည် ချည်းပင်မဟုတ်ပါလား။

လူသား၏ ဘဝတလျှောက် ရယူခံစားလိုစိတ်ဖြင့် ကြိုးပမ်းခဲ့ရ သမျှ အချည်းအနှီးပင် အဆုံးသတ်ခဲ့ရသည်သာ မဟုတ်ပါလော။ ဤမျှ မတည်မြဲသော၊ ဆင်းရဲပင်ပန်းလှသော၊ အနှစ်သာရကင်းမဲ့သော လောက ရှိပါဦးမည်လော။

ဤကဲ့သို့ လူ့အဖွဲ့အစည်းအပါအဝင် သတ္တလောကတစ်ခုလုံး၌ အမြစ်တွယ်နေသည့် မမြဲခြင်း၊ ဆင်းရဲခြင်း၊ အနှစ်မဲ့ခြင်းဟူသော ရောဂါဆိုး ကြီးကို ဗုဒ္ဓဟူသည့်မဟာလူသားက လွန်ခဲ့သည့်အနှစ် နှစ်ထောင့်ငါးရာ ကျော်က စတင်တွေ့ရှိခဲ့သည်။ လူသားတွေခမျာမှာတော့ မိမိတို့တွင် ရောဂါ ရှိ၍ ရှိမှန်းပင်မသိကြ၊ ရောဂါကျွမ်းမှုဘဝလည်း စုံးစုံးမြုပ်ကြရတော့သည်။

ဗုဒ္ဓကမူ ဆင်ခြင်မှုကင်း၍ အမှုမဲ့အမှတ်မဲ့နေခဲ့သည့် လူ့အဖွဲ့ အစည်းကြီးတစ်ခုလုံးတွင် စွဲကပ်နေသည့်ရောဂါဆိုးကြီးကို အတိအလင်း

မီးမောင်းထိုး၍ ကြေညာခဲ့သည်။

ဗုဒ္ဓသည် ၎င်း၏ဒေသနာတော်ကို ဤအဆင့်တွင်ပင်ရပ်ခဲ့ပါက စာရေးသူ၏ မိတ်ဆွေကြီးပြောသလို ဗုဒ္ဓဝါဒသည်အဆိုးမြင်ဝါဒသာ ဖြစ်သည်ဟုဆိုရမလိုလို ဖြစ်နေပါလိမ့်မည်။ သို့ရာတွင် ဗုဒ္ဓသည် ဤအဆင့်တွင်ပင် ရပ်မထားခဲ့ပါ။ ယင်းရောဂါဆိုးကြီးမှ ကျော်လွှားလွန်မြောက် ပျောက်ကင်းနိုင်မည့် နည်းမှန်လမ်းမှန်များကို သွန်သင်ညွှန်ပြခဲ့ပါသည်။

လူ့အဖွဲ့အစည်းကြီး အပါအဝင်ဖြစ်သော သတ္တလောကတွင် ဆင်းရဲခြင်းဟူသည့် နာတာရှည်ရောဂါဆိုးကြီး ကပ်ငြိနေရခြင်း (ဒုက္ခသစ္စာ) ၏ အကြောင်းရင်းမှာ အသိမှားအမြင်မှားဖြင့် တပ်မက်တွယ်တာစွဲလမ်းခြင်း ဟူသော သမုဒယရောဂါပိုး (သမုဒယသစ္စာ)ကြောင့်ဖြစ်သည်။ သမုဒယပိုးကို ပယ်သတ်နိုင်သည့်ဆေးမှာ မဂ္ဂင်ရှစ်ပါးဟူသည့် နည်းလမ်းရှစ်သွယ် (မဂ္ဂသစ္စာ) သာလျှင်ဖြစ်ပါသည်။

မှန်စွာရှုမြင်ခြင်း၊ မှန်စွာကြံစည်ခြင်း၊ မှန်စွာပြောဆိုခြင်း၊ မှန်သော အမှုကိုပြုခြင်း၊ မှန်စွာအသက်မွေးခြင်း၊ မှန်စွာအားထုတ်ခြင်း၊ မှန်စွာသတိပြုခြင်း၊ မှန်စွာအာရုံမြဲမြံခြင်းတည်းဟူသော နည်းလမ်းရှစ်သွယ်သည် မတည်မြဲသော၊ ဆင်းရဲသော၊ အနှစ်သာရကင်းသော လောကကြီးကို အောင်မြင်လွန်မြောက်ကာ စိတ်ပိုင်းဆိုင်ရာဖွံ့ဖြိုးမှု အမြင့်မားအငြိမ်းချမ်းဆုံးသောအဆင့် (နိရောဓသစ္စာ) သို့ လက်ငင်းမုချရောက်စေမည် ဖြစ်ကြောင်း ဗုဒ္ဓမြတ်စွာကအတိအကျ ညွှန်ပြခဲ့ပါသည်။

ပြုပြင်ပြောင်းလဲမှုကင်းခြင်း၊ တည်မြဲခြင်း၊ ဝေဒနာကင်းခြင်း၊ အမြဲရှိခြင်း၊ လွတ်မြောက်မှုရသနှင့် ပြည့်စုံခြင်း၊ အလွန်တင့်တယ်ခြင်း၊ ရုပ်ပိုင်း စိတ်ပိုင်းဆိုင်ရာဝေဒနာ ဒုက္ခဆင်းရဲများမှကင်းလွတ်ခြင်းဟူသော ဂုဏ်သတ္တိတို့နှင့်ပြည့်စုံသည့် ယင်းစိတ်ပိုင်းဆိုင်ရာ ဖွံ့ဖြိုးမှုအမြင့်မား အငြိမ်းချမ်းဆုံး အဆင့်ကို ဗုဒ္ဓ၏ ဒေသနာတော်တွင် **နိဗ္ဗာန်** ဟူသော ဝေါဟာရဖြင့် ကိုယ်စားပြု ဟောကြားခဲ့ကြောင်း တွေ့ရှိနိုင်ပါသည်။

ဤနေရာတွင် စာရေးသူ၏စာစုကို နိဂုံးချုပ်ပါတော့မည်။ ဗုဒ္ဓသည် လောကကြီးအပေါ် အရှိကိုအရှိအတိုင်း ရှုမြင်သုံးသပ်ခဲ့သည်။ မကောင်းတာကို ကောင်းပါသည်ဟုမပြောခဲ့။ ဗုဒ္ဓသည် ရောဂါသည်ကို ရောဂါရှိမှန်း သိလျက်နှင့် ဘာမျှမဖြစ်ပါ၊ အချိန်တန်လျှင်ကောင်းသွားမှာပါဟု နှစ်သိမ့်ညာဝါးနေသူမျိုး မဟုတ်။ ရောဂါသည်အား ရောဂါရှိကြောင်းပြောပြသည်။ ရောဂါ၏ဇာစ်မြစ်ကို ထုတ်ဖော်တင်ပြသည်။ ရောဂါပျောက်ကင်းရာဆေး

နည်းမှန်ကိုပေး၍ ကုသသည်။

စင်စစ်အားဖြင့် ဗုဒ္ဓသည် လူ့အဖွဲ့အစည်းကြီးအပါအဝင် သတ္တလောက၏ ကယ်တင်ရှင်သမားကောင်း တစ်ဆူလည်း ဖြစ်ပေတော့သည်။ သို့ဆိုလျှင် တစ်စုံတစ်ဦးကစာရှုသူအား ဗုဒ္ဓဝါဒသည်အဆိုးမြင်ဝါဒဟု အဆိုပြုပြောကြားလာပါက စာရှုသူတို့ ခေါင်းညိတ်မည်လော၊ ခေါင်းခါမည်လော၊ စာရှုသူတို့၏ ကိုယ်ပိုင်ဉာဏ်ကိုအသုံးပြု၍ စဉ်းစားအဖြေပေးကြရန်သာ ဖြစ်ပါတော့သည်။ ။

(၁၄-၁-၉၀)

ဓမ္မရံသီ၊ ၁၉၉၀ပြည့်နှစ်၊ ဇူလိုင်လ။

# ဂါထာမန္တန်

ယခုအခါ မြန်မာနိုင်ငံရှိ ထေရဝါဒ ဗုဒ္ဓဘာသာဝင်များအနက် ရာခိုင်နှုန်း အတော်များများသည် ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်မှုအပေါ် စိတ်ဝင်စားမှု ပိုမိုလာကြသည်ကို တွေ့ရှိရပေသည်။

ဂါထာမန္တန် အသစ်အဆန်းများနှင့် ယင်းတို့ကိုရွတ်ဖတ် သရဇ္ဈာယ်ခြင်းအားဖြင့် အကျိုးကျေးဇူးခံစားရပုံ ကိုယ်တွေ့ဖြစ်ရပ်များကိုလည်း ဘာသာရေးစာစောင်အချို့က အသားပေးဖော်ပြလာကြသည်။ ဤဂါထာကဖြင့် ဘယ်ရသေ့ ရှစ်သောင်း ဆရာအပေါင်းက ဘယ်လိုအဓိဋ္ဌာန်ပြုလျက် စ,မခံကာ စီရင်ထားသောဂါထာဖြစ်သည်၊ ပလတ်စတစ်လောင်းပြီး အိတ်ကပ်ထဲဆောင်ထားပါက ကြံတိုင်းအောင်၍ ဆောင်တိုင်း မြောက်သည် ဆိုတာမျိုးကလည်း ရှိသေးသည်။

တိဘက်မဟာယာနတို့၏ ဘုရားအလောင်းရှိခိုးသည့် 'ဥုံမဏိပဒ္မေဟုံ' ဟူသော ဂါထာကလည်း အိမ်တိုင်း၊ ဆိုင်တိုင်း၊ ကားတိုင်းလိုလိုတွင် တွေ့နေရပြန်သည်။ ဆောင်သူများအား အကျိုးပေး၊ မပေးတော့မသိပေ၊ အိတ်ဆောင်အရွယ်မှသည် မှန်ဘောင်သွင်းသည့်အရွယ်တိုင် ပုံစံအမျိုးမျိုး ပြုလုပ် ရောင်းချသူတို့အဖို့ကား အတော်ကလေး အကျိုးပေးပေလိမ့်မည်။

ထို့ကြောင့်လားတော့မသိ၊ ယခုတလော စာအုပ်ဆိုင်များတွင် ပရိသတ်အကြိုက် ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်နည်းနှင့် ကိုယ်တွေ့ဖြစ်ရပ်များဆိုသည့် စာအုပ်စာတမ်းများက နေရာယူထားကြသည်၊

ဤသို့သော စာအုပ်စာတမ်းများ ခေတ်စားလာခြင်းသည် မြန်မာနိုင်ငံအတွက် သိပ်မကြာလှသေးသော်လည်း ကမ္ဘာနှင့်ချီလျှင် အတော်အတန် နောက်ကျခဲ့ပြီဖြစ်သည်။ အနောက်နိုင်ငံများတွင် သူတို့ယုံကြည်ကိုးကွယ်ရာ ထာဝရဘုရားသခင်အား ရှိခိုးပူဇော်ဆုတောင်းခြင်းဖြင့် လောကီမျက်မှောက်ဘဝတွင် မည်သို့မည်ပုံအကျိုးထူးများ ခံစားခဲ့ရသည်ကို အထောက်အထားများဖော်ပြပြီး စာအုပ်စာတမ်းများ ရေးသားထုတ်ဝေခဲ့သည်မှာကား နှစ်ပေါင်းများစွာ ကြာမြင့်ခဲ့ပေပြီ။

ယခင်က ထုတ်ဝေခဲ့သလို ယခုလည်းထုတ်ဝေဆဲပင် ဖြစ်သည်၊ သူတို့၏ စာအုပ်စာတမ်းများထဲတွင် တာဝရဘုရားသခင်ထံ ဆုတောင်း ပတ္ထနာပြုခြင်းဖြင့် ကုန်းကောက်စရာမရှိအောင် ဆင်းရဲမွဲတေနေသူ တစ်ဦးက ကုမ္ပဏီပိုင်ရှင် သန်းကြွယ်သူဌေးကြီးဖြစ်လာပုံ၊ ဉာဏ်ထုံထိုင်းသော မိန်းကလေးတစ်ဦးကလည်း ထက်မြက်သော ဆရာဝန်မကြီးတစ်ဦး ဖြစ်လာပုံ၊ အသက်အန္တရာယ်နှင့် ရင်ဆိုင်တွေ့နေရသူတစ်ဦးကလည်း အသက်ဘေးမှ လက်မတင်လေး လွတ်မြောက်လာပုံ စသည့်ကိုယ်တွေ့ ဖြစ်ရပ်များဖြင့် ဝေဝေဆာဆာ ဖော်ပြထားသည်ကို တွေ့ရှိရမည်ဖြစ်သည်။

သို့ဖြစ်ရာ သူတို့၏ကိုယ်တွေ့ဖြစ်ရပ်များအပေါ် ဗုဒ္ဓဘာသာဝင် တစ်ဦးအနေဖြင့် မည်သို့သုံးသပ် ယူဆသင့်ပါသနည်း၊ ဖန်ဆင်းရှင် ထာဝရ ဘုရားသခင်၏ အနန္တတန်ခိုးတော်ကို ငြင်းပယ်ထားသူတစ်ဦးအနေဖြင့် 'ဒါတွေဟာတိုက်ဆိုင်မှုတွေပါ' ဟု ပေါ့ပေါ့တန်တန် အဖြေပေး၍ကား မရချေ။ ဤသို့ဆိုလျှင် ဗုဒ္ဓဘာသာဝင်များ၏ ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ် ရာမှ တွေ့ကြုံခံစားလာရသော ကိုယ်တွေ့ဖြစ်ရပ်ဆိုသည်များကိုလည်း 'တိုက်ဆိုင်မှုတွေပါ' ဟုပင် သူတို့ကဆိုကြပေလိမ့်မည်။

သေချာစွာ လေ့လာကြည့်ပါက နှစ်ဖက်စလုံးတွင် တိုက်ဆိုင်မှုများ ရှိကောင်းရှိပါလိမ့်မည်။ သို့သော် တိုက်ဆိုင်မှုဟုဆို၍ မရနိုင်အောင် သိမ်မွေ့ ဆန်းကြယ်သည့် ဖြစ်ရပ်မှန်များကလည်း အထင်အရှားရှိနေသည်ကို တွေ့ရှိ ရမည် ဖြစ်ပေသည်။

မည်သို့ပင်ဖြစ်စေ ယင်းဖြစ်ရပ်များသည် ဂါထာမန္တန်များ၊ သို့တည်း မဟုတ် ဖန်ဆင်းရှင်ထာဝရဘုရားသခင်၏ အနန္တတန်ခိုးတော်ကြောင့် ပေါ်ပေါက်လာရခြင်း ဟုတ်-မဟုတ်ဆိုသည်ကို ဆန်းစစ်ရန်လိုအပ်လာ ပေသည်။

တစ်ဦးက ထာဝရဘုရားသခင်ကို မယုံကြည်သော်လည်း ဂါထာ မန္တန်များ၏အစွမ်းသတ္တိကို ယုံကြည်စွာဖြင့် ရွတ်ဖတ်သရဇ္ဈာယ်သည်။ အခြားတစ်ဦးက ဂါထာမန္တန်များကို မယုံကြည်သော်လည်း ထာဝရဘုရား သခင်ကိုယုံကြည်စွာဖြင့် ဆုတောင်းပတ္ထနာပြုသည်။ ဘာသာအယူဝါဒချင်း မတူသော်လည်း နှစ်ဦးစလုံးတွင် တူညီမှုတစ်ခုရှိသည်ကို သတိပြုရန်လို ပေသည်။

ယင်းကား 'ယုံကြည်မှု' ဆိုသည့်အချက်ပင် ဖြစ်သည်။ တစ်ဦးနှင့် တစ်ဦး အားကိုးရာချင်းမတူသော်လည်း ဤသို့ပြုခြင်းဖြင့် မိမိတို့၏လိုအင်

ဆန္ဒများ ပြည့်စုံလာလိမ့်မည်ဟု ယုံကြည်စိတ်ချထားခြင်းပင် ဖြစ်သည်။

စိတ်ပညာသဘောအရဆိုလျှင် ယုံကြည်မှုသည် လူသားတို့အား အတိုင်းအတာတစ်ခုအထိ အောင်မြင်မှုလမ်းကြောင်းပေါ်သို့ တွန်းပို့ပေးနိုင်သော တန်ခိုးသတ္တိတစ်မျိုးပင် ဖြစ်သည်။ လူတို့သည် မိမိတို့ဖြစ်လိုသော ကိစ္စတစ်ရပ်အပေါ် မလွဲဧကန်မုချဖြစ်လာလိမ့်မည်ဟု ယုံကြည်စိတ်ချထားရန်လိုအပ်လှသည်။ ယင်းသို့ယုံကြည်စိတ်ချစွာဖြင့် မိမိတို့ဖြစ်လိုလှသောကိစ္စများ အမှန်တကယ်ဖြစ်မလာမီ စိတ်အာရုံထဲတွင် ကြိုတင်မြင်ယောင်ထားခြင်းကို စိတ်ပညာဝေါဟာရဖြင့် **အင်မေဂျနေးရှင်း** *(Imagination)* ဟု ခေါ်ပေသည်။

တစ်ခါက ဆရာဝန်တစ်ဦးသည် လူနာများအား အာနိသင်ကင်းသော ရောင်စုံဆေးလုံးလေးများကို အမှန်တကယ်အစွမ်းသတ္တိရှိသယောင် လူနာ၏စိတ်တွင်ထင်မြင် ယုံကြည်လာအောင် ပြောဆိုတိုက်ကျွေးခြင်းဖြင့် ရောဂါများကုသပေးနိုင်ခဲ့ဖူးပါသည်။ ယင်းသည် လူနာအား ဆေးလုံးကလေးများအပေါ် ယုံကြည်စိတ်ချလာသည်အထိ ပြောဆိုညှို့ယူနိုင်သော ဆရာဝန်၏ **ဝေလ်ပါဝါ** *(Will Power)* ခေါ် **ပြဋ္ဌာန်းစိတ်တန်ခိုး** နှင့် လူနာ၏ 'ဤဆေးလုံးကလေးများကို သောက်သုံးခြင်းဖြင့် မလွဲမသွေ ရောဂါပျောက်ကင်းလိမ့်မည်' ဟု ယုံကြည်စိတ်ချထားသော အင်မေဂျနေးရှင်းတို့ ပေါင်းစည်းမှု၏ရလဒ်ပင် ဖြစ်သည်။

အင်မေဂျနေးရှင်း၏ တန်ခိုးသတ္တိ မည်မျှကြီးမားလှသနည်းဟုဆိုလျှင် အင်မေဂျနေးရှင်းနှင့်ဝေလ်ပါဝါတို့ ထိပ်တိုက်ဆန့်ကျင်လာကြပြီဆိုလျှင် အင်မေဂျနေးရှင်းကပင် အနိုင်ယူသွားလေ့ရှိသည်။

လူတစ်ဦးသည် မြေပေါ်ချထားသည့် ပေပျဉ်တစ်ချပ်ပေါ်တွင် ကောင်းစွာ လျှောက်လှမ်းနိုင်သော်လည်း ယင်းပေပျဉ်ကိုပင် ပေကိုးဆယ်ခန့် အမြင့်တွင် တံတားခင်းပြီးလျှောက်ခိုင်းကြည့်ပါက လျှောက်လှမ်းနိုင်တော့မည် မဟုတ်ပေ။ မလွဲမသွေလိမ့်ကျမည်သာ ဖြစ်သည်။

ပေပျဉ်ခြင်းအတူတူ မြေပြင်ပေါ်၌ ကောင်းစွာလျှောက်လှမ်းနိုင်ပါလျက် ပေကိုးဆယ်အမြင့်တွင် အဘယ့်ကြောင့် မလျှောက်လှမ်းနိုင်ရပါသနည်း၊ မြေပြင်ပေါ်၌ခင်းထားစဉ်က လိမ့်မကျနိုင်ဟု ယုံကြည်စိတ်ချထားသော်လည်း ပေကိုးဆယ်အမြင့်တွင်မူ လိမ့်ကျလိမ့်မည်ဟုသာ ယုံကြည် စိတ်ချစွဲမှတ်မြင်ယောင်ထားသော အင်မေဂျနေးရှင်းက စိုးမိုးနေသောကြောင့်ပင်ဖြစ်သည်။ ထိုသို့သောအချိန်မျိုးတွင် ဝေလ်ပါဝါကိုသုံးကာ

စိတ်အားတင်းပြီး လျှောက်ပါကလည်း အင်မေဂျနေးရှင်းကပင် ဝေလ်ပါဝါကိုအနိုင်ယူကာ လိမ့်ကျစေမည်သာဖြစ်သည်။

အလုပ်တစ်ခုကို မလုပ်မီကပင် 'အောင်မြင်လိမ့်မည်မဟုတ်' ဟု ကြိုတင်ယုံကြည်ထားသူအဖို့ မည်မျှပင်ရဲဆေးတင်၊ စိတ်အားမြှင့်ပြီး ပြုလုပ်စေကာမူ ဆုံးရှုံးမှုနှင့်သာ မလွဲမသွေရင်ဆိုင်ရမည် ဖြစ်သည်။ သို့သော် မိမိ၏ လုပ်ငန်းသည် တရားမျှတမှန်ကန်မှုရှိပြီး မလွဲမသွေ အောင်မြင်မှုရရှိလိမ့်မည်ဟု ယုံကြည်စိတ်ချထားသည့်အပြင် စိတ်ဓာတ်အင်အားကလည်း ကောင်းမွန် မြင့်မားနေမည်ဆိုပါက မိမိမျှော်လင့်ထားသည်ထက်ပင် အဆပေါင်းများစွာ အောင်မြင်မှုရရှိကြသည်မှာ ဓမ္မတာပင်ဖြစ်သည်။ ယင်းသည်ပင် အင်မေဂျနေးရှင်းနှင့်ဝေလ်ပါဝါတို့ သဟဇာတဖြစ်ပြီး ပေါင်းစည်းမှု၏ ရလဒ်လည်းဖြစ်သည်။

ရှေ့ကတင်ပြခဲ့သော ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်သူများနှင့် ထာဝရဘုရားသခင်ထံ ဆုတောင်းပတ္တနာပြုသူများ၏ အကျိုးကျေးဇူး ခံစားရမှုများသည်လည်း အင်မေဂျနေးရှင်းနှင့်ဝေလ်ပါဝါတို့ သဟဇာတဖြစ်မှု၏ အကျိုးပင်ဖြစ်၏။ သူတို့တွင် ဤသို့ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ ဆုတောင်းပတ္တနာပြုခြင်းတို့ဖြင့် သူတို့ဖြစ်လိုလှသောအရာသည် ဧကန်မုချ ဖြစ်ကိုဖြစ်လာရမည်ဟု ယုံကြည်စိတ်ချထားမှု အပြည့်ရှိနေသည်။

စီးပွားတိုးလိုသူကလည်း စီးပွားတိုးလာပုံ၊ ကျန်းမာလိုသူကလည်း ကျန်းမာလာပုံ၊ အန္တရာယ်မှ လွတ်မြောက်လိုသူကလည်း အန္တရာယ်မှ လွတ်မြောက်လာပုံကို စိတ်အာရုံတွင် ကြိုတင်မြင်ယောင်ထားသည့် အင်မေဂျနေးရှင်းကိုယ်စီ ရှိနေကြသည်။ ထို့အပြင် မိမိယုံကြည်အားကိုး ရာကို အာရုံပြု၍ ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ ဆုတောင်းပတ္တနာပြုခြင်းတို့ ကြောင့် 'သမာဓိအား' ကောင်းလာကြသည်။ တည်ငြိမ်ခိုင်ခန့်သော သမာဓိ က ဝေလ်ပါဝါကို တိုးတက်ကြီးထွားစေသည်။

ဤသို့ အားကောင်းလာသော ဝေလ်ပါဝါနှင့် အင်မေဂျနေးရှင်းတို့ ပေါင်းစည်းမိသောအခါ မိမိအလိုဆန္ဒ ပြည့်မြောက်ရေးအတွက် လွန်စွာ အသုံးဝင်သော ဆန်းသစ်သည့် အကြံကောင်း၊ ဉာဏ်ကောင်း၊ နည်းလမ်းကောင်းများ ရရှိလာ၏။ ယင်းအကြံကောင်း နည်းလမ်းကောင်းများနှင့်အညီ ကြိုးပမ်းအားထုတ် အကောင်အထည်ဖော်လိုက်သောအခါ စီးပွားတိုးလိုသူက စီးပွားတိုးလာတော့သည်။ ကျန်းမာလိုသူကလည်း ကျန်းမာလာတော့သည်။ အန္တရာယ်မှ လွတ်မြောက်လိုသူကလည်း လွတ်မြောက်

လာလေတော့သည်။

ဤသည်ကား ဂါထာမန္တန်များ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းနှင့် ထာဝရဘုရားသခင်ထံ ဆုတောင်းပတ္ထနာပြုခြင်းဖြင့် အကျိုးထူးခံစားကြရပါသည်ဟုဆိုသော ကိုယ်တွေ့ဖြစ်ရပ်များ ပေါ်ပေါက်လာပုံကို စိတ်ပညာရှုထောင့်မှ ယထာဘူတကျကျ သုံးသပ်မှုပေတည်း။

(၂)

ယုံကြည်မှုသည် လူသားတို့အား အတိုင်းအတာတစ်ခုအထိ အောင်မြင်မှုလမ်းကြောင်းပေါ်သို့ တင်ပို့ပေးနိုင်ပေသည်ဟု ဆိုခဲ့ရာ၌ 'အတိုင်းအတာတစ်ခုအထိ' ဆိုသည့်စကားရပ်ကို သတိပြုမိကြပေလိမ့်မည်။

ယုံကြည်မှု၏တန်ခိုးသတ္တိသည် မည်သူမျှဖောက်ဖျက် ကျူးလွန်၍မရနိုင်သော လောကဥပဒေသဘောင်အတွင်း၌သာ အစွမ်းပြနိုင်သည်ဆိုခြင်းကိုကား အထူးသတိပြုရန်လိုအပ်လှသည်။ အဆိုပါ လောကဥပဒေသဘောင်ကို ဗုဒ္ဓ၏ဒေသနာတော်တွင် (၁) စိတ္တနိယာမ၊ (၂) ကမ္မနိယာမ၊ (၃) ဥတုနိယာမ၊ (၄) ဗီဇနိယာမ၊(၅) ဓမ္မနိယာမဟူသော နိယာမငါးပါးအဖြစ်တွေ့ရှိရပေမည်။

စိတ္တနိယာမဆိုသည်မှာ အဆင်း၊ အသံစသော အာရုံတို့နှင့် မျက်စိ၊ နားစသော ပသာဒတို့ ထိတွေ့ကြခြင်းဖြင့် မည်သူကမျှ ပြုပြင်စီမံဖန်ဆင်းမှုမပြုရဘဲ သတ္တဝါတို့၏သန္တာန်၌ စိတ်အစဉ်များ (ဝီထိစိတ်များ)နှင့် ယင်းစိတ်တို့၏အစွမ်းသတ္တိများ ပေါ်ပေါက်လာတတ်သော သဘောပင်ဖြစ်သည်။ ယင်းတို့အား မည်သည့်ဖန်ဆင်းရှင်ကမှ ဖန်ဆင်းပေးနိုင်ခြင်းမရှိသလို ပြုပြင်ဖျက်ဆီး၍လည်း မရပါချေ။

ကမ္မနိယာမဆိုသည်မှာ အကြောင်းတရားကြောင့် အကျိုးတရားဖြစ်ထွန်းလာရသည့်သဘော၊ ကောင်းတာလုပ်လျှင် ကောင်းတာဖြစ်မည်၊ မကောင်းတာလုပ်လျှင် မကောင်းတာဖြစ်မည်၊ သတ္တဝါတိုင်းသည် မိမိတို့ပြုခဲ့သမျှသော အကြောင်းတရားနှင့် တူညီထိုက်တန်သော အကျိုးတရားကိုခံစားရမြဲ ဖြစ်သည့်သဘောပင် ဖြစ်သည်။ မည်သူကမျှ ကမ္မနိယာမကိုကျော်လွန်၍ မကောင်းတာလုပ်ပြီး ကောင်းတာဖြစ်အောင် မပြုပြင်နိုင်ပေ။ မည်သူမျှ အကြောင်းတရားကြောင့်ပေါ်ပေါက်လာမည့် အကျိုးတရားကိုတားဆီး၍မရနိုင်ချေ။

ဥတုနိယာမဆိုသည်မှာ သဘာဝတရား၏ စည်းချက်မှန်မှန်

ပြောင်းလဲဖြစ်ပေါ်နေတတ်သော သဘောပင်ဖြစ်သည်။ နွေ၊ မိုး၊ ဆောင်း ဥတုသုံးလီတို့၏ အလှည့်ကျဖြစ်ပေါ်နေတတ်ခြင်း၊ မိုးသောက်လျှင် နေထွက်ခြင်း၊ မိုးချုပ်လျှင်နေဝင်ခြင်း၊ ရေကြီးခြင်း၊ မိုးခေါင်ခြင်း၊ ဒီရေ တက်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်းစသည့် သဘာဝတရားများသည် မည်သူ တစ်ဦး တစ်ယောက်ကမျှ ပြုပြင်ဖန်တီး၍မရသလို ဖျက်ဆီး၍လည်း မရပါချေ။

ဗီဇနိယာမဆိုသည်မှာ လူကမွေးလျှင်လူဖြစ်ရမည်၊ သရက်စေ့ စိုက်လျှင် သရက်ပင်ပေါက်မည်၊ လူ့ဝမ်းက ခွေးကိုမမွေးနိုင်၊ သရက်စေ့က အုန်းပင်မပေါက်နိုင်ဆိုသည့် မျိုးရိုးဗီဇသဘောကို မည်သူကမျှကျော်လွန် ဖောက်ဖျက်၍ မရခြင်းပင်ဖြစ်သည်။

ဓမ္မနိယာမဆိုသည်မှာကား အထက်ဖော်ပြပါ နိယာမတရား လေးပါးတို့ တစ်ခုနှင့်တစ်ခု အကြောင်းအကျိုးပြုဆက်နွယ်၍ ပေါင်းစည်း ခြုံငုံပါဝင်လျက်ရှိသော စနစ်ကြီးတစ်ခုလုံးကို ဆိုလိုခြင်းဖြစ်သည်။ လောက၏ မတည်မြဲသော၊ ဆင်းရဲသော၊ အနှစ်သာရကင်းသော သဘော နှင့် သတ္တဝါတို့၏ ကံ၊ ဉာဏ်၊ ဝီရိယ အစွမ်းသတ္တိဖြင့် ဤလောကမှ ကျော်လွှားလွန်မြောက်နိုင်သော သဘောသည်လည်း ဓမ္မနိယာမပင် ဖြစ်သည်။ ဓမ္မနိယာမကို မည်သည့်တန်ခိုးရှင်ကမျှ ဖန်ဆင်းထားခြင်း မဟုတ်သလို ဖျက်သိမ်း၍လည်းမရနိုင်သဖြင့် သူ့သဘောသူဆောင်လျက် အစဉ်ထာဝရ မှန်ကန်နေမည့် လောကဥပဒေသကြီးပင် ဖြစ်သည်။

သို့ဖြစ်ရာ ယုံကြည်ခြင်းသည် ယင်းနိယာမတရားငါးပါး၏ ဥပဒေ ဘောင်အတွင်း၌သာ အစွမ်းသတ္တိရှိနိုင်ပါသည်။ သို့ရာတွင် ယခုအခါ ဂါထာ မန္တန် ရွတ်ဖတ်သရဇ္ဈာယ်သူများသည် ယင်းနိယာမတရားငါးပါးကို သတိ မမူမိကြတော့ပေ။ ဂါထာမန္တန်၏အစွမ်းဖြင့် ယင်းနိယာမတရား ငါးပါးကိုပင် ကျော်လွှား လွန်မြောက်နိုင်လိမ့်မည်ဟု ယုံကြည်မှုအစွန်းရောက်သွားတတ် ကြပေသည်။

အကြောင်းတရားရှိမှ အကျိုးတရားရှိမည်ဟူသော ကမ္မနိယာမကို အလေးမထားတော့ဘဲ ဂါထာမန္တန်များအပေါ်သာ လုံးဝယုံကြည် အားထားကာ လုံ့လဝီရိယစိုက်ထုတ်မှု လျော့ပါးလာကြသည်။ အားထုတ် ကြိုးပမ်းခြင်းမပြုတော့ဘဲ လိုလားသည့်အကျိုးတရားကိုသာ မျှော်ကိုး လာကြတော့သည်။ စီးပွားတိုးလိုသူက စီးပွားတိုးအောင် မလုပ်ချင်တော့ပေ။ ကျန်းမာလိုသူက ကျန်းမာအောင် မကျင့်သုံးချင်တော့ပေ။ အန္တရာယ်မှ

လွတ်မြောက်လိုသူကလည်း လွတ်မြောက်အောင် မကြိုးပမ်းချင်တော့ပေ။ ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်ခြင်းဖြင့်သာ အချိန်ကုန်စေခဲ့တော့သည်။

တစ်ခါက အိန္ဒိယပြည်မြောက်ပိုင်း ဩဒန္တပူရီမြို့၌ ခိုင်မာတောင့်တင်းသော စစ်တပ်အင်အားကို ပိုင်ဆိုင်သည့် ဘုရင်တစ်ပါး စိုးစံအုပ်ချုပ်ခဲ့ဖူးသည်။ သူသည် စစ်တပ်အင်အားထက် သူကိုးကွယ်ရာ တန္တရဂိုဏ်းဝင်ဘုန်းကြီးများ၏ ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်မှုကိုသာ ပို၍အားကိုးခဲ့သည်။ ထို့ကြောင့် ရန်သူများလာရောက်ဝန်းရံ တိုက်ခိုက်သည့်အခါ ထွက်မတိုက်ဘဲ ဂါထာမန္တန်များနှင့်သာ အချိန်ကုန်စေခဲ့ရာ မဟာမေဒင်မြင်းစီးစစ်သည်နှစ်ရာမျှ၏ အလွယ်တကူ ချေမှုန်းသိမ်းပိုက်ခြင်းကို ခံခဲ့ရဖူးလေသည်။ ဤသည်ကား ဂါထာမန္တန်များအပေါ် ယုံကြည်မှုလွန်ကဲခြင်းကြောင့် ကြုံတွေ့ခဲ့ရသည့် ဆုံးရှုံးမှုများစွာထဲမှ ပြယုဂ်တစ်ခုသာ ဖြစ်ပေသည်။

ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်မှုအပေါ် ယုံကြည်မှုလွန်ကဲသူများအနက် မဟာယာနဗုဒ္ဓဘာသာဝင် တန္တရဂိုဏ်းသားတို့မှာ ထိပ်ဆုံးမှ ပါဝင်လျက်ရှိပေသည်။ မည်မျှအထိ ယုံကြည်မှုအစွန်းရောက်သွားကြသနည်းဆိုလျှင် ဒါန၊ သီလ၊ ဘာဝနာတရားများ ပွားများနေရန်မလိုဘဲ ဂါထာမန္တန်များကို ဌာန်ကရိုဏ်းကျကျ အာရုံပြုရွတ်ဆိုရုံမျှဖြင့် နိဗ္ဗာန်မဂ်ဖိုလ်ကို မျက်မှောက်ပြုနိုင်သည်ဟူ၍ပင် ယုံကြည် လက်ခံထားကြသည်။

သူတို့၏ **မဟာဝေရောစနသုတ်** ၌လည်း *မြတ်စွာဘုရားနှင့် ဘုရားအလောင်းတော်တို့၏ သီလကို ကျေးဇူးတင်ကြလော့၊ အံ့ဩဖွယ်ရာ အစွမ်းသတ္တိသည် မန္တန်ထဲ၌ရှိ၏၊ မန္တန်ရွတ်ဆိုခြင်းဖြင့် အနန္တကောင်းကျိုးကို ရ၏။ မန္တန်ဖြင့် အကြံအစည်အောင်ရခြင်းမှာ မန္တန်၏စင်ကြယ်မှုကြောင့်ဖြစ်၏။ မြတ်စွာဘုရားက သိမ်မွေ့နက်နဲသောဩဇာကို မန္တန်ထဲ၌ ထည့်သွင်းထားခဲ့၏* ဟု ရေးသားထားသည်ကို တွေ့ရှိရမည်ဖြစ်သည်။

မြန်မာနိုင်ငံတွင်လည်း မိမိကိုယ်တိုင် ထေရဝါဒဗုဒ္ဓဘာသာဝင်ပါဟု အမည်ခံထားသူ အတော်များများမှာ ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်မှုအပေါ်ယုံကြည်လိုက်စားမှု လွန်ကဲလာကြခြင်းဖြင့် မဟာယာနဗုဒ္ဓဘာသာဝင် တန္တရဂိုဏ်းသားများဖြစ်မှန်းမသိ ဖြစ်လာကြသည်ကို ဝမ်းနည်းဖွယ် တွေ့မြင်နေရပေသည်။

ဂါထာမန္တန် ရွတ်ဖတ်သရဇ္ဈာယ်ခြင်းဖြင့် အထက်ကတင်ပြခဲ့သလို အင်မေဂျနေးရှင်းနှင့် ဝေလ်ပါဝါတို့ ပေါင်းစည်းမိမှုကြောင့် အတိုင်းအတာတစ်ခုအထိ အောင်မြင်မှုရရှိလာနိုင်သည်ကို မငြင်းလိုပါ။ သို့သော် မိမိ၏

အောင်မြင်မှုအပေါ် ဓမ္မဓိဋ္ဌာန်ကျကျမသုံးသပ်တော့ဘဲ ယုံကြည်ကိုးစားမှု လွန်ကဲလာကာ လောက၏နိယာမတရားများကိုပါ ချိုးဖောက်ကျော်လွန်ရန် စိတ်ကူးယဉ်တတ်ကြပေသည်။ ထိုအခါတွင်မူ သူတို့၏အာရုံထင်မြင်မှုများ သည် အင်မေဂျနေးရှင်း မမည်တော့ဘဲ **လိုရာဆွဲတွေး စိတ်ကူးခြင်း** *(Autistic Thinking)* များသာ ဖြစ်လာပေလိမ့်မည်။ ထိုမှတစ်ဆင့် စိတ်ကူးရေယဉ်ကြောမှာ အတိုင်းမသိမျောပါရင်း စိတ်ဖောက်ပြန် ရူးသွပ် သွားတတ်ကြပေသည်။

ဤနေရာတွင် စောဒကတက်ဖွယ် ကိစ္စတစ်ရပ်ရှိပေ၏။ 'ထေရဝါဒ ဗုဒ္ဓဘာသာက လက်ခံထားသော ပရိတ်ကြီး (၁၁)သုတ် ရွတ်ဖတ်သရဇ္ဈာယ် ခြင်းကိုကား မည်သို့သဘောထားမည်နည်း' ဟူ၍ဖြစ်၏။ ဗုဒ္ဓဘာသာဝင်တို့ အနေနှင့် မြတ်စွာဘုရားသခင်နှင့် နောက်လိုက်သံဃာတော်များ ကိုယ်တော် တိုင်ဟောကြားတော်မူခဲ့သော သုတ္တန်ဒေသနာတော်တို့မှ ရွေးချယ်ထုတ်နုတ် စီစဉ်ပြုစုထားသည့် ပရိတ်ကြီး (၁၁)သုတ်နှင့် နောက်လူတို့ တီထွင်ဖန်တီး ထားသော ဂါထာမန္တန်တို့၏ ခြားနားချက်ကို ပိုင်းပိုင်းထင်ထင် သိမြင်ရန် လိုအပ်လှပေသည်။

ထေရဝါဒဗုဒ္ဓဘာသာက လက်ခံထားသော ပရိတ်တရားတော် များသည် တန္တရ၊ မန္တရဂိုဏ်းသားများ၏ ကြောင်းကျိုးကင်းမဲ့သော 'ဉုံဖွ ပျောက်စေ' မန္တန်မျိုး မဟုတ်ပေ။ ရွတ်ဖတ်သရဇ္ဈာယ်ရုံ သက်သက်အတွက် မဟုတ်ဘဲ လက်တွေ့လိုက်နာကျင့်ကြံရမည့် နည်းလမ်းကောင်းများစွာ ပါရှိ ပေသည်။ ပရိတ်တရားတော်တို့၏ အနက်အဓိပ္ပာယ်ကို ကောင်းစွာ နားလည် သဘောပေါက်သည့်အလျောက် ရတနာသုံးပါးအပေါ် ဉာဏ်ပညာနှင့် ယှဉ်သော ယုံကြည်သဒ္ဓါစိတ်ဖြင့် မိမိ၏ကိုယ်ကျင့်သီလ၊ သမာဓိတို့အပေါ် သစ္စာအဓိဋ္ဌာန် ပြုခြင်းလည်းဖြစ်သည်။ ပရိတ်နှင့် စပ်လျဉ်း၍ မိလိန္ဒပဉှာတွင် *ပရိတ်အရံအတားဟူသည် အသက်ရှင်နိုင်ခွင့် ရှိသေးသော၊ အရွယ်ကောင်းသော၊ ကံကြီးငါးပါးမှ ကင်းလွတ်ကုန်သော သူတို့အတွက်သာဖြစ်၏၊ အသက်ရှင်နိုင်ခွင့် ကုန်ဆုံးနေသောသူအား ပရိတ်ရွတ်ဖတ်ပေးခြင်းဖြင့် အသက်ဆက်ရန် မစွမ်းနိုင်ချေ* ဟု အရှင် နာဂသိန် မထေရ်မြတ်ကြီးက ဖြေကြားခဲ့သည်ကိုလည်း တွေ့ရှိနိုင်ပေသည်။

သို့ဖြစ်ရာ ဗုဒ္ဓကိုယ်တော်တိုင်ဟောကြားခဲ့သော ပရိတ်တရားတော် များသည်ပင် လောက၏နိယာမတရားငါးပါးကို ကျော်လွှား လွန်မြောက်ခြင်း ငှာ မစွမ်းနိုင်ကြောင်း ထင်ရှားလှပေသည်။ ထို့ကြောင့်လည်း ဗုဒ္ဓရှင်တော်

မြတ်ဘုရားက သတ္တဝါတို့၏ လောကီ၊ လောကုတ္တရာ ကိစ္စအဝဝ အောင်မြင်ပြီးမြောက်ရေးအတွက် အားထားရာအစစ်ကား သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာတည်းဟူသော အားငါးတန် (ဗိုလ်ငါးပါး)ပင်ဖြစ်ကြောင်း ဟောကြားတော်မူခဲ့ခြင်းဖြစ်သည်။

ဤနေရာတွင် သဒ္ဓါဆိုသည်မှာ မိမိအနေနှင့် အောင်မြင်ရန် ဆန္ဒပြင်းပြလျက်ရှိသော ကိစ္စတစ်ရပ်သည် မလွဲမသွေဧကန်မုချ ပြီးမြောက်ရမည်ဟူသော ထက်သန်သည့် ယုံကြည်ချက်ပင်ဖြစ်သည်။

စိတ်ပညာရှင်တို့ ပြောဆိုနေကြသည့် အင်မေဂျနေးရှင်းသည် သဒ္ဓါတရားတွင် အကျုံးဝင်ပေသည်။ အောင်မြင်ရန် ဆန္ဒပြင်းပြနေသော ကိစ္စသည် တရားမျှတမှန်ကန်မှုရှိပြီး၊ ဖြစ်လည်းဖြစ်မြောက်ရမည်ဟု ယုံကြည်သဒ္ဓါရှိထားသူတစ်ဦးအဖို့ အောင်မြေတစ်ဝက်နင်းပြီးပြီဟု ယူဆနိုင်ပေသည်။

ဝီရိယဆိုသည်မှာ မိမိယုံကြည်ထားသည့်အလျောက် မဖြစ်မနေကြိုးပမ်းအားထုတ် ဆောင်ရွက်ခြင်းပင် ဖြစ်ပေသည်။ ယင်းသို့ဆောင်ရွက်နိုင်ရန်အတွက် ကိုယ်စိတ်နှစ်ပါးကျန်းမာသန်စွမ်းရန် အရေးကြီးလှပေသည်။ စိတ်ရှိတိုင်း ကိုယ်ကအားထုတ်နိုင်ရန် ကျန်းမာရေးကို အထူးဂရုပြုသင့်သည်။

မိမိ၏ရည်မှန်းချက်ပန်းတိုင်ကို လျှောက်လှမ်းရာဝယ် လွဲချော်မသွားအောင်၊ လမ်းမှားရောက်မသွားအောင် အစဉ်လက်ကိုင်ထားရမည့် အရာကား သတိတရားပင်ဖြစ်သည်။ သတိတရား လက်ကိုင်ထားခြင်းဖြင့် ယုံကြည်မှုသဒ္ဓါ အစွန်းရောက်သွားခြင်း၊ ဝီရိယလွန်ကဲခြင်းတို့မှလည်း ကာကွယ်နိုင်မည်ဖြစ်သည်။

မည်သည့်ကိစ္စကိုမဆို ဆောင်ရွက်ရာတွင် အောင်မြင်မှုမရမီ အခက်အခဲ၊ အတားအဆီးများနှင့် ကြုံတွေ့ရစမြဲဖြစ်သည်။ ယင်းသို့ ကြုံတွေ့ရသည့်အခါ မဆုတ်မနစ်သော ဇွဲလုံ့လဝီရိယဖြင့် အားထုတ်ကြိုးပမ်း နိုင်ရန်မှာ ဝေလ်ပါဝါ (ခေါ်) ပြဋ္ဌာန်းစိတ်တန်ခိုး ထက်မြက်ရန် လိုအပ်သည်။ ယင်းသို့ ပြဋ္ဌာန်းစိတ်တန်ခိုး ထက်မြက်ရန်မှာလည်း သမာဓိအားကောင်းရန် အထူးလိုအပ်လှပေသည်။ ထို့ကြောင့် မိမိလိုအင်ဆန္ဒ ပြည့်မြောက်လိုသူများသည် သမာဓိအားကိုထူထောင်ကြရပေမည်။ ဤနေရာတွင် သတိချပ်စရာကား သမာဓိအားကောင်းရန်မှာ အကျင့်သီလနှင့်ပြည့်စုံဖို့ လိုအပ်ကြောင်းပင် ဖြစ်၏။ ကိုယ်ကျင့်သီလ သိက္ခာမရှိသူများတွင် ဗုဒ္ဓအလိုတော်ကျ သမာသမာဓိမျိုး မရှိနိုင်ပေ။

ဤသို့ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိတို့နှင့် ပြည့်စုံသောသူအား

ပညာကလည်း အလိုလိုအားကောင်းလာမည်သာ ဖြစ်သည်။ မိမိလိုအင်ဆန္ဒ ပြည့်မြောက်ရေးအတွက် လိုအပ်သော အကြံဉာဏ် နည်းလမ်းကောင်းများကို ထိုးထွင်းသိမြင်လာခြင်းဖြင့် ပညာနှင့်လည်း ပြည့်စုံလာမည် ဖြစ်သည်။ ပညာအရထိုးထွင်းသိမြင်လာသော အကြံဉာဏ်နည်းလမ်းကောင်းများနှင့်အညီ အားထုတ်ကြိုးပမ်း ဆောင်ရွက်လိုက်သော အခါတွင်ကား မိမိတို့မျှော်မှန်းထားသည့် အောင်မြင်မှုပန်းတိုင်ကို မလွဲမသွေ လှမ်းကိုင်နိုင်တော့မည်သာ ဖြစ်သည်။

သို့ဖြစ်ရာ ဗုဒ္ဓရှင်တော်မြတ်ဘုရား၏ အဆုံးအမသြဝါဒများကို အရိုးပေါ်အရွက်မဖုံးရအောင် ရှေးမူမပျက်ခေတ်အဆက်ဆက် အစဉ် တစိုက် ထိန်းသိမ်းလိုက်နာခဲ့ကြသော ထေရဝါဒဗုဒ္ဓဘာသာဝင်များ အနေဖြင့် မိမိတို့၏ ဘဝအောင်မြင်ရေး ခရီးလမ်းကြောင်းကို လျှောက်လှမ်း ကြရာတွင် ဂါထာမန္တန်များ ရွတ်ဖတ်သရဇ္ဈာယ်မှုအပေါ် အားကိုးအားထား ပြုနေရန် မလိုအပ်ကြောင်း ထင်ရှားလှပေသည်။ ဗုဒ္ဓရှင်တော်မြတ်ဘုရား၏ အဆုံးအမသြဝါဒနှင့်အညီ သဒ္ဓါ၊ ဝီရိယ၊ သတိ၊ သမာဓိ၊ ပညာတည်း ဟူသော ဗိုလ်ငါးပါးကိုသာ အားကိုးအားထားပြုရန် ဖြစ်ပေသည်။

ယင်းဗိုလ်ငါးပါးနှင့် ပြည့်စုံမှုကိုအကြောင်းပြု၍ လောကီ၊ လောကုတ္တရာ အလိုဆန္ဒများ ပြည့်ဝအောင်မြင်အောင် ကြိုးပမ်းဆောင်ရွက်ခြင်းဖြင့်သာ မိမိကိုယ်ကိုမိမိ ထေရဝါဒဗုဒ္ဓဘာသာဝင် စစ်မှန်ကြောင်း သက်သေထူနိုင်လိမ့်မည် ဖြစ်ပေတော့သည်။ ။

(၁၂-၃-၉၀)

ဓမ္မရံသီ၊ ၁၉၉၀ပြည့်နှစ်၊ နိုဝင်ဘာလနှင့် ဒီဇင်ဘာလ။

# ပရိတ်သည် မန္တန်မဟုတ်ပါ

ပရိတ်ဟူသော ဝေါဟာရသည် **ပရိတ္တ** ဆိုသည့် ပါဠိမှ ဆင်းသက်လာပြီး မြန်မာဘာသာအားဖြင့် **အရံအတား** ဟု အဓိပ္ပာယ်ရကြောင်း ဗုဒ္ဓဘာသာဝင်များ အသိပင်ဖြစ်သည်။ သို့ရာတွင် အရံအတားဟုဆိုလိုက်တိုင်း လူအတော်များများမှာ မိမိတို့အပေါ်ကျရောက်လာမည့် ဘေးအန္တရာယ်အသွယ်သွယ်မှ ကာကွယ်ပေးမည့် အဆောင်လက်ဖွဲ့သဖွယ် ထင်မှတ်မှားကြသည်။ အချို့ကလည်း ပရိတ်ဆိုသည်မှာ ဗုဒ္ဓဘာသာဝင်တို့၏ ဂါထာမန္တန်တစ်မျိုးဟု ယူဆကြသည်။

အကယ်စင်စစ်အားဖြင့်လည်း ယင်းသို့ယူဆသူများကို အပြစ်မဆိုသာပေ။ ဗုဒ္ဓဝါဒသည် ဗြာဟ္မဏဝါဒအကြီးအကျယ်ထွန်းကားရာ မဇ္ဈိမဒေသ၌ပေါက်ဖွားလာခဲ့ပေရာ အနှစ်သာရပိုင်းတွင်မဟုတ်စေကာမူ အသွင်သဏ္ဌာန်ပိုင်းတွင်ကား ဗြာဟ္မဏဝါဒ၏ ဩဇာသက်ရောက်မှုက ရိုးရာဓလေ့စရိုက်ပုံစံဖြင့် အတိုင်းအတာတစ်ခုအထိရှိခဲ့ပေသည်။

သို့ဖြစ်ရာ နှောင်းပိုင်းကာလ ခေတ်အဆက်ဆက်တွင် ကမ္ဘာ့ဒေသအသီးသီးသို့ ဗုဒ္ဓဝါဒပျံ့နှံ့ခဲ့စေကာမူ ဗြာဟ္မဏဝါဒလောင်းရိပ်က ထပ်ကြပ်မကွာစိုးမိုးခဲ့ပေရာ ဗုဒ္ဓဝါဒ၏အနှစ်သာရသည် အမှန်တကယ်အားထုတ်လေ့လာကာ ပင်ကိုယ်ဉာဏ်ကို အသုံးချသူတို့အတွက်သာ ဖြစ်ခဲ့ပေသည်။

ဘာသာရေးကို မလုပ်မဖြစ်ကိစ္စတစ်ရပ်အနေနှင့် သဘောထားသည့် မိရိုးဖလာဗုဒ္ဓဘာသာဝင် အများစုမှာကား ဗြာဟ္မဏဝါဒလောင်းရိပ်အောက်မှ မလွတ်နိုင် မကျွတ်နိုင်ဖြစ်လျက် ရှိကြကုန်သည်။

အထက်ကဆိုခဲ့သည့်အတိုင်း ပရိတ်ကိုဗုဒ္ဓဘာသာဝင်တို့၏ အဆောင်လက်ဖွဲ့ မန္တန်တစ်မျိုးဟု ယူဆကြသူများမှာ ထိုသို့သော ဗြာဟ္မဏဝါဒလောင်းရိပ်မိသူ အမည်ခံဗုဒ္ဓဘာသာဝင်များပင် ဖြစ်ပေသည်။

ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ နာယူခြင်းစသည့် လုပ်ငန်းဆောင်တာများသည် ဗြာဟ္မဏဝါဒလောင်းရိပ်ကို တွန်းလှန်ဖယ်ရှားလျက် ဗုဒ္ဓဝါဒရှုထောင့်စစ်စစ်မှ ကြည့်မြင်သုံးသပ်မည်ဆိုပါက

ဗုဒ္ဓမြတ်စွာနှင့်တကွ ဓမ္မကိုဆက်ခံလိုက်နာ ဖြန့်ဖြူးကြကုန်သည့် သာသနာ့ဝန်ဆောင်ပုဂ္ဂိုလ်ကြီးများက ပုထုဇဉ်လူသားတို့၏ အသိဉာဏ်အဆင့်အတန်းနှင့်အညီ လက်တွေ့ဘဝတွင် အကျိုးကျေးဇူးခံစားကြရစေခြင်းငှာ အထူးစီမံခဲ့သော အဆုံးအမဩဝါဒ တရားထူးများသာ ဖြစ်ပေသည်။

ယခုအခါ ဗုဒ္ဓဘာသာဝင်အများသူငါ ရွတ်ဖတ်နာယူသမှု ပြုနေကြသည့် ပရိတ်ကြီး(၁၁)သုတ်၏အရင်းအမြစ်ကို လေ့လာမည်ဆိုပါက မင်္ဂလသုတ်၊ ရတနသုတ်နှင့် မေတ္တသုတ်တို့ကို ခုဒ္ဒကနိကာယ်၊ ခုဒ္ဒကပါဌနှင့် သုတ္တနိပါတ်တို့တွင်လည်းကောင်း၊ ခန္ဓသုတ်ကို ဝိနယပိဋကတ် စူဠဝဂ်၊ ခုဒ္ဒကနိကာယ်မှ ဇာတကနှင့် အင်္ဂုတ္တရနိကာယ်တို့တွင်လည်းကောင်း တွေ့ရှိရမည်ဖြစ်သည်။ မောရသုတ်ကို ခုဒ္ဒကနိကာယ် ဇာတကဝတ္ထုအား အခြေပြု၍လည်းကောင်း၊ ဝဋ္ဋသုတ်ကို ဇာတကဝတ္ထုနှင့် စရိယာပိဋကတ်တို့အား အခြေပြု၍လည်းကောင်း ရေးဖွဲ့ထားခြင်းဖြစ်ပေသည်။

ထို့အပြင် ဓဇဂ္ဂသုတ်ကို သံယုတ္တနိကာယ်၊ သတ္တယံယုတ်မှလည်းကောင်း၊ အာဋာနာဋိယသုတ်ကို ဒီဃနိကာယ် ပါထိကဝဂ်နှင့် ခုဒ္ဒကနိကာယ် ဓမ္မပဒတို့မှလည်းကောင်း၊ အင်္ဂုလိမာလသုတ်ကို မဇ္ဈိမနိကာယ် မဇ္ဈိမပဏ္ဏာသမှလည်းကောင်း၊ ဗောဇ္ဈင်သုတ်ကို သံယုတ္တနိကာယ် မဟာဝဂ္ဂ သံယုတ်မှလည်းကောင်း ရွေးနုတ်ထားခြင်းဖြစ်သည်ကို တွေ့ရှိရသည်။ ပုဗ္ဗဏှသုတ်မှာမူ ခုဒ္ဒကနိကာယ်မှ သုတ္တနိပါတ် ခုဒ္ဒကပါဌနှင့် အင်္ဂုတ္တရနိကာယ်တို့မှ ဘုရားဟောဂါထာအချို့ကို နှောင်းခေတ်ပညာရှင်တို့က ပေါင်းစပ်ဖွဲ့စည်းထားခြင်း ဖြစ်ပေသည်။

ပရိတ်တရားတော်သည် ဗြာဟ္မဏဝါဒလောင်းရိပ် မကင်းသူတို့အတွက် အဆောင်လက်ဖွဲ့-မန္တန်-ဆုတောင်းစာတစ်မျိုးဟု ထင်မှတ်မှားဖွယ်ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ သို့ရာတွင် မိမိကိုယ်ပိုင်ဆင်ခြင်တုံ တရားကိုအသုံးပြုလျက် ကျိုးကြောင်းဆက်စပ် ပိုင်းခြား ဝေဖန်တတ်သူတို့အတွက်မူကား ရွတ်ဖတ်၊ နာယူနေရုံ သက်သက်မျှမဟုတ်ဘဲ ဘဝတစ်သက်တာအတွက် လမ်းညွှန်ချက်များသာဖြစ်ကြောင်း ကောင်းစွာသဘောပေါက်ကြမည်သာဖြစ်သည်။ ယင်းအချက်ကို ရိပ်စားမိကြကုန်သော သာသနာ့ဝန်ဆောင် ပညာရှင်ကြီးများကလည်း ပရိတ်တရားတော် ရွတ်ဖတ်နာယူသူများအား ရွတ်ဖတ်နာယူရကျိုးနပ်စေရန် လိုက်နာကျင့်ကြံသင့်သည့် အချက်များကို လမ်းညွှန်ပေးခဲ့ကြပေသည်။

ပါထိကဝဂ်၊ အဋ္ဌကထာ၊ အာဋာနာဋိယသုတ်အဖွင့်တွင် ကျမ်းပြု

ဆရာက ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်သော ပုဂ္ဂိုလ်တို့အနေနှင့်-

*(၁) အနက်သဒ္ဒါကို သုတ်သင်၍ ကောင်းစွာ သင်ယူထားခြင်း၊*

*(၂) ပုဒ်၊ ဗျည်းတို့ကို မယုတ်လျော့စေရဘဲ ပြည့်စုံစွာ သေချာ ကျက်မှတ်ထားခြင်း၊*

*(၃) လာဘ်လာဘကို မငဲ့ကွက်ဘဲ မေတ္တာရှေ့ထား၍ ရွတ်ဖတ် သရဇ္ဈာယ်ခြင်းဟူသည့် အင်္ဂါရပ်များနှင့် ပြည့်စုံရန် လိုအပ် ကြောင်း* ရေးသား ဖော်ပြသွားခဲ့ပေသည်။

ဤတွင် သတိပြုရန်မှာ ဗုဒ္ဓဘာသာဝင်တစ်ဦး ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်ရာတွင် လိုက်နာအပ်သောအင်္ဂါရပ်များသည် အခြား သာသနာမှမန္တန်ဆရာများ လိုက်နာလေ့ရှိသောအင်္ဂါရပ်များနှင့် လုံးဝ ခြားနားခြင်းပင်ဖြစ်သည်။

ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်သူသာမက အခြား မည်သည့်ပုဂ္ဂိုလ်မဆို မိမိနှုတ်ဖျားမှထွက်လာသည့် စကားလုံးတိုင်း၊ စကား လုံးတိုင်း၏ အနက်အဓိပ္ပာယ်နှင့် ခရီးတာသွားမှုကို ကောင်းစွာသိရှိ နားလည်ကြရမည်သာ ဖြစ်သည်။ မိမိပြောသောစကားကိုပင် မိမိနားမလည် သူကို လူတန်းစေ့ကျပ်ပြည့်သူဟု သတ်မှတ်ရန် ခဲယဉ်းလှပေသည်။ သို့သော် ယခုအခါ၌ကား အချို့သောဂန္ဓာရီဆရာ၊ မှော်ဆရာယောင်ယောင်၊ ပယောဂ ဆရာယောင်ယောင် ပုဂ္ဂိုလ်များသည် မိမိနှုတ်ကရွတ်ဆိုနေသည်များကို မိမိ ကိုယ်တိုင်ပင်နားမလည်ဘဲ အဓိပ္ပာယ်မဲ့စွာ လူအထင်ကြီးခံလိုစိတ်ဖြင့် ရွတ်ဆို နေတတ်ကြသည်။

မိမိပြုနေသော ကာယကံအမှု၊ ဝစီကံအမှု၊ မနောကံအမှုတို့၏ အဓိပ္ပာယ်ကိုမျှ မိမိနားမလည်ဘဲပြုနေသူအား လူဟုပင်ခေါ်ရန်ခက်လှ ပေရာ ယင်းသို့အဓိပ္ပာယ်မဲ့သည့် အပြုအမူမျိုးကို ဗုဒ္ဓဝါဒက မည်သည့် အခါကမျှ အားပေးခဲ့ခြင်းမရှိပါပေ။

ယင်းအချက်ကို ပိုမိုထင်ရှားစေစိမ့်ငှာ ဗုဒ္ဓဝါဒီတို့၏ ပရိတ် တရားတော်ရွတ်ဖတ်မှုကို သာသနာပ ဗြာဟ္မဏပုဏ္ဏားတို့၏ ဝေဒမန္တန် သင်ယူရွတ်ဖတ်မှုနှင့် နှိုင်းယှဉ်ဖော်ပြပါဦးမည်။

ရှေးအခါက ဗြာဟ္မဏပုဏ္ဏားတို့၏ ဝေဒမန္တန်သင်ကြားမှုသည် အနက်အဓိပ္ပာယ် နားလည်စရာမလိုဘဲ နှုတ်မှအာဂုံဆောင် ရွတ်ဖတ်နိုင်ရေး သာလျှင် အဓိကဖြစ်သည်။ ဗြာဟ္မဏတို့ ရွတ်ဖတ်သောမန္တန်များကို နာယူသူ တို့မှာလည်း အနက်အဓိပ္ပာယ်အား သိနားလည်စရာမလိုချေ။ မန္တန်ပါ

စကားလုံးတိုင်းသည် ဖန်ဆင်းရှင်မဟာဗြဟ္မာကြီးက စကြဝဠာမဟာ တံတိုင်းတွင် ရေးထိုးထားခြင်းဖြစ်ပြီး သိဒ္ဓိရှင် ရသေ့ရှစ်သောင်း ဆရာအပေါင်းက ကူးယူထားခဲ့ခြင်းသာဖြစ်သည်ဟု ယုံကြည်ကြသည်။ ထို့ကြောင့် မန္တန်ပါ စကားလုံးတိုင်းသည် ဖန်ဆင်းရှင် မဟာဗြဟ္မာကြီးနှင့်သာ သက်ဆိုင်သည် ဖြစ်ရာ ရွတ်ဆိုနေသောမန္တန်တို့ကို ဗြဟ္မာကြီးကကြားသိပြီး ၎င်းတို့အပေါ် ကောင်းချီးမင်္ဂလာ ပေးရေးသာလျှင် အဓိကလိုရင်းဖြစ်ပေသည်။

ယခုခေတ်တိုင်အောင် ဗြာဟ္မဏဘာသာဝင် အတော်များများမှာ မိမိတို့ရွတ်ဖတ် နာယူနေသည့် ဝေဒမန္တန်ပါဝေါဟာရများ၏ အနက်အဓိပ္ပာယ်ကို နားလည်းမလည်၊ နားလည်အောင် ကြိုးပမ်းရကောင်းမှန်းလည်းမသိကြချေ။ ယင်းအချက်တွင် မိရိုးဖလာဗုဒ္ဓဘာသာဝင် အတော်များများနှင့် အတန်ပင်တူညီသည်ကို တွေ့ရှိနိုင်ပေသည်။

မည်သည့်ဘာသာစာပေမဆို အနက်အဓိပ္ပာယ်မသိဘဲ အာဂုံဆောင်ခြင်းသည် အချိန်ကာလ ကြာညောင်းလာသည့်နှင့်အမျှ အပြောင်းအလဲ အယိုအဖိတ်များစွာ ရှိလာနိုင်သည့်အပြင် ချဲ့ကားဖြည့်စွက်မှုများပါ တိုးပွားလာနိုင်ပေသည်။ ထို့ကြောင့် အနက်သဒ္ဒါကို ကောင်းစွာသင်ယူခြင်းနှင့် ပုဒ်၊ ဗျည်းတို့ကို မယုတ်မလျော့စေဘဲ ပြည့်စုံစွာ လေ့လာကျက်မှတ်ခြင်းတို့သည် လုံးဝဆက်နွယ်နေပေသည်။ ဗုဒ္ဓဘာသာတွင်ပင် ယင်းသို့ကာလကြာရှည် အာဂုံဆောင်ခဲ့ကြရသည်ဖြစ်ရာ နှစ်ကာလကြာညောင်းလာသည့်အလျောက် ပြင်ဆင်ဖြည့်စွက်ချဲ့ကားမှုများ ပိဋကတ်တော်အတွင်း ဝင်ရောက်လာခဲ့ပေသည်။ သို့ကြောင့်ပင် အနက်သဒ္ဒါကို ကောင်းစွာသင်ယူတတ်မြောက်သော သာသနာ့ပညာရှင်များ၏အကူအပံ့ဖြင့် သုတ်သင်တည်းဖြတ်ကာ သင်္ဂါယနာတင်ခဲ့ရသည်မှာ အထင်အရှားပင်ဖြစ်တော့သည်။

ရှေးအခါကဆိုလျှင် ဗြာဟ္မဏပုဏ္ဏားတစ်ဦး ဝေဒမန္တန်သင်ယူနေသည်ကို ဇာတ်မြင့်မဟုတ်သည့် အောက်တန်းလွှာမှ ဗြာဟ္မဏဘာသာဝင် ဇတ်နိမ့်သူစဏ္ဍာလတစ်ဦးက နားထောင်မိပါက ကြီးလေးသောဘာသာရေးပြစ်မှုကြီးကို ကျူးလွန်ခြင်းပင်ဖြစ်တော့သည်။

ဝေဒမန္တန်သင်ကြားခြင်း၊ ရွတ်ဖတ်သရဇ္ဈာယ်ခြင်းအလုပ်များ သည် ဗြာဟ္မဏဘာသာဝင်ချင်းတူစေကာမူ ဗြဟ္မာကြီးခံတွင်းမှ ပေါက်ဖွားလာသည်ဟု သူတို့ကိုယ်ကိုအမွှမ်းတင်ကာ လူတန်းစားခွဲခြားထားသည့် ဗြာဟ္မဏပုဏ္ဏားတို့၏ အလုပ်သာဖြစ်သည်။ သို့ဖြစ်ရာ ဝေဒမန္တန်သင်ကြားမှုကို ခိုးယူနားထောင်သူ အောက်တန်းစားတစ်ဦးအား ဖမ်းမိသွား

ပါက နားထဲသို့ သံရည်ပူလောင်းထည့်၍ပင် အပြစ်ပေးခဲ့ကြသည်။ ယင်းသို့ လုပ်ဆောင်ကြခြင်းမှာ အကြောင်းမဲ့မဟုတ်ချေ။ မျက်မှောက်ခေတ်၌ ဝေဒကျမ်းဂန်များသည် ကမ္ဘာ့စာပေနှင့်သမိုင်း သုတေသီတို့အတွက် လေ့လာစရာမှတ်တမ်းကြီး ဖြစ်နေသော်လည်း ရှေးအခါကမူ ပြာဟ္မဏတို့၏ အသက်မွေးရာ ထမင်းအိုးကြီးများ ဖြစ်နေသောကြောင့်ပင် ဖြစ်ပေသည်။

ဝေဒကျမ်းဂန်လာမန္တန်များ ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ ယဇ်နတ်ပူဇော်ပေးခြင်း စသည့်အလုပ်များကို ပြာဟ္မဏပုဏ္ဏားတို့ကသာ မူပိုင်ယူ၍ လုပ်ကိုင် စားသောက်နေခြင်းဖြစ်ရာ သူတို့၏မန္တန်များကို အခြားလူ့အလွှာမှ ပုဂ္ဂိုလ်များသာ တတ်သိနားလည်သွားပါက ၎င်းတို့အားပင့်ဖိတ်ပူဇော်ခြင်း မပြုတော့မှာကို စိုးရိမ်၍ဖြစ်ပေသည်။

လာဘ်လာဘ ဆိတ်သုဉ်းသွားမည်ကို ကြောင့်ကြသဖြင့် ဤဝေဒမန္တန်များသည် ပြာဟ္မဏပုဏ္ဏားတို့အတွက်သာ မဟာပြဟ္မာကြီးက ရေးထိုးသွားခဲ့ခြင်းဖြစ်ပြီး အခြားလူ့အလွှာများနှင့် မထိုက်တန်ဟု ဝါဒဖြန့်ခဲ့ကြသည်။ တစ်နည်းအားဖြင့် ပြာဟ္မဏပုဏ္ဏားတို့သည် ၎င်းတို့၏ထမင်းအိုးကို ထိန်းသိမ်းကာကွယ်ခဲ့ကြခြင်းပင်ဖြစ်သည်။ အနီးစပ်ဆုံး ဥပမာပြုရလျှင် ယင်းပြာဟ္မဏပုဏ္ဏားများသည် ယခုခေတ် မိရိုးဖလာဗုဒ္ဓဘာသာဝင်များအကြား ရေပန်းစားနေသည့် ဘုရားကိုးဆူဆရာများ၊ ဦးရှင်ကြီးနတ်တင်ဆရာများ၊ ကန္တားစီးများကဲ့သို့ပင် ဖြစ်တော့သည်။

ဗုဒ္ဓသာသနာတော်မှ ပရိတ်တရား ရွတ်ဖတ်သရဇ္ဈာယ်ခြင်းကား နာယူသူတို့ထံမှ ပူဇော်ပေးကမ်းစွန့်ကြလာမည့် လာဘ်လာဘ၊ အထင်ကြီးလေးစားမှုနှင့် မိမိအား သိဒ္ဓိရှင်တစ်ဦးသဖွယ် ကိုးကွယ်မှုတို့အပေါ် မျှော်ကိုး၍ မပြုစကောင်းပေ။ ပရိတ်ရွတ်သူအနေနှင့် ပရိတ်တရားနာယူသူအတွက် တစ်စုံတစ်ယောက်သော တန်ခိုးရှင်ထံပါး ဝတ်ပြုဆုတောင်းပေးနေခြင်းလည်း မဟုတ်ချေ။

စစ်မှန်သော ထေရဝါဒဗုဒ္ဓသာသနာရှုထောင့်မှ ကြည့်မည်ဆိုလျှင် ပရိတ်ရွတ်သူသည် ပရိတ်နာသူအား ဗုဒ္ဓမြတ်စွာ၏ ဩဝါဒအဆုံးအမ လမ်းညွှန်ဒေသနာများကို မေတ္တာဖြင့်သင်ကြားပေးခြင်းသာ ဖြစ်ပေသည်။ ဂါထာတစ်ပိုဒ် မန်းလိုက်၊ မှုတ်လိုက်၊ ဟိန်းလိုက်၊ ဟောက်လိုက်ရုံမျှဖြင့် ဘာဖြစ်စေသတည်း၊ ညာဖြစ်စေသတည်းဆိုသည့် မန္တန်မျိုးမဟုတ်ပေ။ နာယူသူ၏ကိုယ်ပိုင်ဉာဏ်နှင့် လုံ့လစိုက်ထုတ်တွေးခေါ်နိုင်စွမ်းအပေါ် မူတည်၍ ဘဝခရီးလမ်းညွှန်အဖြစ် လိုက်နာအပ်သည့် ဗုဒ္ဓမြတ်စွာ၏

အဆုံးအမ ဒေသနာများသာဖြစ်သည်။

သို့ဖြစ်ရာ ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်သူတို့အနေနှင့် ဌာန်ကရိုဏ်းကျကျ ရွတ်ဆိုပေးလိုက်ရုံနှင့် တာဝန်ကျေပြီဟု မယူဆသင့်ပေ။ မိမိရွတ်ဖတ်သရဇ္ဈာယ်လိုက်သည့် ပရိတ်တရားတော်တို့၏ အနက်အဓိပ္ပာယ်ကိုပါ နာယူသူတို့ နားလည်သဘောပေါက်အောင် ရှင်းလင်းဖွင့်ဆိုပြသင့်ပေသည်။ ပရိတ်ကြီး (၁၁) သုတ် ကုန်အောင်ရွတ်ပြီး ပြန်သွားခြင်းထက် ပရိတ်တော် တစ်သုတ်မျှကိုပင်ဖြစ်စေ ရွတ်ဖတ်သရဇ္ဈာယ် ပြီးသည့်နောက် နာယူသူတို့အား ဤတရားတော်၏ အနက်အဓိပ္ပာယ် ဆိုလိုရင်းနှင့် လက်တွေ့ဘဝတွင် အကျိုးရှိအောင် မည်သို့မည်ပုံ လိုက်နာအပ်သည်တို့ကို သွန်သင် ညွှန်ပြသင့်ပေသည်။

ပရိတ်တရားတော် ရွတ်ဖတ်သရဇ္ဈာယ်သူများ၌ ရှိအပ်သော အင်္ဂါရပ်များကို ဖော်ပြခဲ့ပြီးသည့်နောက် နာယူသူတို့တွင် ရှိသင့်သည့် အင်္ဂါရပ်များကိုလည်း ဆက်လက်အကြံပြု ဆွေးနွေးသွားပါဦးမည်။

ပရိတ်တရားတော်များ ရွတ်ဖတ်သရဇ္ဈာယ်ခြင်း၊ နာယူခြင်းတို့ ပြုကြရာတွင် ရွတ်ဖတ်သရဇ္ဈာယ်သူက မည်မျှပင်အားထုတ်သမှုပြုစေ ကာမူ နာယူသူဘက်ကနည်းလမ်းမကျပါက ရသင့်ရထိုက်သောအကျိုး ကျေးဇူးကို အပြည့်အဝခံစားကြရလိမ့်မည် မဟုတ်ပေ။ နာယူသူတို့ ဘက်ကလည်း ထိုက်တန်သောအားထုတ်မှုဖြင့် ပေးဆပ်မှသာ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူခဲ့သည့် တရားဒေသနာတော်တို့၏ အဆီအနှစ်ကို ရရှိနိုင်ပေလိမ့်မည်။

ပရိတ်တရားတော်ဟူသည် သာသနာပမန္တန်ဆရာတို့က ၎င်းတို့၏ ထင်ပေါ်ကျော်စောလိုမှု၊ လာဘ်လာဘပေါ်များလိုမှုကို ရည်မျှော်၍ အသုံးပြုသော ပျောက်စေမန္တန်မျိုး မဟုတ်သည့်အလျောက် ရွတ်ဖတ်သူကိုချည်း အားကိုးနေရုံဖြင့် အကျိုးထူးလိမ့်မည်ဟု မမျှော်လင့်အပ်ပေ။

ထေရဝါဒဗုဒ္ဓဘာသာဝင်များအနေနှင့် အထူးသိသင့်သည်မှာ ထေရဝါဒပိဋကတ်တော်လာ ဘုရားဟောဒေသနာတော်များဖြင့် စုစည်းသီကုံးထားသော ပရိတ်တရားတော်တို့သည် မိမိမှတစ်ပါးအခြားအခြား သော ပရလောကမှ သဘာဝလွန်ဖန်ဆင်းရှင်၊ တန်ခိုးရှင်တစ်စုံတစ်ဦး၏ ကယ်တင်စောင်မ ကောင်းချီးမင်္ဂလာပေးမှုကို တောင်းခံပန်ကြား အသနားခံသော ဂါထာမန္တန်များမဟုတ်ခြင်းပင် ဖြစ်သည်။

— — ~~ဗုဒ္ဓမြတ်စွာ ကိုယ်တော်တိုင်က မိမိသည် ဖန်ဆင်းရှင် ကယ်တင်ရှင်~~

မဟုတ်၊ သစ္စာတရားကိုသိမြင်ပြီး မိမိသိသလိုသိမြင်အောင် လမ်းညွှန်ပေးသူသာ ဖြစ်သည်ဟု အတိအလင်း မြွက်ကြားခဲ့ပြီး ဖြစ်သည်။ ထို့အပြင် လောကတွင် အစဉ်ထာဝရ တည်မြဲအစိုးရနေသောအရာဟူ၍ မြူမျှမရှိဟု ဟောကြားခဲ့သဖြင့် လောကကိုအစဉ်စောင့်ရှောက် ကယ်တင်စောင်မနိုင်သည့် ပုဂ္ဂိုလ်ဟူ၍လည်းမရှိနိုင်ချေ။ သို့ဖြစ်ရာ မိမိမှတစ်ပါးအခြားတွင် ကယ်တင်ရှင်ရှာဖွေခြင်း၊ မျှော်ကိုးတမ်းတခြင်းသည် ဗုဒ္ဓဘာသာဝင်များ၏ အလုပ်မဟုတ်ပေ။ ထို့ကြောင့်-

ပရိတ်တရားတော်တို့၏အကျိုးကို အမှန်တကယ်ခံစားလိုသူ ဗုဒ္ဓဘာသာဝင်များအနေနှင့် မိမိ၌ သီလ၊ သမာဓိ၊ ပညာ တည်းဟူသော ဝမ်းစာတရားများပြည့်ဝစေရန် အားထုတ်ကြရပေလိမ့်မည်။ သီလ၊ သမာဓိ၊ ပညာနှင့်ပြည့်စုံအောင် အားထုတ်လိုသည့်ဆန္ဒပင်မရှိသော ပုဂ္ဂိုလ်များအတွက်ကား ပရိတ်တရားတော်နာယူခြင်းသည် အချည်းနှီးသာဖြစ်ပေလိမ့်မည်။ ယင်းအချက်ကို ကောင်းစွာသဘောပေါက်သော မိလိန္ဒပဥှာကျမ်းပြုဆရာက ပရိတ်တရားတော် နာယူသူများအနေနှင့်-

(၁) ပဥ္စာနန္တရိယကံမရှိခြင်း၊

(၂) နိယတမိစ္ဆာဒိဋ္ဌိမဟုတ်ခြင်း၊

(၃) ပရိတ်တန်ခိုးကိုယုံကြည်ခြင်းဆိုသည့် အင်္ဂါရပ်များနှင့် ပြည့်စုံမှသာ ပရိတ်တရားတော်တို့ အစွမ်းထက်မည်ဖြစ်ကြောင်း ရေးသားသွားခဲ့သည်။

ထို့အပြင် "ပရိတ်အရံအတားဟူသည် အသက်ရှင်နိုင်ခွင့် ရှိသေးသော၊ အရွယ်ကောင်းသော၊ ကံကြီးငါးပါးမှ ကင်းလွတ်ကုန်သောသူတို့အတွက်သာ ဖြစ်သည်။ အသက်ရှင်နိုင်ခွင့် ကုန်သောသူအား ပရိတ်ရွတ်ဖတ်ပေးခြင်းဖြင့် အသက်ဆက်ရန် မစွမ်းနိုင်ချေ" ဟူ၍ အတိအလင်းရေးသားဖော်ပြထားသည်ကိုလည်း တွေ့ရှိနိုင်ပေသည်။

ဤနေရာတွင် မိလိန္ဒပဥှာကျမ်းပြုဆရာ ရည်ညွှန်းသော ပရိတ်နာသူတို့၌ ရှိသင့်သည့်အင်္ဂါသုံးရပ်ကို အနည်းငယ်ဖွင့်ဆိုလိုပေသည်။ ပထမအင်္ဂါရပ်ဖြစ်သည့် **ပဥ္စာနန္တရိယကံမရှိခြင်း** ဆိုသည့်အချက်မှာ ပရိတ်နာသူ၏ ကိုယ်ကျင့်သီလပြည့်စုံမှု အတိုင်းအတာကို ဆိုလိုရင်းဖြစ်သည်။ ပဥ္စာနန္တရိယကံဆိုသည်မှာ **(၁) အမိကိုသတ်ခြင်း၊ (၂) အဖကိုသတ်ခြင်း၊ (၃) ရဟန္တာကိုသတ်ခြင်း၊ (၄) ဗုဒ္ဓမြတ်စွာကို သွေးထွက်သံယို ဖြစ်အောင် ပြုခြင်း** (ဤနေရာတွင် သတိပြုရန်မှာ သံဃာကိုသွေးထွက်သံယို ဖြစ်အောင်

ပြုခြင်းသည်လည်း ဗုဒ္ဓကို သွေးထွက်သံယို ဖြစ်အောင်ပြုခြင်းနှင့် ထပ်တူဖြစ်သည်ဆိုခြင်းပင်ဖြစ်သည်။ ယခုခေတ်၌ ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှား မရှိတော့ပြီဖြစ်ရာ ဤကံမျိုးကျူးလွန်စရာ ရှိပါဦးအံ့လောဟု ဆင်ခြေတက်လိုသူများ စဉ်းစားနိုင်ရန်ဖြစ်သည်)၊ **(၅) သံဃာကိုသင်းကွဲအောင်ပြုမှုခြင်း** တို့ပင်ဖြစ်ပါသည်။ သီလမရှိသူများအား ပရိတ်အကျိုး မခံစားနိုင်ဟု ဖော်ပြခဲ့ခြင်းပင်ဖြစ်ပေရာ သာသနာပ တန္တရ၊ မန္တရဂိုဏ်း ဆရာတို့အလို အားဖြင့် ရွတ်ဖတ်ရုံနှင့် ပဥ္စာနန္တရိယကံကြီးမှလွတ်ကင်း နိုင်သည်ဟုဆိုသော မန္တန်တို့နှင့်ကား ထေရဝါဒဗုဒ္ဓဘာသာဝင်တို့၏ ပရိတ်တရားတော်တို့သည် ပြဒါးတစ်လမ်း၊ သံတစ်လမ်းပမာ ခြားနားလှကြောင်း ထင်ရှားပေတော့သည်။ လောက၌ သီလမဲ့သူသည် သမာဓိမရှိနိုင်ချေ။ သမာဓိကင်းသူသည် ပညာမဲ့မည်သာ ဖြစ်တော့သည်။ ထိုပညာမဲ့သူတို့ကြောင့် ၄င်းတို့ကိုယ်တိုင်ရော ပတ်ဝန်းကျင်ပါ အန္တရာယ်ကြီးမားလှပေသည်။ ထို့ကြောင့် သီလမဲ့သူ၊ သီလနှင့် ပြည့်စုံအောင်လည်း အားထုတ်ရန်ဆန္ဒမရှိသူတို့အဖို့ ပရိတ်တရားတော်သည် အချည်းနှီးပင်ဖြစ်တော့သည်။

***နိယတမိစ္ဆာဒိဋ္ဌိမဟုတ်ခြင်း*** ဆိုသည်မှာ ပညာနှင့်ပြည့်စုံရန် လိုအပ်ခြင်းကို ရည်ညွှန်းပေသည်။ လောက၌ အချို့သောပုဂ္ဂိုလ်တို့သည် ကုသိုလ်ကံ၊ အကုသိုလ်ကံတို့ကို ယုံကြည်မှုမရှိကြချေ။ လူနပ်ချမ်းသာ ဆိုသောစကားသည် သူတို့၏နှလုံးသား၌ ထာဝစဉ်ချိတ်ဆွဲထားသော ဆောင်ပုဒ်ဖြစ်သည်။ လောက၌ လျှင်သူစားစတမ်း တောရိုင်းဝါဒကိုသာ ယုံကြည်သည်။ မိမိတို့ပြုခဲ့သော ကုသိုလ်၊ အကုသိုလ်ကံတို့သည် မိမိဘဝတစ်သက်တာခရီးဝယ် တစ်နေ့နေ့တစ်ချိန်ချိန်၌ ပြန်လည်အကျိုးပေး လိမ့်မည်ဟု မယုံကြည်ပေ။ **နတ္ထိကဒိဋ္ဌိ** အယူ စွဲလမ်းနေသူများပင် ဖြစ်သည်။

အချို့ကမူ လောက၌အရာရာသည် ကြောင်းကျိုးဆက်စပ်ဖြစ်ပေါ်နေကြောင်း မယုံကြည်ချေ။ အရာရာကို ဓမ္မဓိဋ္ဌာန်ကျကျ တွေးခေါ်ဆင်ခြင်ရန် အားမထုတ်လိုတော့ဘဲ 'အကြောင်းတရား' မဲ့စွာ 'အကျိုးတရား' ဖြစ်နိုင်သည်ဟု လက်ခံထားကြသည်။ ကြောင်းကျိုးဆက်စပ် တွေးခေါ်မှုကို ပစ်ပယ်ကာ လွယ်လွယ်တွေး၊ လွယ်လွယ်ပြော၊ လွယ်လွယ်ယုံ၊ လွယ်လွယ်လုပ်လိုသူများသာဖြစ်ရာ ၄င်းတို့မှာ **အဟေတုကဒိဋ္ဌိ** အယူ စွဲလမ်းနေသူများပင်ဖြစ်သည်။

အချို့ကလည်း မိမိတို့ပစ္စုပ္ပန်၌ ခံစားနေရသော ကောင်းကျိုးဆိုးပြစ်တို့သည် မိမိတို့အတိတ်က တွေးခေါ်၊ ပြောဆို၊ ကျင့်ကြံအားထုတ်ခဲ့မှု

တို့၏ အကျိုးရလဒ်ဖြစ်သည်ဆိုခြင်းကို လက်မခံလိုကြပေ။ ထို့ကြောင့် မိမိအနာဂတ် ကောင်းကျိုးအတွက် ယခုပစ္စုပ္ပန်၌ ကောင်းသောအတွေး၊ ကောင်းသောအပြောအဆို၊ ကောင်းသောအကျင့်အကြံတို့ဖြင့် အားထုတ်လုပ်ဆောင်ရန် လိုအပ်သည်ဆိုခြင်းကိုလည်း မယုံကြည်ချေ၊ အနာဂတ်ကံကြမ္မာသည် ပစ္စုပ္ပန်လုပ်ဆောင်မှုအပေါ် အခြေတည်သည်ဆိုခြင်းကို လက်မခံလိုသည့်အလျောက် သတ္တဝါတို့အနေနှင့် ကောင်းမှုပြုလည်း ကောင်းကျိုးမဖြစ်၊ မကောင်းမှုပြုလည်း မကောင်းကျိုးမဖြစ်ဟုသာ လက်ခံထားရကား ထိုသူတို့ကို **အကိရိယဒိဋ္ဌိ** အယူ စွဲလမ်းသူများဟု သတ်မှတ်နိုင်သည်။

အထက်ကဖော်ပြခဲ့သည့် နတ္ထိကဒိဋ္ဌိဖြစ်စေ၊ အဟေတုကဒိဋ္ဌိဖြစ်စေ၊ အကိရိယဒိဋ္ဌိဖြစ်စေ ဒိဋ္ဌိတစ်မျိုးမျိုးစွဲကပ်နေသူအား နိယတမိစ္ဆာဒိဋ္ဌိ အယူရှိသူဟု ခေါ်ဆိုနိုင်ပေသည်။ ပရိတ်တရားတော်တို့မှာ ကောင်းသောအပြုအမူသည် ကောင်းကျိုးချမ်းသာ၏ အရင်းမူလဖြစ်ပြီး မကောင်းသောအပြုအမူသည် မကောင်းကျိုးဆိုးပြစ်၏ အရင်းမူလသာဖြစ်သည်ဆိုသော 'မှု' အပေါ်အခြေခံသည့် ဗုဒ္ဓမြတ်စွာ၏ ဒေသနာတော်များသာ ဖြစ်သည်။ သို့ဖြစ်ရာ နိယတမိစ္ဆာဒိဋ္ဌိတည်းဟူသော ပညာဉာဏ်ကင်းမဲ့သူတို့၏ အယူကို စွဲလမ်းနေသရွေ့ ယင်းပုဂ္ဂိုလ်မျိုးသည် ပရိတ်တရားတော်၏အကျိုးကို ခံစားနိုင်ဖွယ်ရာ အကြောင်းမရှိပါချေ။

***ပရိတ်တန်ခိုးကို ယုံကြည်ခြင်း*** ဆိုသည်ကား ဤမည်သော ပရိတ်ကို ရွတ်ဖတ်ခြင်း၊ နာယူခြင်းပြုရုံမျှဖြင့် တစ်စုံတစ်ယောက်သော ကယ်တင်ရှင်က ကောင်းချီးမင်္ဂလာ ပေးအပ်လာလိမ့်မည်ဟုမှတ်ယူရန် ဆိုလိုခြင်းမဟုတ်ချေ။ အချို့သောမန္တန်ဆရာတို့ ယူဆသကဲ့သို့ ပရိတ်ရွတ်သူ၏အသံလှိုင်းတွင် တန်ခိုးသတ္တိများရှိပေရာ ယင်းတို့၏ စွမ်းပကားကြောင့် နာယူသူတို့၌ ချက်ချင်းလက်ငင်း အပြောင်းအလဲ ဖြစ်ပေါ်လာလိမ့်မည်ဟု ယုံကြည်ရန်လည်း မဟုတ်ပေ။

ယင်းသို့ ကြောင်းကျိုးကင်းမဲ့သော ယုံကြည်မှုမျိုးဖြင့် ယုံကြည်ပါက ပရိတ်အကျိုးမခံစားရသည့်အပြင် ကြောင်းကျိုးဆက်စပ်လက်ခံမှုကို ပစ်ပယ်ရာရောက်သည့်အတွက် အဟေတုကဒိဋ္ဌိပင် ဖြစ်နိုင်ပေသေးသည်။ ထို့ကြောင့် ပရိတ်ရွတ်သံကို ကက်ဆက်ခွေဖွင့်ထားရုံဖြင့် မင်္ဂလာရှိမည်၊ လာဘ်ရွှင်မည်၊ ဈေးရောင်းကောင်းမည်ဟု လွဲမှားစွာယုံကြည်နေသူများ သည် နိယတမိစ္ဆာဒိဋ္ဌိဝါဒီများပင် ဖြစ်ပေသည်။ နေ့စဉ်ဝတ်မပျက် ပရိတ်ရွတ်၊

ပရိတ်ကက်ဆက်ခွေဖွင့်နေကြသော်လည်း ပရိတ်၏အနက်အဓိပ္ပာယ်ကို မသိ၊ သိအောင်လည်း အားမထုတ်သူတို့မှာကား ပရိတ်တရားတော်၏ အကျိုးကို ခံစားရဖွယ်ရာ အကြောင်းမမြင်ပေ။

တိဗက်ပြည်ရှိ တန္တရဗုဒ္ဓဘာသာဝင်များသည် သူတို့၏ ထာဝရဗုဒ္ဓ ဘုရားသခင်၏သားတော် ကယ်တင်ရှင် အဝလောကိတေဿရအား ရှိခိုးသော 'ဥံမဏိပဒ္မေဟုံ' ဆိုသည့်မန္တန်ကို လေရဟတ်၊ ရေရဟတ်များတွင် ရေးသား တပ်ဆင်ထားတတ်ကြသည်။ ယင်းရဟတ်များ ခေါက်ရေများများ လည်ပတ်လေ ကုသိုလ်များများရလေဟု အကြောင်းအကျိုးမဲ့စွာ ယုံကြည် ကြပေရာ ယခုအခါမြန်မာနိုင်ငံ၌ ပရိတ်တရားတော်အသံ ကက်ဆက်ခွေ ဖွင့်ထားပြီး လုပ်ချင်ရာလုပ်နေသူတို့နှင့် ဘာမျှမထူးကြောင်း သတိပြုအပ် ပေသည်။

ဤသို့ဆိုလျှင် ပရိတ်တန်ခိုးကို ယုံကြည်ခြင်းဆိုသည်မှာ အဘယ် သို့သော ယုံကြည်မှုမျိုးဖြစ်ပါသနည်းဟု မေးဖွယ်ရာရှိပါသည်။ ထေရဝါဒ ဗုဒ္ဓဘာသာတွင်ရှိသော ယုံကြည်မှုသည် ဉာဏ်ပညာနှင့်ယှဉ်သော ယုံကြည်မှုမျိုးသာလျှင် ဖြစ်သည်။ ဉာဏ်ပညာနှင့်မယှဉ်သည့် အကန်း ယုံကြည်မှုမျိုးကို ဗုဒ္ဓမြတ်စွာက မည်သည့်အခါကမျှ အားပေးအားမြှောက် မပြုခဲ့ချေ။ ထို့ကြောင့် ပရိတ်တန်ခိုးကို ယုံကြည်သည်ဆိုရာ၌ ဦးစွာပထမ ယင်းပရိတ်တရားတော်တို့၏ အနှစ်သာရကို ဟောကြားတော်မူခဲ့သည့် ဗုဒ္ဓမြတ်စွာကို ယုံကြည်ရန်လိုအပ်ပေသည်။

ဗုဒ္ဓကိုယုံကြည်သူသည် ဓမ္မကိုယုံကြည်သူပင် ဖြစ်သည်။ ဓမ္မကို မယုံကြည်ဘဲ ဗုဒ္ဓကိုယုံပါသည်ဟု ပြောဆိုသူကား ရှေ့စကား၊ နောက်စကား မညီသူ အဓမ္မသမားသာ ဖြစ်ပေလိမ့်မည်။ ဓမ္မကိုယုံကြည်သူမှန်ပါက ဓမ္မကို စောင့်ထိန်းကြစမြဲ၊ ဓမ္မနှင့်အညီ ကြံစည်ပြောဆို လိုက်နာကျင့်ကြံကြစမြဲပင် ဖြစ်သည်။

ထို့ကြောင့် ပရိတ်တန်ခိုးကို ယုံကြည်ခြင်းဆိုသည်မှာ ဗုဒ္ဓမြတ်စွာ ထုတ်ဖော်ဟောကြားခဲ့သော ဓမ္မဒေသနာတော်တို့ကို ယုံကြည်လက်ခံ လိုက်နာကျင့်သုံးခြင်းကို ဆိုလိုခြင်းပင်ဖြစ်သည်။ ဤမည်သော ပရိတ်တရား တော်ကိုနာယူလိုက်ရုံဖြင့် တစ်စုံတစ်ရာသောအကျိုးရလဒ်ကို ခံစားရလိမ့် မည်ဟု ယုံကြည်ခြင်းသည်ကား ဗုဒ္ဓအလိုတော်ကျ ယုံကြည်ခြင်း မမည်ပေ။ ယုံကြည်ခြင်းနှင့် လိုက်နာကျင့်သုံးခြင်းသည် အပြန်အလှန်ဆက်စပ်နေပေ သည်။ ပရိတ်တရားတော်လာ ဗုဒ္ဓမြတ်စွာ၏ အဆုံးအမဒေသနာတော်

များမှာပါရှိသော သီလ၊ သမာဓိ၊ ပညာပိုင်းဆိုင်ရာ ကျင့်စဉ်တို့ကို လိုက်နာကျင့်သုံးဖူးသူတိုင်း ဤအချက်ကို သဘောပေါက်ကြပါသည်။ ဗုဒ္ဓအဆုံးအမနှင့်အညီ လိုက်နာခြင်းဖြင့် အကျိုးကျေးဇူးခံစားကြရသလို အကျိုးကျေးဇူးခံစားရခြင်းအပေါ် မှီ၍ ဗုဒ္ဓမြတ်စွာ၏ဩဝါဒ ဒေသနာတော်များအား ယုံကြည်မှုသဒ္ဓါတရား တိုးပွားလာကြစမြဲဖြစ်သည်။

အချုပ်အားဖြင့်ဆိုရသော် ပရိတ်တရားတော်များ နာယူရခြင်း၏ အကျိုးကျေးဇူးကို အပြည့်အဝခံစားလိုကြကုန်သော ထေရဝါဒဗုဒ္ဓဘာသာဝင်သူတော်စင်တို့အနေဖြင့် ဦးစွာပထမ ပရိတ်တရားတော်တို့၏ ဆိုလိုရင်းအဓိပ္ပာယ်နှင့်အနှစ်သာရကို အမိအရနားလည်အောင် ကြိုးပမ်းအားထုတ်သင့်သည်။ နားလည် သဘောပေါက်သည့်အလျောက် မိမိဘဝတစ်သက်တာတွင် လိုက်နာခံယူ ကျင့်သုံးသင့်ပေသည်။

ယင်းသို့ လိုက်နာကျင့်သုံးသဖြင့် ရရှိခံစားလာရသော အကျိုးကျေးဇူးကို အကြောင်းပြု၍သာလျှင် ပရိတ်တရားတော်တို့၏ အစွမ်းအာနိသင်အစစ်အမှန်ကို သိရှိနားလည် ခံစားနိုင်ကြပေမည်။ အကယ်စင်စစ် ပရိတ်တရားတော်လာ ဗုဒ္ဓမြတ်စွာ၏ဓမ္မအစစ်အမှန်ကို လေ့လာစေ့ငုနိုင်မည်ဆိုပါက ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ ဟူသော သာသနာသုံးရပ် ပြုရာလည်းရောက်ပေလိမ့်မည်။

ပရိတ်တရားတော်တို့၏ အဓိပ္ပာယ်အနှစ်သာရကို လေ့လာစေ့ငုခြင်းသည် ပရိယတ္တိသာသနာပြုခြင်းမည်ပြီး တရားတော်ပါလမ်းညွှန်ချက်များနှင့်အညီ လိုက်နာကျင့်သုံးခြင်းသည် ပဋိပတ္တိသာသနာပြုခြင်းမည်ပါပေသည်။ ဤသို့လိုက်နာကျင့်သုံးမှု၏ ကောင်းကျိုးအာနိသင်ကို ခံစားရခြင်းသည်ကား ပဋိဝေဓသာသနာသို့ အရောက်လှမ်းနိုင်ခြင်းပင် ဖြစ်တော့ရာ ထေရဝါဒဗုဒ္ဓဘာသာဝင်များအနေနှင့် ပရိတ်တရားတော်များကို သာသနာပမန္တန်များကဲ့သို့ ပေါ့ပေါ့တန်တန် သဘောမထားသင့်ချေ။

ဤနေရာတွင် အလျဉ်းသင့်သဖြင့် သင်္ဂဇာဆရာတော်နှင့် မင်းတုန်းမင်းတို့ ပရိတ်တရားပွဲတွင် အချီအချပြောဆိုခဲ့ပုံကို တင်ပြလိုပါသည်။ ရတနာပုံနေပြည်တော် မန္တလေးမြို့တွင် မင်းတုန်းမင်းစိုးစံစဉ်က လေးပြင်လေးရပ်ရှိ ဆရာတော်များအား နန်းတော်သို့ပင့်ဖိတ်၍ မင်းတုန်းမင်းနှင့် တကွ နန်းတွင်းသူ၊ နန်းတွင်းသားများ ပရိတ်တရားတော်နာခဲ့ကြဖူးသည်။

ဤတွင် ဆရာတော်များပရိတ်ရွတ်အပြီးတွင် မင်းတုန်းမင်းက ပရိတ်အိုးကိုကြည့်ကာ- *'သီရိဓမ္မာသောကမင်းလက်ထက် အရှင်မဟာ*

မောဂ္ဂလိပုတ္တတိဿ ရဟန္တာအရှင်မြတ်တို့ ပရိတ်ရွတ်သောအခါ ပရိတ်ရေများ ဆူပွက်လာသည်ဟု မှတ်သားရဖူးပါသည်။ ယခု အရှင်ဘုရားတို့ ပရိတ်ရွတ်သောအခါ ပရိတ်အိုးများ ဆူပွက်ဖို့ဝေးစွ၊ လှုပ်ရှားမှုပင်မရှိ၊ တည်ငြိမ်သောသမာဓိနှင့် ရှိနေပါကလားဘုရား' ဟု လျှောက်တင်တော့သည်။

ဤသို့ မိရိုးဖလာဗုဒ္ဓဘာသာဝင်တို့၏ ယုံကြည်မှုအလျောက် ပရိတ်ရေမဆူပွက်သည်နှင့်ပင် ဆရာတော်များအား တရားမပြည့်စုံဟု ဆိုချင်သော မင်းကြီးအား အခြားဆရာတော်များက ခပ်မဆိတ်နေခဲ့သော်လည်း သင်္ဂဇာဆရာတော်ကမူ သူ့အရိုးနှင့်သူ့ထိုးဆိုသကဲ့သို့ မင်းကြီး၏ စကားကို ချေပနိုင်ခဲ့ပုံမှာ-

'သီရိဓမ္မာသောကမင်းကြီးသည် နဂါးတို့ကိုပင် အာဏာစက်ဖြင့် ခေါ်နိုင်သည်၊ ဘုန်းကြီးတို့ကား သူ့ဆရာ အရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်ကဲ့သို့ ရဟန္တာများမဟုတ်သဖြင့် ပရိတ်အိုးမပွက်သည်ကို သားလေဦး ရေခမြို့ရှင်ကိုယ်တိုင်ကပင် နဂါးကိုခေါ်ဖို့ဝေးစွ၊ ရေမြွေကလေး တစ်ကောင်မျှပင် လာအောင်မခေါ်နိုင်ပါသလျက်နှင့် ပရိတ်အိုးမပွက်သည်မှာ ဝမ်းနည်းစရာမရှိပေ' ဟူ၍ ဖြစ်သည်။

အမှန်ကား ပရိတ်အိုးပွက်ခြင်း၊ မပွက်ခြင်းဖြင့် သံဃာတော်တို့၏ သီလ၊ သမာဓိ၊ ပညာတို့ကို အကဲဖြတ်၍ မရစကောင်းသလို နဂါးတို့ကို အာဏာစက်နှင့်ခေါ်နိုင်ရုံမျှဖြင့် ရာဇဝင်တွင်မင်းကောင်းမင်းမြတ်ဟု သတ်မှတ်၍ မရနိုင်ပါပေ။

သို့သော် သင်္ဂဇာဆရာတော်၏ဆိုလိုရင်းကား 'ပရိတ်ဟူသည် ရွတ်ဖတ်သရဇ္ဈာယ်သူ၏ ကိုယ်ကျင့်သီလ၊ သမာဓိ၊ ပညာ ပြည့်စုံနေရုံဖြင့် နာယူသူတွင် အကျိုးထူးမည်မဟုတ်ဘဲ နာယူသူတို့၌လည်း မိမိတို့ကိုယ်တိုင် မိမိတို့ သီလ၊ သမာဓိ၊ ပညာ တည်းဟူသော ဝမ်းစာတရားတို့နှင့် ပြည့်စုံအောင်အားထုတ်မှသာ လိုရာဆန္ဒပြည့်ဝပေလိမ့်မည်' ဟူ၍သာဖြစ်ပါကြောင်း တင်ပြလိုက်ရပေသတည်း။ ။

(၇-၈-၉၃)

မေ့ရုံသီ၊ ၁၉၉၃ခုနှစ်၊ ဒီဇင်ဘာလနှင့် ၁၉၉၄ခုနှစ်၊ ဇန်နဝါရီလ။

# ပရိတ်သမိုင်းကို လေ့လာသော်

ပရိတ်တရားတော် ရွတ်ဖတ်သူများနှင့် နာယူသူများတွင် ရှိသင့်ရှိအပ်သော အင်္ဂါရပ်များကို ဆွေးနွေးပြီးသည့်နောက် ထေရဝါဒဗုဒ္ဓသာသနာတော်၌ ပရိတ်တရားတော်များ ရွတ်ဖတ်နာယူသည့် အလေ့အထစတင်လာခဲ့ပုံကို အနည်းငယ်တင်ပြလိုပါသည်။ ဤတွင် ရှေးအစဉ်အဆက်ပညာရှင်ကြီးများ မှတ်သားခဲ့သည်တို့ကို အကျဉ်းချုံးဖော်ပြသွားမည်ဖြစ်ရာစာရှုသူတို့အနေနှင့် ဗုဒ္ဓမြတ်စွာပေးအပ်တော်မူခဲ့သည့် ကေသမုတ္တိသုတ္တန်(ကာလာမသုတ်)လာ ဩဝါဒလမ်းညွှန် ဒေသနာတော်မှတ်ကျောက်ကိုလက်ကိုင်ပြု၍ ဝေဖန်သုံးသပ်သွားရန်သာ ဖြစ်ပါသည်။

သမားစဉ်ဆက် ယုံကြည်မှုအရ ယခုအခါပရိတ်ကြီး (၁၁) သုတ်အဖြစ်ထင်ရှားသော ပရိတ်တော်တို့အနက် အချို့ကိုအဆောင်လက်ဖွဲ့ သဖွယ်အသုံးပြုသည့်အလေ့မှာ ဗုဒ္ဓမပွင့်မီ ရာစုနှစ်ပေါင်းများစွာကပင် ရှိခဲ့ပေသည်။ ယင်းအချက်ကို လက်ခံထားသူတို့၏ အထောက်အထားမှာ ဂေါတမဗုဒ္ဓဘုရားရှင် ပွင့်တော်မမူမီ ဗောဓိသတ္တ (ဘုရားအလောင်း) ဘဝကဖြစ်တော်စဉ်များဟု မျက်မှောက်ခေတ် ဗုဒ္ဓဘာသာဝင်အများစု ယူဆထားသော **နိပါတ်တော်လာ ဇာတ်တော်ငါးရာ့ငါးဆယ်** ပင်ဖြစ်သည်။

**မောရသုတ်** ကို ဇာတ်အဋ္ဌကထာလာ မောရဇာတ်နှင့် မဟာမောရဇာတ်၊ **ခန္ဓသုတ်** ကို ဇာတ်အဋ္ဌကထာလာ ခန္ဓဇာတ်၊ **ဝဋ္ဋသုတ်** ကို စရိယာပိဋကတ်အဋ္ဌကထာနှင့် ဇာတ်အဋ္ဌကထာလာ ဝဋ္ဋဇာတ်တို့၌ ဗောဓိသတ္တတို့က ဘေးအန္တရာယ်တို့မှ အရံအတားသဖွယ်အသုံးပြုခဲ့ကြောင်း တွေ့ရှိရပေသည်။ ဗောဓိသတ္တ ဥဒေါင်းမင်းဘဝက မောရသုတ်ကို ရွတ်ဆိုခဲ့သဖြင့်မင်းခုနှစ်ဆက်တိုင်တိုင် မုဆိုးများ၏အန္တရာယ်မှ လွတ်ကင်းခဲ့ပုံ၊ ဗောဓိသတ္တရသေ့ကြီးဘဝက တပည့်ရသေ့များအား ခန္ဓသုတ်ကိုရွတ်ဆိုစေခဲ့သဖြင့်မြွေဆိုးတို့ရန်မှ ကင်းဝေးခဲ့ပုံ၊ ဗောဓိသတ္တ ငုံးငှက်ဘဝက ဝဋ္ဋသုတ်ကို ရွတ်ဆိုခဲ့သဖြင့် မီးဘေးမှလွတ်မြောက်ခဲ့ပုံအသီးသီးအား အဆိုပါဇာတ်၊ အဋ္ဌကထာဆရာများ၏ ရေးသားချက်များအရ သိရှိရပေသည်။ ဗုဒ္ဓမြတ်စွာ သက်တော်ထင်ရှားရှိစဉ်အခါတွင်လည်း ပရိတ်တရားတော်များကို ဘေးအန္တရာယ်ကာကွယ်ရန်အလို့ငှာ အသုံးပြုခဲ့ဖူးကြောင်း နှောင်းခေတ်အဋ္ဌကထာဆရာတို့၏ အာဘော်များအရ သိရှိနိုင်ပေသည်။

— — — — — — — — — — — — — — — — — — — — — —

ဝေသာလီပြည်တွင် ရောဂါဘေး၊ သားရဲဘေးနှင့် ဝတ်မွတ်ခေါင်းပါးမှုဘေးတို့နှင့် ရင်ဆိုင်နေရချိန်တွင် ဗုဒ္ဓမြတ်စွာကိုယ်တိုင် ကြွချီကာ ယင်းအန္တရာယ်တို့မှလွတ်ကင်းရန် **ရတနသုတ်** ကို ဟောကြားပြီး ပရိတ်အဖြစ်ရွတ်ဆိုစေခဲ့သဖြင့် ဘေးရန်ဆိုးတို့မှလွတ်ကင်းကာ သတ္တဝါငါးသိန်းကျော် တရားထူးရရှိကြကြောင်း ဓမ္မပဒ 'အဋ္ဌကထာ'၊ ခုဒ္ဒကပါဌ် 'အဋ္ဌကထာ'၊ သုတ္တနိပါတ 'အဋ္ဌကထာ' တို့၌ ပြဆိုထားပေသည်။ တောနေရဟန်းငါးရာအား ရုက္ခစိုးတို့ခြောက်လှန့်မှုမှ ကင်းလွတ်ရန် ဗုဒ္ဓမြတ်စွာက **မေတ္တသုတ်** ကို ပရိတ်အဖြစ်သင်ကြားပေးခဲ့ပြီး ယင်းပရိတ်တန်ခိုးကြောင့် ၎င်းတို့ရန်မှကင်းဝေးကာ ရဟန်းတို့တရားထူးရအောင် အားထုတ်နိုင်ခဲ့သည်ဟုလည်း ခုဒ္ဒကပါဌ် 'အဋ္ဌကထာ'နှင့် သုတ္တနိပါတ 'အဋ္ဌကထာ'တို့၌ ဖော်ပြ ထားပေသည်။ **ခန္ဓသုတ်** ပရိတ်ကို ဗုဒ္ဓမြတ်စွာ သင်ကြားပေးခဲ့သဖြင့် ရဟန်းတို့ မြွေဆိုးဘေးမှ ကင်းဝေးခဲ့သည်ဟုလည်း ဇာတ်အဋ္ဌကထာဆရာတို့က ဆိုထားပေသေးသည်။ **ဓဇဂ္ဂသုတ်** ကို ရွတ်ဆိုခြင်းဖြင့် ရဟန်းတို့ တရားဘာဝနာပွားများရာ၌ ရဲရင့်မှုရှိစေပုံ၊ ဗုဒ္ဓ၏ နောက်လိုက်များအား မကောင်းဆိုးဝါးတို့ မနှောင့်ယှက်နိုင်ရန် အဆောင်အယောင်အဖြစ် **အာဋာနာဋိယသုတ်** ကို ရွတ်ဆိုပါစေမည့်အကြောင်း ဝေဿဝဏ်နတ်မင်းကြီးက ဗုဒ္ဓမြတ်စွာအား လျှောက်ထားခဲ့ပုံ၊ **အင်္ဂုလိမာလသုတ်** မှာ အရှင်အင်္ဂုလိမာလအားအမျိုးသမီးများ အလွယ်တကူသားဖွားနိုင်အောင် ကယ်တင်ခြင်းငှာ ဗုဒ္ဓမြတ်စွာက စီစဉ်သင်ပြပေးခဲ့ပုံ၊ အရှင်မောဂ္ဂလာန်၊ အရှင်မဟာကဿပနှင့် ဗုဒ္ဓကိုယ်တော်တိုင် မမာမကျန်းဖြစ်စဉ် **ဗောဇ္ဈင်္ဂသုတ်** ကို ရွတ်ဆိုစေကြခြင်းဖြင့် ရောဂါများပျောက်ကင်း ချမ်းသာခဲ့ပုံတို့ကိုကား သက်ဆိုင်ရာ မူလပိဋကတ်များ၌ပင် တွေ့ရှိရပေသည်။

ဗုဒ္ဓ ပရိနိဗ္ဗာန်ပြုပြီးနောက် နှစ်ပေါင်း (၅၀၀)ခန့်တွင် ရေးသားပြုစုခဲ့သည်ဟု ခန့်မှန်းကြသော မိလိန္ဒပဥှာ၌ 'ကျမ်းပြုဆရာ' က ရတနသုတ်၊ မေတ္တသုတ်၊ ခန္ဓသုတ်၊ မောရသုတ်၊ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်နှင့် အင်္ဂုလိမာလသုတ်တို့ကိုသာ ပရိတ်တော်များအဖြစ်ဖော်ပြခဲ့ပေရာ ထိုခေတ်အခါအထိ ယင်းခုနှစ်သုတ်သည်သာ ဗုဒ္ဓဘာသာဝင်လောက၌ ပရိတ်တော်များအဖြစ် ရွတ်ဆိုခဲ့ဟန်ရှိသည်ဟု လေ့လာသူများက ကောက်ချက်ချခဲ့ကြလေသည်။

သာသနာသက္ကရာဇ် (၉၀၀)ကျော်တွင်ကား အဋ္ဌကထာသစ်ကျမ်းပြုဆရာ **'အရှင်ဗုဒ္ဓဃောသ'** ပေါ်ထွန်းခဲ့ရာ ၎င်းခေတ်၌ သီဟိုဠ်

ဘာသာဖြင့် ရေးသားထားခဲ့သော ရှေးအဋ္ဌကထာဟောင်းများကို မူရင်း ပိဋကတ်များနှင့်တိုက်ဆိုင်ညှိနှိုင်းကာ ပါဠိဘာသာဖြင့် အဋ္ဌကထာသစ်များကို ပြုစုခဲ့ပေသည်။ ယင်းကျမ်းစာတို့အလိုအရမူ အရှင်ဗုဒ္ဓဃောသခေတ်က ပရိတ်တော်များအဖြစ် ရတနသုတ်၊ မေတ္တသုတ်၊ ခန္ဓသုတ်၊ မောရသုတ်၊ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်၊ ဗောဇ္ဈင်္ဂသုတ်နှင့် ဣသိဂိလိသုတ်တို့ကို ရွတ်ဖတ်နာယူသမှု ပြုကြကြောင်းတွေ့ရှိနိုင်ပေသည်။

ဤတွင် မိလိန္ဒပဉှာကျမ်းပြုစဉ်ကာလနှင့် နှိုင်းယှဉ်သော် ဗောဇ္ဈင်္ဂ သုတ်နှင့် ဣသိဂိလိသုတ်တို့ တိုးလာပြီး အင်္ဂုလိမာလသုတ် လျော့သွားသည် ကို တွေ့ရှိရပေမည်။ အနှစ်သာရအားဖြင့် ဗောဓိဉာဏ်ရရာတရား ခုနှစ်ပါး ပင်ဖြစ်သော ဗောဇ္ဈင်္ဂသုတ်မှာ ယခုခေတ်တိုင် ပရိတ်တော်အဖြစ် ရွတ်ဖတ် သရဇ္ဈာယ် နေကြသေးသော်လည်း ဣသိဂိလိတောင်၌ သီတင်းသုံးနေထိုင် ကြသည်ဆိုသော ပစ္စေကဗုဒ္ဓါတို့၏အမည်များကို ဖော်ပြထားသည့် ဣသိဂိလသုတ်ကိုကား ပရိတ်အဖြစ် ရွတ်ဖတ်သရဇ္ဈယ်မှု မပြုကြတော့ချေ။

ဗုဒ္ဓသာသနိက မှတ်တမ်းများအလိုအရမူ မြန်မာနိုင်ငံ၌ ပရိတ် ရွတ်ဖတ်နာယူသည့် အလေ့အထသည် အသောကမင်းကြီး စေလွှတ် လိုက်သည့် သာသနာပြုရဟန်းတော် **အရှင်သောန** နှင့် **အရှင်ဉတ္တရ** တို့ သုဝဏ္ဏဘုမ္မိသို့ ရောက်ရှိခဲ့ရာမှ အစပြုပေသည်။ ထိုအရှင်နှစ်ပါးက **ဗြဟ္မဇာလ** သုတ်ကို ပရိတ်အဖြစ် ရွတ်ဖတ်ပေးခြင်းဖြင့် ပင်လယ်ဘက်မှ လာရောက်၍ ကလေးများအား ဖမ်းဆီးစားသောက်လေ့ရှိသည့် ဘီလူးများဘေးရန်မှ အကာအကွယ်ပေးနိုင်ခဲ့ရာ ထိုကာလမှအစပြုလျက် မြန်မာတိုင်းရင်းသား တို့သည် ဗုဒ္ဓမြတ်စွာ၏ ဓမ္မဒေသနာတော်များကို အန္တရာယ်ကင်း ဘေးရှင်း စေသည့်အရံအတား ပရိတ်များအဖြစ်မှတ်ယူကာ သံဃာတော်များအား မိမိတို့အိမ်ဂေဟာသို့ပင့်ဖိတ်လျက် ရွတ်ဖတ်သရဇ္ဈာယ် စေခဲ့ကြကြောင်း အဆိုရှိပေသည်။

ပုဂံပြည်သို့ ထေရဝါဒဗုဒ္ဓသာသနာတော် မရောက်ရှိမီကာလက အရည်းကြီးတို့၏ မဟာယာနန္တယ်သော အမည်ခံဗုဒ္ဓဘာသာ ထွန်းကား ခဲ့သည်။ အရည်းကြီးတို့ စီမံထားသည့် ပရိတ်များကို ရွတ်ဖတ်သရဇ္ဈာယ်ခြင်း အားဖြင့် လောကီအကျိုးစီးပွားတိုးစေမည့်အပြင် မကောင်းမှုအကုသိုလ်များ ပြေပျောက်ကာ မဂ်ဖိုလ်နိဗ္ဗာန်ကိုပင် အားထုတ်စရာမလိုဘဲ ရောက်ရှိ နိုင်သည်ဟု ယုံကြည်ခဲ့ကြဖူးသည်။

ထေရဝါဒဗုဒ္ဓသာသနာပြုများ ရောက်ရှိလာပြီး အရည်းကြီး

သာသနာ ချုပ်ငြိမ်းသွားသည့်နောက်တွင်မူ ဤမျှအယူမသီးကြတော့ပေ။ သို့သော် မြန်မာ့ရာဇဝင်တစ်လျှောက် ပဒေသရာဇ်အသီးသီးတို့သည် သူတို့၏ အရေးပါသော နန်းတော်တည်ပွဲ၊ နန်းသိမ်းပွဲ စသည့်အခမ်းအနား များ၌ ရဟန်းတော်များအားပင့်ကာ ဗုဒ္ဓဘာသာပရိတ်တော်များကို ရွတ်ဖတ် ပေးစေခဲ့သည်။ ထူးခြားသည်ကား ထိုအခမ်းအနားများသို့ ဗြာဟ္မဏ ပုရောဟိတ်ကြီးများကိုလည်း အရေးကြီးပုဂ္ဂိုလ်များအဖြစ် တက်ရောက် စေကာ ၎င်းတို့ကျွမ်းကျင်ရာ ဝေဒကျမ်းဂန်လာ မန္တန်များကို ရွတ်ဖတ်စေခဲ့ ကြခြင်းပင်ဖြစ်သည်။

မြန်မာဗုဒ္ဓဘာသာဝင်များအတွင်း လူတန်းစားအလွှာ အသီးသီး၌ ပရိတ်ရွတ်ဖတ် နာယူသည့်အလေ့အထထွန်းကားခဲ့ရာ ကောဇာသက္ကရာဇ် ကိုးရာဝန်းကျင်၌ကား မင်္ဂလသုတ်၊ ရတနသုတ်၊ မေတ္တသုတ်၊ ခန္ဓသုတ်၊ မောရသုတ်၊ ဓဇဂ္ဂသုတ်၊ အာဋာနာဋိယသုတ်၊ အင်္ဂုလိမာလသုတ်ဟူ၍ ပရိတ်ကြီး (၉) သုတ် ရှိလာခဲ့ကြောင်း သက္ကရာဇ်-၉၆၇ ခုဖွား တိလောကာ လင်္ကာရဘွဲ့တံဆိပ်တော်ရ အရှင်တေဇောဒီပမထေရ် ပြုစုခဲ့သော **ပရိတ္တ ဋီကာပါဌ်** ကိုထောက်ထား၍ ပညာရှင်များက ကောက်ချက်ချခဲ့ပေသည်။

မည်သို့ဆိုစေ မျက်မှောက်ခေတ်တွင်ကား မူလပိဋကတ်တော်လာ ဘုရားဟော သုတ္တန်ဒေသနာအများစုနှင့် နှောင်းခေတ်သာသနာ့ ပညာရှင်များ ဉာဏ်ကွန့်မြူးမှုတို့၏ ရလဒ်အဖြစ် ပရိတ်ကြီး (၁၁) သုတ်သည် ထည်ထည်ဝါဝါ တည်ရှိနေပေပြီ။ နှောင်းလူတို့၏တာဝန်ကား အရာရာကို စာမှာပါ, ပါသည့်အတိုင်း လေ့နံ့ဓားထစ်မမှတ်ယူကြဘဲ ကိုယ်ပိုင်လေ့လာ သိမြင်မှု (သုတမယဉာဏ်)၊ တွေးခေါ်ကြံဆသိမြင်မှု (စိန္တာမယဉာဏ်)၊ ထိုးထွင်းသိမြင်မှု (ဝိပဿနာဉာဏ်) တို့ကို အားကိုးအားထားပြုလျက် မိမိတို့ ဘဝတွင်အကျိုးရှိအောင် အသုံးချသွားကြရန်သာ ဖြစ်ပေသည်။ သို့ဆိုပါက ဤပရိတ်ကြီး (၁၁) သုတ်သည် သုံး၍မကုန်လှူ၍မခန်းနိုင်သည့် ပညာ ရတနာသိုက်ကြီးပင်ဖြစ်ပါကြောင်း တင်ပြလိုက်ရပေသည်။

ကျမ်းကိုး။ ။ ပရိတ္တဋီကာနိဿယ (သာသနာရေး ဦးစီးဌာန)

ELEVEN HOLY DISCOURSES OF PROTECTION BY SAO HTUT HMAT WIN

(၂-၁၁-၉၃)

ဓမ္မရံသီ၊ ၁၉၉၄ခုနှစ်၊ မတ်လ။

# အပြစ်ဟူသည်

လူတိုင်းအပြစ်ကို ကြောက်ကြသည်။ မိမိအတွက် အပြစ်ဖြစ်စေမည့် ကြံစည်ပြောဆို လုပ်ဆောင်မှုမှန်သမျှကို မည်သူမှမပြုလိုကြပေ။ မိမိ ကြံစည်ပြောဆို လုပ်ဆောင်မှုဟူသရွေ့ အကျိုးဖြစ်ထွန်းစေရန်သာ လိုလားကြသည်။

သို့ဆိုလျှင် လူသားတို့အတွက် အပြစ်ဖြစ်စေသော၊ တစ်နည်းဆိုသော် အပြစ်ရှိသော ကြံစည်ပြောဆို လုပ်ဆောင်မှုတို့သည်ကား အဘယ်နည်း။ ကမ္ဘာဦးမှသည် ဗုဒ္ဓမပွင့်မီခေတ်တိုင်အောင် လူသားအားလုံးတညီတညွတ်တည်း သဘောတူလက်ခံနိုင်လောက်သည့် အဖြေကိုမရခဲ့ကြပေ။

သို့သော် လူသားတို့သည် အဘယ်ကြောင့် အပြစ်ကိုကြောက်ကြပါသနည်းဟုဆိုလျှင်ကား မိမိတို့၏အပြုအမူသည် ကောင်းကျိုးကိုမဖြစ်စေဘဲ ဆိုးပြစ်ကိုခံစားရမှာ စိုးလန့်၍သာဖြစ်သည်ဟု တညီတညွတ်တည်း ဖြေဆိုကြလိမ့်မည်။

မှန်ပေသည်။ လူ့ဘောင်လောက သမိုင်းစဉ်တစ်လျှောက်တွင် လူသားတို့သည် အခြားအခြားသောသတ္တဝါများနည်းတူ ဘေးဒုက္ခအန္တရာယ်အသွယ်သွယ်ကို နည်းမျိုးစုံဖြင့်ခုခံတွန်းလှန်ရင်း မျိုးဆက်ရှင်သန်ပြန့်ပွားခဲ့ကြရသည်။ သဘာဝတရား၏ ရိုက်ပုတ်ထုထောင်းမှုဒဏ်ကို မခံနိုင်ခဲ့သောသတ္တဝါများမှာ မျိုးပြုန်းခဲ့ကြရသည်။

လူသားတို့သည် သဘာဝတရားကို ခုခံတွန်းလှန်ရင်း၊ မျိုးနွယ်ဆက်လက်ပြန့်ပွားရင်းရရှိခဲ့သော အတွေ့ကြုံများပေါ်အခြေခံ၍ မိမိတို့ခံစားရသော အကျိုးတရားတို့သည် မိမိတို့ပြုခဲ့သော အကြောင်းတရားတို့အပေါ် မူတည်နေကြောင်း အတန်အသင့် သဘောပေါက်ခဲ့ကြသည်။ ကြောင်းကျိုးဆက်စပ် တွေးခေါ်ဆုံးဖြတ်တတ်သော အလေ့အထသည် လူသား၏အသိဉာဏ်တွင် ထွန်းကားလာခဲ့သည်။

သို့ရာတွင် လူ့အသိဉာဏ်သည် အာရုံငါးပါးဖြင့်ခံစားထိတွေ့ကာ သိလွယ်မြင်သာခြင်းမရှိသော အကြောင်းတရားတို့ကြောင့် ဖြစ်ပေါ်လာသည့် အကျိုးတရားတို့၏ အရင်းအမြစ်တို့ကိုကား မှန်ကန်စွာ အဖြေ

မထုတ်နိုင်ခဲ့ကြပေ။ အပြုအမူတစ်ခုတိုင်းတွင် ရလဒ်တစ်ခုစီသာရှိပေသည်။ ယင်းရလဒ်သည် ကောင်းကျိုး သို့မဟုတ် ဆိုးပြစ်သာ ဖြစ်ပေမည်။ ယင်းရလဒ်သည် တစ်စုံတစ်ခုသော အကြောင်းတရားကိုအခြေခံ၍ အကျိုးတရား ဖြစ်ထွန်းလာရခြင်း ဖြစ်ကြောင်းကိုကား လူသားတို့ သဘောပေါက်ကြသည်။ ယင်းသို့ သဘောပေါက်ထားသော်လည်း စစ်မှန်သော အကြောင်းတရားကို ရှာဖွေနိုင်စွမ်း မရှိလေသောအခါ မရေရာမသေချာသော အဖြေများနှင့်သာ ကျေနပ်ခဲ့ကြရသည်။

ရှေးအခါက မိုးခေါင်ခြင်း၊ ရေကြီးခြင်း၊ ငလျင်လှုပ်ခြင်း၊ မိုးကြိုးပစ်ခြင်း၊ တောမီးလောင်ခြင်း၊ ရောဂါဘယ ဖြစ်ပွားခြင်းစသည့် သဘာဝဘေးအန္တရာယ်အသွယ်သွယ်နှင့် ရင်ဆိုင်လာရသောအခါ လူသားသည် မိမိတို့အား အဘယ့်ကြောင့် ဤသို့သောဆိုးပြစ်များနှင့် ကြုံတွေ့လာရပါသနည်းဟု ထိတ်လန့်တကြား တွေးတောလာကြသည်။ မိမိတို့ ဉာဏ်မီ သမ္ဘယုတ္တိနည်းကျတွေးခေါ်၍ အဖြေရှာမရလေသောအခါ မိမိတို့အား တစ်စုံတစ်ဦးကမနှစ်မြို့၍ ဒဏ်ခတ်သည့်အနေနှင့် အပြစ်ပေးလေရော့သလားဟု ကြံဆလာကြသည်။

ဤမိုး၊ ဤရေ၊ ဤမြေ၊ ဤလေ စသည်တို့ကို စိုးမိုးခြယ်လှယ်နိုင်စွမ်းရှိသူတို့က မိမိတို့၏ ကြံစည်၊ ပြောဆို၊ လုပ်ဆောင်မှု တစ်ရပ်ရပ်အပေါ် မကျေနပ်၍ တစ်နည်းဆိုသော် အပြစ်ဖြစ်နေ၍ ထိုက်သင့်သော အပြစ်ဒဏ်စီရင်လိုက်ခြင်းပင် ဖြစ်ပေလိမ့်မည်ဟု ယူဆလာကြသည်။

ထို့ကြောင့် ဤမိုး၊ ဤရေ၊ ဤမြေ၊ ဤလေစသည့် သဘာဝရုပ်ဝတ္ထုအသီးသီးကို စိုးမိုးခြယ်လှယ်နိုင်စွမ်းရှိသူဟု ထင်မှတ်ထားသူတို့အား ထိုက်သင့်သော ကျေနပ်နှစ်သိမ့်မှုရရှိစေရန်၊ မိမိတို့ ပြုမိများသော အပြစ်တို့မှ လွတ်ငြိမ်းချမ်းသာခွင့်ပြုပါရန် လာတ်လာဘထိုးသိပ် ပူဇော်ပသ၍ တောင်းပန်တိုးလျှိုးပါက အပြစ်တို့မှခွင့်လွှတ်လိမ့်မည်ဟု သက်မဲ့သဘာဝရုပ်ဝတ္ထုများကို သက်ရှိလူသားသဖွယ် ထင်ယောင်မှား၍ တွေးခေါ်ယူဆလာကြတော့သည်။

ဤသို့ဖြင့် သက်ဆိုင်ရာ အာဏာပိုင်စိုးသော တန်ခိုးရှင်တို့အား မိမိတို့ဘဝဝယ် အမြတ်တနိုးထားရာတို့နှင့် ပူဇော်ပသခြင်းဖြင့် ယင်းတန်ခိုးရှင်တို့က ကျေနပ်နှစ်သိမ့် ခွင့်လွှတ်ကာ မိမိတို့အပေါ် ကောင်းချီးမင်္ဂလာအဖြာဖြာ ပေးအပ်လိမ့်မည်ဟုလည်း ယူဆလာကြသည်။ ထိုသို့ယူဆသည့်အလျောက် လက်တွေ့လည်း လုပ်ဆောင်လာကြသည်။

မိုးကိုပိုင်စိုးသော မိုးနတ်မင်းအား ပူဇော်ပသခြင်းဖြင့် မိုးခေါင်ခြင်း၊ မိုးသည်းထန်ခြင်း ဘေးတို့မှလည်းကောင်း၊ ရေကိုပိုင်စိုးသော တန်ခိုးရှင် မြစ်စောင့်နတ်၊ ချောင်းစောင့်နတ်၊ ပင်လယ်စောင့်နတ်၊ သမုဒ္ဒရာစောင့်နတ်တို့အား ပူဇော်ပသခြင်းဖြင့် ရေလွှမ်းမိုးခြင်းဘေးမှလည်းကောင်း၊ မြေကိုပိုင်စိုးသောတန်ခိုးရှင် မြေစောင့်နတ်အား ပူဇော်ပသခြင်းဖြင့် ငလျင်လှုပ်ခြင်း၊ မီးတောင်ပေါက်ကွဲခြင်း စသည့်ဘေးတို့မှလည်းကောင်း၊ လေကိုပိုင်စိုးသော တန်ခိုးရှင် လေစောင့်နတ်အား ပူဇော်ပသခြင်းဖြင့် လေမုန်တိုင်းဘေးမှလည်းကောင်း ကင်းလွတ်လိမ့်မည်ဟု ယုံကြည်လာကြသည်။

သို့သော် 'ထိုထိုသော မိုးနတ်၊ ရေနတ်၊ မြေနတ်၊ လေနတ်စသည်တို့က လူသားတို့အပေါ် မကျေမနပ်ဖြစ်ကာ ပြစ်ဒဏ်ခတ်လာအောင် လူသားတို့ကျူးလွန်မိသော အပြစ်တို့ကားအဘယ်နည်း' ဟု ဆိုလျှင်ကား တူညီသောအဖြေကို မရနိုင်ခဲ့ကြပေ။ တစ်ကျောင်းတစ်ဂါထာ တစ်ရွာတစ်ပုဒ်ဆန်းဆိုသလို အဖြေအမျိုးမျိုး ပေးခဲ့ကြသည်။ တစ်ခါတစ်ရံ ကာလတစ်ခု၊ ဒေသတစ်ရပ်တွင် အပြစ်ဖြစ်စေသော ကြံစည်ပြောဆို လုပ်ဆောင်မှုတို့သည် အခြားကာလတစ်ခု ဒေသတစ်ရပ်တွင် အဆိုပါတန်ခိုးရှင်တို့နှစ်သက်သော ကြံစည်ပြောဆို လုပ်ဆောင်မှု ဖြစ်နေတတ်ပြန်သည်။

ယင်းတန်ခိုးရှင် နတ်ဒေဝတာတို့၏ အမည်နာမတို့မှာလည်း ကာလ၊ ဒေသ၊ လူမျိုးနွယ်စု၊ ဘာသာစကား၊ ဓလေ့ထုံးစံတို့ကိုလိုက်၍ အမည် အမျိုးမျိုးရှိခဲ့ကြသည်။ တစ်ခါတစ်ရံ ယင်းနတ်ဒေဝတာတို့သည် ဒေသ တစ်ရပ်တွင် အဖိုဖြစ်နေသော်လည်း အခြားဒေသတစ်ရပ်တွင် အမဖြစ်နေ တတ်သည်။ ဥပမာ - မြေကိုအစိုးရသောတန်ခိုးရှင်သည် ဂရိတို့ဒေသတွင် **'ကသေနာနတ်သား'** ဖြစ်သော်လည်း အိန္ဒိယတိုက်ငယ်တွင် **'ပထဝီနတ်သမီး'** ဖြစ်နေခြင်းမျိုးဖြစ်သည်။

လူသားတို့သည် မိမိဝန်းကျင်တွင်မြင်မြင်သမျှ တောတောင် ရေမြေ လေမီး၊ ကောင်းကင်၊ ဂြိုဟ်၊ နက္ခတ်တာရာ အစရှိသည့် သဘာဝရုပ်ဝတ္ထုတို့အား သက်ရှိပုဂ္ဂိုလ်များအဖြစ်လည်းကောင်း၊ မိမိတို့၏ကံကြမ္မာကို သူတို့နှင့်သက်ဆိုင်ရာ ကဏ္ဍအသီးသီးမှ ဖန်တီးပေးနိုင်စွမ်းရှိသူများအဖြစ်လည်းကောင်း ယုံကြည်ကိုးကွယ်လာကြသည်။ ယင်းတို့အား ပူဇော်ပသရန်နည်းနာများ၊ ယင်းတို့အား ချီးမွမ်းထောမနာပြုထားသည့် ဘုန်းတော်ဘွဲ့လင်္ကာများ၊ ဂါထာမန္တန်များကိုလည်း ပြုစုစပ်ဆို သီကျူးခဲ့ကြသည်။

ထိုသို့သော တန်ခိုးရှင်တို့ နှစ်သက်အားရကျေနပ်စေရန် မည်သို့

ကြိုစည်ပြောဆို လုပ်ဆောင်ရမည် ဆိုသည်တို့ကိုလည်း ဟောပြော ရေးသား လာခဲ့ကြသည်။ ယင်းဟောပြော ရေးသားချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်မှုမှန်သမျှသည် ကောင်းမှုကုသိုလ် ဖြစ်စေပြီး ဆန့်ကျင်ဘက် အပြုအမူမှန်သမျှသည် အကုသိုလ်အပြစ် ဖြစ်စေသည်ဟုလည်း ယုံကြည် လက်ခံခဲ့ကြသည်။

ယင်းသို့သော တွေးခေါ်ယုံကြည်မှုများနှင့်အတူ သာမန်လူသားတို့ နှင့် အပူဇော်ခံတန်ခိုးရှင်တို့အကြား ဆက်သွယ်ပေးသည့် အောင်သွယ်တော် ကြားခံလူတန်းစားတစ်ရပ်လည်း ပေါ်ပေါက်ခဲ့သည်။ ၎င်းတို့သည် သူတို့ ကိုယ်ကို အပူဇော်အပသခံတန်ခိုးရှင် နတ်ဒေဝတာတို့၏အလိုကို သိရှိ သူများအဖြစ် ခံယူဟောပြောခဲ့ကြသည်။ ပတ်ဝန်းကျင်လူ့အဖွဲ့အစည်း ကလည်း အပူဇော်ခံတန်ခိုးရှင် နတ်ဒေဝတာတို့သည် လူသားတို့အား တစ်စုံ တစ်ရာ ပြောဆိုလိုလျှင် သူတို့မှတစ်ဆင့် ပြောတတ်သည်ဟု ယုံကြည်ထား ကြသည်။ ထို့ကြောင့် ယင်းလူတန်းစားသည် ယဇ်ပုရောဟိတ်များ၊ နတ်ဝင် သည်များ၊ လူတို့၏အနာဂတ်ကို နိမိတ်ဖတ်သူများအဖြစ် လူ့အဖွဲ့အစည်း အတွင်းဝယ် ရေပန်းစားခဲ့ကြသည်။

သူတို့သည် တန်ခိုးရှင်များ၏အလိုတော်ကို ထုတ်ဖော်နိုင်သူများဟု အများကယုံကြည် လက်ခံထားကြသည့်အလျောက် သူတို့နှုတ်မှထွက်သမျှ သည် ၎င်းတို့လူ့အဖွဲ့အစည်းအတွက် မလွဲမသွေလိုက်နာရမည့် အမိန့် အာဏာများပင် ဖြစ်တော့သည်။ ယင်းအမိန့်အာဏာမှန်သမျှကို မိမိတို့ ကိုယ်ပိုင်ဉာဏ်ဖြင့် မှန်သည်၊ မှားသည် ဝေဖန်ဆုံးဖြတ်ပိုင်ခွင့်လည်း မရှိပေ။ ဝေဖန်မိပါက တန်ခိုးရှင်နတ်ဒေဝတာတို့ကို ဆန့်ကျင်သူအဖြစ် အသက် အန္တရာယ် ကျရောက်စေသည်အထိ ထိတ်လန့်ကြောက်ရွံ့ဖွယ် ပြစ်ဒဏ် ခတ်ခြင်းခံကြရသည်။

ဤသို့ဖြင့် လူသားတို့၏ ကိုးကွယ်ယုံကြည်မှုဖြစ်စဉ်သည် လူ့ဘောင်သမိုင်းတစ်လျှောက် မသိဆိုးရွားသော ကြောက်ရွံ့ထိတ်လန့် တုန်လှုပ်ဖွယ်ကောင်းသော ဖြစ်ရပ်များနှင့်ပြည့်နှက်လျက် တရွေ့ရွေ့ ပြောင်းလဲလာခဲ့ရသည်။ တန်းခိုးရှင် နတ်ဒေဝတာတို့နှင့် လူသားတို့အကြား ဆက်သွယ်ပေးသည့် ကြားခံလူတန်းစားတို့၏ တန်ခိုးအာဏာသည်လည်း လူ့အဖွဲ့အစည်းအတွင်း ကြီးမားကျယ်ပြန့်စွာ လွှမ်းမိုးခဲ့သည်။ သူတို့ လမ်းညွှန် ဟောပြောသည့်အတိုင်း လုပ်ကိုင်ဆောင်ရွက်မှုတို့သည်ပင် လူသားတို့အတွက် အားထားရာဘာသာတရား ဖြစ်ခဲ့သည်။ ယင်းကြားခံ

လူတန်းစားသည်လည်း ဘာသာရေးခေါင်းဆောင်များ ဖြစ်လာခဲ့ကြသည်။

ထိုဘာသာရေးခေါင်းဆောင်များ၏ ထွင်လုံး၊ ဖန်လုံး၊ ခြောက်လုံး၊ မြှောက်လုံးများကို အကြောင်းပြု၍ အပူဇော်ခံတန်ခိုးရှင် နတ်ဒေဝတာများလည်း တစ်နေ့တခြားတိုးပွားလာခဲ့သည်။ အပူဇော်ခံတန်ခိုးရှင် နတ်ဒေဝတာများအား ယဇ်ပူဇော်ပသသည့် အခမ်းအနားများလည်း တိုးပွားလာသည့်အလျောက် ယင်းဘာသာရေးခေါင်းဆောင်များလည်း လာဘ်လာဘ အရှင်ကြီးရှင်ခဲ့ကြသည်။

ယင်းသို့ နတ်ဒေဝတာပေါင်း သောင်းခြောက်ထောင်ဖြင့် မအားမလပ်ရအောင် အလုပ်ရှုပ်နေခဲ့ရသော လူသားတို့သည် မိမိတို့အား ယင်းနတ်ဒေဝတာတို့က ကြီးစိုးသလို ယင်းနတ်ဒေဝတာတို့အားလည်း တစ်ဖန် ခြယ်လှယ် အုပ်စီးနိုင်မည့် တစ်ဦးတည်းသော မဟာတန်ခိုးရှင်လည်း ရှိပေဦးအံ့ဟု ကြံစည်လာခဲ့ကြပြန်သည်။ ယင်းမဟာတန်ခိုးရှင်ကို ပူဇော်ပသကိုးကွယ်ခြင်းဖြင့် နတ်ဒေဝတာပေါင်း သောင်းခြောက်ထောင်အား လက်မလည်နိုင်အောင် ပူဇော်ပသနေရခြင်းဘေးမှလည်း ကင်းဝေးပေအံ့ဟု စိတ်ကူးသစ် ရလာခဲ့ကြသည်။

ယင်းမဟာတန်ခိုးရှင်သည် တော၊ တောင်၊ ရေ၊ မြေ၊ လေ၊ မီး၊ ကောင်းကင်၊ ဂြိုဟ်၊ နက္ခတ်တာရာ အပါအဝင် လောကတစ်ခွင်ပြိုပြိုစင်အောင် အပိုင်စားရသူ၊ ဖန်ဆင်းသူ၊ စောင့်ထိန်းသူ၊ တစ်နေ့တွင် ဖျက်သိမ်းပစ်မည့်သူ ဖြစ်သည်ဟုလည်း တွေးဆခဲ့ကြသည်။ ထိုသူသည်ပင် မိမိတို့လူသားများ အပါအဝင်ဖြစ်သော သတ္တလောကကြီးကို ဖန်ဆင်းပေးသူဖြစ်သည်ဟုလည်း ယုံကြည်လာကြသည်။ ဤယုံကြည်တွေးဆမှုကို အခြေခံကာ လွန်ခဲ့သောနှစ်ပေါင်း ခြောက်ထောင်ကျော်ခန့်ကစ၍ လူ့အဖွဲ့အစည်းအတွင်း *တစ်ဆူတည်းသောထာဝရဘုရားကို ယုံကြည်ကိုးကွယ်သည့်ဝါဒ (Monotheism)* ထွန်းကားလာခဲ့သည်။

အချို့ဒေသများတွင် နတ်ဒေဝတာပေါင်း သောင်းခြောက်ထောင်ကို လုံးဝပစ်ပယ်လိုက်ပြီး တစ်ဆူတည်းသော ထာဝရဘုရားကိုသာ ကိုးကွယ်ကြတော့သလို၊ အချို့ဒေသများတွင်မူ ***တစ်ဆူတည်းသော ထာဝရဘုရားအား လောက၏ အခေါင်ချုပ်အဖြစ်လက်ခံကာ အခြားသော နတ်ဒေဝတာများကိုလည်းမပစ်ပယ်ဘဲ ဆက်လက်ပူဇော်ကိုးကွယ်သည့်ဝါဒ (Henotheism)*** ထွန်းကားလာခဲ့သည်။

ဤသို့ ပြောင်းလဲလာသော ယုံကြည်ကိုးကွယ်မှုနှင့်အညီ အပူဇော်

အပသခံတန်ခိုးရှင်များနှင့် လူသားအကြား ဆက်သွယ်ပေးသည်ဆိုသော အောင်သွယ်တော်လူတန်းစား ဘာသာရေးခေါင်းဆောင်များသည်လည်း တစ်ဆူတည်းသော ထာဝရဘုရား၏လူဝင်စားများ၊ ***ပရောဖက်*** *(Prophet)* (ခေါ်) ***တမန်တော်များ*** အဖြစ် အဆင့်တိုးမြင့်လာခဲ့ကြသည်။ သူတို့ သန္တေတည်မွေးဖွားရာ လူမျိုးနွယ်စုကိုလည်း အမျိုးဇာတ်မြင့်မြတ်သော၊ ဘုရားသခင်ကောင်းချီးပေးသော မျိုးနွယ်စုဖြစ်သည်ဟုလည်း ဟောပြော စည်းရုံးခဲ့ကြသည်။ ဤနည်းအားဖြင့် ဇာတ်အနိမ့်အမြင့် ခွဲခြားမှုဝါဒ၊ အသား အရောင်နှင့် လူမျိုးရေးခွဲခြားမှုဝါဒများ ပေါ်ထွန်းလာခဲ့သည်။

ဘာသာရေးခေါင်းဆောင်ဖြစ်လာသူတို့က သူတို့၏အကြံ၊ အပြော၊ အလုပ်မှန်သမျှသည် တစ်ဆူတည်းသော ထာဝရဘုရား၏ အလိုတော်နှင့် အညီဖြစ်သည်ဟုလည်း အခိုင်အမာဆိုလာကြသည်။ သူတို့၏ နှုတ်ထွက် စကားသည် ထာဝရဘုရား၏ နှုတ်ကပါဠ်တော်ပင်ဖြစ်သည်။ ထာဝရဘုရား သည် မတူညီသော အချိန်ကာလ၊ ဒေသနှင့်အညီ ပြောင်းလဲနေသော ဥပဒေပြဋ္ဌာန်းချက် ပညတ်တော်တို့အား ၎င်းတို့မှတစ်ဆင့် လူ့လောကသို့ ချမှတ်ပေးလေ့ရှိသည်ဟုလည်း လူအများကလက်ခံထားကြသည်။

ယင်းသို့ထာဝရဘုရားနှင့် လူသားတို့အကြား ဆက်သွယ်ပေး နေသည်ဆိုသည့် ဘာသာရေးခေါင်းဆောင်များက ကောင်းမြတ်သည်ဟု ပြဋ္ဌာန်းထားသော အပြုအမူမှန်သမျှသည် ကောင်းကျိုးကိုဖြစ်စေပြီး ဆန့်ကျင်မှုဟူသရွေ့ အပြစ်ကိုဖြစ်စေလိမ့်မည်ဟုလည်း ယုံကြည်ကြ ရသည်။ အဘယ့်ကြောင့် အကျိုးဖြစ်ပြီး၊ အဘယ့်ကြောင့် အပြစ်ဖြစ်စေရပါ သနည်းဟု ယုတ္တိနည်းကျ စောဒကတက်ခွင့်ကား လူသားတို့၌မရှိပါချေ။ အကယ်၍ စူးစမ်းတွေးခေါ် ဝေဖန်လာပါကလည်း ထိုသူအားမာရ်နတ်၏ နောက်လိုက်အဖြစ် သတ်မှတ်ကာ သုတ်သင်သတ်ဖြတ်ပစ်သည်အထိ အပြစ်ပေးမှုများရှိခဲ့သည်။

ဘာသာရေးခေါင်းဆောင်များသည် ဘာသာရေးကိုအကြောင်း ပြု၍ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ တရားစီရင်ရေးဆိုင်ရာ နယ်ပယ်များသို့ပါ အာဏာစက် ဖြန့်ကျက်ခဲ့ပေရာ အချို့ဒေသများတွင် ***ရဟန်းမင်းများ*** *(Patesi)* ပင် ပေါ်ပေါက်လာခဲ့ဖူးသည်။ ထာဝရဘုရားသခင်က ခန့်အပ်ပြီး ထာဝရဘုရားသခင်အလိုတော်ကျ အုပ်ချုပ်သည်ဆိုသော ***ဘာသာရေး အရေးခြုံအစိုးရ*** *(Theocratic Government)* များလည်း ထွန်းကား ခဲ့သည်။

သူတို့ကို ဆန့်ကျင်လျှင် ဘုရားကိုဆန့်ကျင်ခြင်းပင် ဖြစ်သည်၊ ဘုရားကို ဆန့်ကျင်သော လုပ်ရပ်မှန်သမျှသည် အပြစ်ဖြစ်သည်။ ထို့ကြောင့် ဆန့်ကျင်သူမှန်သမျှသည် ယခုဘဝတွင် ကြီးလေးသောပြစ်ဒဏ်ကို ကျခံရမည့်အပြင် တမလွန်ဘဝတွင်လည်း ထာဝရငရဲတွင်းသို့ ပစ်ချခြင်းခံကြရလိမ့်မည် စသည်အားဖြင့် လူထုအား ဘာသာရေးမှိုင်းတိုက်၍ နိုင်ငံရေးအာဏာ ရယူလာခဲ့ကြခြင်းပင်ဖြစ်သည်။

မည်သို့ပင်ဆိုစေ၊ တိုးတက်လာသော အသိဉာဏ်၊ အတွေ့အကြုံဗဟုသုတ၊ တစ်ဒေသနှင့်တစ်ဒေသ လွယ်ကူချောမွေ့လာသည့် ကူးလူးဆက်ဆံမှုတို့ကြောင့် လူသားတို့သည် ထာဝရဘုရား၏လူဝင်စားများ၊ တမန်တော်များမှတစ်ဆင့် ဟောကြားခဲ့သည့် ထာဝရဘုရား၏အလိုတော်မှာ နေရာဒေသကိုလိုက်၍ ဖောက်လွဲဖောက်ပြန် ပြောင်းလဲတတ်ကြောင်း ကောင်းစွာ သတိပြုလာခဲ့မိကြသည်။ တစ်ခါတစ်ရံ ဒေသတစ်ရပ်၊ ကာလတစ်ခုတွင် ထာဝရဘုရားက ကောင်းမှုကုသိုလ်ဟု ပြဋ္ဌာန်းထားသော အပြုအမူသည် အခြားဒေသတစ်ရပ်၊ ကာလတစ်ခုတွင် ကြီးလေးသောအပြစ်ဖြစ်နေတတ်ပြန်သည်။ ဒေသတစ်ရပ် ကာလတစ်ခုတွင် ထာဝရဘုရားသည် သတ္တဝါတို့၏ အသွေးအသားနှင့် သွေးရည်ကို အလွန်နှစ်သက်တတ်သော်လည်း အခြားဒေသတစ်ရပ်၊ ကာလတစ်ခုတွင်မူ ထာဝရဘုရားသည် သွေးအသက်သတ်ခြင်းကိုမကြိုက်၊ သွေးရည်သွေးရက်တစ်စက်မျှပင် ခန္ဓာကိုယ်နှင့်မထိသင့်ဟု မြွက်ကြားတတ်ပြန်သည်။

ဤသို့ တောင်တစ်မျိုး မြောက်တစ်မျိုး ဖြစ်နေတတ်သော 'ထာဝရဘုရား၏တရား' နှင့် 'ထာဝရဘုရားရှိသည်ဆိုခြင်း' အပေါ် လူသားတို့ သံသယပွားလာခဲ့တော့သည်။ ထိုသံသယစိတ်များ တစ်စထက်တစ်စ ကြီးထွားလာခဲ့သည့်အလျောက် ဆန့်ကျင်မှုများလည်း ပေါ်ပေါက်လာခဲ့သည်။ သို့သော် လူအများစုကြီးမှာ မိရိုးဖလာယုံကြည်စွဲလမ်းမှုကို ဝေဖန်ဆန်းစစ်ဝံ့သောသတ္တိ ကင်းမဲ့ကြလေရာ ထာဝရဘုရား၏ ယဇ်ပလ္လင်သည် ဆန့်ကျင်သူတို့၏သွေးဖြင့် ခြင်းခြင်းနီခဲ့တော့သည်။

ထာဝရဘုရားသည် လူသားတို့၏စိတ်ကူးမှ ထွက်ပေါ်လာသူဖြစ်သည့်အလျောက် ယင်း၏ အတွေး၊ အမြင်၊ အပြုအမူ၊ စိတ်နေစိတ်ထားတို့မှာလည်း လူသားတို့နှင့် ထပ်တူညီလျက်ရှိသည်။ ၎င်းတွင် ချစ်ခင်ကြင်နာ၍ မေတ္တာတရား ပွားများတတ်သော နှလုံးသားရှိသကဲ့သို့ ရန်သူအပေါ် အငြိုးကြီးစွာ လက်စားချေတတ်သည့် စိတ်ထားလည်းရှိကြောင်း၊

ဘာသာရေး အတော်များများ၏ လက်စွဲကျမ်းစာများ၌ အထင်အရှား တွေ့ရှိနိုင်ပေသည်။

အချို့သောဒေသတွင် သူသည် ကျွဲနွားတိရစ္ဆာန်တို့၏ အသွေးအသားကိုသာမက လူအရှင်လတ်လတ်ကိုသတ်ဖြတ်၍ လူ့အသွေးအသားဖြင့်ယဇ်ပူဇော်မှုကိုပင် နှစ်ခြိုက်လိုလားခဲ့သည်။ ယင်းကဲ့သို့ လူသားအားယဇ်သတ္တဝါအဖြစ် သတ်မှတ်ပူဇော်ပသသည့် ဓလေ့သည် ယခုခေတ်တိုင်အလွန်ခေတ်နောက်ကျသော ဒေသအချို့တွင် ထွန်းကားလျက်ပင် ရှိသေးသည်။ အချို့ဒေသများ၌ ယဇ်ပွဲသဘင်ကာလသို့ ရောက်ရှိလာသောအခါမိမိတို့ထဲမှ ယဇ်ကောင်လူသား ရှာမရပါက မြို့စွန်မြို့ဖျားသို့တက်ပြီးလူယဉ်ကျေးများကိုအလစ်ဖမ်းကာ တောတွင်းသို့ခေါ်ဆောင်၍ ယဇ်ပူဇော်ပွဲသဘင် ဆင်နွှဲကြကြောင်း ကြားသိရသည်။

အကယ်စင်စစ် ဤကဲ့သို့ သူတို့လုပ်နေကြခြင်းသည် သူတို့သတ်ဖြတ်ခြင်းကိုခံကြရသည့် သတ္တဝါတို့အား မုန်းတီး၍ကားမဟုတ်။ သူတို့ယုံကြည်ကိုးကွယ်ရာပုဂ္ဂိုလ် တန်ခိုးရှင်အား ဤသို့မှမပူဇော် မပသပါကမိမိတို့လူ့အဖွဲ့အစည်းအပေါ် ပြစ်ဒဏ်ခတ်ခြင်းခံရမည်ကို စိုးရိမ်၍သာဖြစ်သည်။ ဤသို့သတ်ဖြတ် ပူဇော်ပသခြင်းအားဖြင့် အပူဇော်ခံပုဂ္ဂိုလ်တန်ခိုးရှင်သည် ကျေနပ်နှစ်သိမ့်မှုရရှိပြီး ထိုလူ့အဖွဲ့အစည်းပေါ်သို့ကောင်းချီးမင်္ဂလာအဖြာဖြာ ကျရောက်စေလိမ့်မည်။ သဘာဝဘေးဆိုးကပ်ဆိုးများနှင့် ရန်သူမျိုးငါးပါးဘေး စသောအန္တရာယ် ရန်အသွယ်သွယ်မှကင်းလွတ်ဝေးစေလိမ့်မည်ဟု အလေးအနက် ယုံကြည်ထားကြသောကြောင့်သာ ဖြစ်ပေသည်။ ယုံကြည်ချက် မှားယွင်းမှု၏ဒဏ်ကို လူသားတို့လှိမ့်ခံကြရခြင်းပင် ဖြစ်သည်၊

ထာဝရဘုရား၏ ယုံကြည်ကိုးစားမှု၊ အထွတ်အထိပ်ဖြစ်သောကောင်းချီးမင်္ဂလာ ပေးအပ်မှုကိုမျှော်ကိုး၍ လူသားအချို့သည် မိမိတို့ဘဝတွင်အမြတ်နိုးဆုံး ဘဝတူသက်ရှိတို့ကိုပင် အာရုံငါးပါး၊ ဆင်ခြင်တုံတရားတို့ဖြင့် မည်သို့မျှ ခံစားသိရှိနိုင်ခြင်းမရှိသည့် ဘာမှန်းမသိသောအရာအတွက် စွန့်လွှတ်စတေးခဲ့ကြသည်။ ယင်းကိုပင် ကြီးကျယ်စံတင်လောက်သော ယုံကြည်ကိုးကွယ်မှုအဖြစ် လွဲမှားစွာဂုဏ်ယူခဲ့ကြသည်။

လူသားသည် မိမိစိတ်ကူးဖြင့်ဖန်ဆင်းလိုက်သည့် ဘာမှန်း မသိသောအရာ၏ အဖန်ဆင်းခံကျေးကျွန်ဘဝသို့ ရောက်ခဲ့ရသည်။ ထို ဘာမှန်းမသိသောအရာသည်လည်း ထာဝစဉ်သွေးဆာနေသည့် တစ်ဦး တည်းသော

ဖန်ဆင်းရှင်ပုဂ္ဂိုလ်ကြီး ဖြစ်ခဲ့ရတော့သည်။

ဤအတွေးမှား၊ အယူမှားများအပေါ်အခြေခံကာ လူသားတို့ ကျူးလွန်ခဲ့သမျှအပြစ်တို့အား တစ်စုံတစ်ယောက်သောပုဂ္ဂိုလ်က ၄င်း၏ အသွေးအသားကိုစတေး၍ ဆေးကြောသုတ်သင် ပေးခဲ့ပြီးလေပြီ။ ၄င်းအား ယုံကြည်ကိုးကွယ်ပါက ကိုးကွယ်သူအပေါင်းသည် ဖန်ဆင်းရှင် ပုဂ္ဂိုလ်ကြီးအား အထွေထွေ ယဇ်ပူဇော်ပသမှု ပြုရန်မလိုတော့ဘဲ ကျူးလွန် ခဲ့သမျှ အပြစ်အပေါင်းမှ ကင်းလွတ်ငြိမ်းပေပြီဟူသော ဝါဒတစ်ရပ်လည်း ထွန်းကားလာခဲ့သည်။ ထို့အပြင် ၄င်းကိုယ်တိုင်မှာလည်း ဖန်ဆင်းရှင် ပုဂ္ဂိုလ်ကြီး၏ လူဝင်စားဖြစ်သည်ဟု ယင်းဝါဒကဆိုပြန်သည်။ ဖန်ဆင်းရှင် သည် လူသားတို့အပေါ် ၄င်းတေးမှတ်ထားသောအပြစ်တို့မှ ပပျောက်စေ ခြင်းငှာ လူ့လောကသို့ ၄င်းကိုယ်တိုင် လူသားဘဝခံယူ၍ မိမိအသွေး အသားဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်သတ်ဖြတ်စတေးခံကာ ပူဇော်ပသ လိုက်သည် ဆိုခြင်းမှာ လူသား၏အသိဉာဏ်နှင့် ဆင်ခြင်တုံတရားကို မျက်ကွယ်ပြုရာ ကျလွန်းလှပေသည်။

ယင်းဝါဒက လူသားချင်းစာနာစိတ်ဖြင့် မေတ္တာတရားထားကြရန် မည်သို့ပင် သွန်သင်စေကာမူ အခြေခံသဘောတရားမှာ ဖန်ဆင်းရှင်ပုဂ္ဂိုလ် ကြီးသည် အစဉ်သဖြင့်သွေးဆာနေသူတစ်ဦးဖြစ်သည်ဟု သွယ်ဝိုက် သောနည်းဖြင့် လက်ခံထားခြင်းပင်ဖြစ်သည်။ လူပုဂ္ဂိုလ်တစ်ဦးချင်း၏ စိတ်သန္တာန်မှအစပြု၍ ကျူးလွန်ခဲ့သောအပြစ်တို့အား ဖန်ဆင်းရှင်ကို အသွေးအသားနှင့် လာဘ်ထိုးခြင်းဖြင့် ပျောက်ကင်းစေနိုင်သည်ဟု ယုံကြည် ခြင်းပင်ဖြစ်သည်။

သို့ရာတွင် ယင်းယုံကြည်မှုသည် ဝါဒတစ်ပါး၏ချောက်ချားခြင်းမှ ကြံ့ကြံ့ခံနိုင်စွမ်း ရှိ-မရှိဆိုသည်ကိုကား သက်ဆိုင်ရာလူ့အဖွဲ့အစည်း အတွင်း၌ ဘာသာတရားကို ပစ်ပယ်သူဦးရေ တိုးပွားလာခြင်းက သက်သေ ထူလျက် ရှိလေတော့သည်။

အပြစ်ဟူသည် ဖန်ဆင်းရှင်ထာဝရဘုရား သို့မဟုတ် ဣဒ္ဒိပါဒ်ရှင် တို့၏ ပညတ်တားမြစ်ချက်များကို ဖောက်ဖျက်ကျူးလွန်ရာမှ ဖြစ်ပေါ် လာရသည်ဟူသော ယုံကြည်မှုမျိုးသည် သက်မဲ့သဘာဝတရားကို သက်ရှိတို့ နည်းတူ စိတ်၊ စေတသိတ်များဖြင့် ခံစားတတ်သည်ဟူသည့် ကျောက်ခေတ် လူသားတို့၏ အတွေးဟောင်း၊ အမြင်ဆွေးတို့ထက် ဘာမျှသာလွန် ကောင်းမွန်ခြင်း မရှိပေ။

မျက်မှောက်ခေတ် လူ့အဖွဲ့အစည်းကြီးအတွင်း၌ပင် မိမိတို့ ကိုယ်ကို ဘာသာတရား ကိုင်းရှိုင်းသူများအဖြစ် ခံယူထားသူအတော် များများသည် ယင်းယုံကြည်မှုမျိုးကို မျက်စိစုံမှိတ်၍ လက်ခံထားကြဆဲ ဖြစ်သည်။ သို့သော် မည်သည့်ဖန်ဆင်းရှင်၏ လူဝင်စားလည်းမဟုတ်၊ တမန်တော်လည်း မဟုတ်ဘဲ ကိုယ်ပိုင်လူစွမ်းလူစဖြင့် လောကဓမ္မအလုံးစုံကို သိမြင်ခဲ့သူ မဟာလူသား ဗုဒ္ဓကမူ လွန်ခဲ့သောနှစ်ပေါင်း နှစ်ထောင့် ခြောက်ရာခန့်ကပင် ယင်းသို့သော မှားယွင်းသည့် ယုံကြည်မှုအလုံးစုံကို တော်လှန်ပစ်ပယ် ခဲ့သည်။

ဗုဒ္ဓသည် သက်မဲ့ရုပ်ဝတ္ထုတို့နှင့် သက်ရှိသတ္တဝါတို့၏ ကွဲပြား ခြားနားသော သဘာဝကို စနစ်တကျခွဲခြမ်းစိတ်ဖြာ တင်ပြနိုင်ခဲ့သည်။ သက်မဲ့ဩကာသလောကနှင့် သက်ရှိသတ္တလောကတို့ကို ရောထွေးပြီး မစဉ်းစားခဲ့ချေ။ ရုပ်တရားနှင့်နာမ်တရားတို့ ၏ မတူညီသောနိယာမများကို လူအများ နားလည်သဘောပေါက်သည်အထိ တင်ပြနိုင်စွမ်းရှိခဲ့သည်။

ဗုဒ္ဓအလိုအရမူ အပြစ်ဟူသည်-

လူသားတို့၏ အာရုံငါးပါးနှင့် မည်သို့မျှထိတွေ့ခံစား၍ မရနိုင်သူ တို့၏ ပညတ်ချက်များကို ဖောက်ဖျက်ကျူးလွန်မှုကြောင့် ဖြစ်ပေါ် လာရခြင်း မဟုတ်ချေ။ သတ္တဝါတို့၏စိတ်သန္တန်တွင် ဖြစ်ပေါ်လာသော စေတနာ အလျောက် ခံစားရသည့် တုံ့ပြန်မှုတစ်ရပ်သာလျှင် ဖြစ်ပေသည်။ တစ်နည်း ဆိုသော် အပြစ်ဆိုသည်မှာ သက်ရှိတို့စိတ်အစဉ်တွင် ဖြစ်ထွန်း လာသည့် လောဘ၊ ဒေါသ၊ မောဟတရားများ၏ ထုထည်ပမာဏနှင့် လျော်ညီ ထိုက်တန်စွာ ခံစားရမည့်အကျိုးရလဒ်ပင် ဖြစ်သည်။ မည်သည့် ပြင်ပ ပယောဂ တစ်စုံတစ်ရာကမျှ ဝင်ရောက်စွက်ဖက်ခြင်းမရှိ၊ စွက်ဖက်နိုင်စွမ်း လည်းမရှိသော သက်ရှိတို့၏ သဘာဝတရားမျှသာ ဖြစ်ပေသည်။

လောကီလူ့အဖွဲ့အစည်းများ၌ ကာလဒေသအလိုက် ကွဲပြား ခြားနားစွာ အများသဘောတူ ပြဋ္ဌာန်းထားသည့် သက်ဆိုင်ရာဥပဒေများ၊ အမိန့်အာဏာများနှင့် ဖောက်ဖျက်သူများအပေါ် ထိုက်သင့်စေမည့် ပြစ်ဒဏ် သတ်မှတ်ချက်များ ရှိပေသည်။ ထို့ပြင် တစ်စုံတစ်ဦးအား ဥပဒေကိုဖောက် ဖျက်ခြင်း ရှိ-မရှိ စီရင်ဆုံးဖြတ်မည့် တရားသူကြီးများ၊ ရှေ့နေရှေ့ရပ်များနှင့် သက်သေခံ ပုဂ္ဂိုလ်များရှိပေသည်။ ထိုထိုသော ပုဂ္ဂိုလ်များသည် ပုထုဇဉ် လူသားများဖြစ်သည့်အလျောက် အမှားအယွင်းရှိနိုင်သည်။ လာဘ်ပေး လာဘ်ယူမှုလည်း ပြုနိုင်သည်။ သို့သော် သဘာဝတရားကား အမှားအယွင်း

မရှိ၊ ချစ်ခြင်းမုန်းခြင်းမရှိ၊ ဘက်လိုက်ခြင်းလည်း ကင်းသလို လာဘ်ပေး လာဘ်ယူပြု၍လည်း မရနိုင်ချေ။

သက်ရှိတို့၏ အပြုအမူကို အကြောင်းရင်းခံ၍ အကျိုးတရားခံစားရခြင်း၊ သက်ရှိတို့၏စိတ်အစဉ်တွင် ဖြစ်ပေါ်လာသော စေတနာအားလျော်စွာ စိတ်ပိုင်းဆိုင်ရာ လှုံ့ဆော်မှုများ ဖြစ်ပေါ်လာခြင်း၊ သက်မဲ့ရုပ်ပတ်ဝန်းကျင်ရှိ တောတောင်၊ ရေ၊ မြေ၊ လေ၊ မီး၊ အာကာသ၊ ဂြိုဟ်၊ နက္ခတ်တာရာ စသည်တို့၏ အချိန်ရာသီဥတုနှင့်အညီ စည်းချက်မှန်မှန် ပြောင်းလဲနေခြင်း၊ သက်ရှိသက်မဲ့တို့၏ ရုပ်ပိုင်းဆိုင်ရာ မျိုးရိုးဗီဇလိုက်တတ်ခြင်း၊ သက်ရှိတို့၏ ထူးခြားသော အပြုအမူကြောင့် သက်မဲ့လောကတွင် ထူးခြားသော ဖောက်ပြန်မှုများဖြစ်တတ်ခြင်းစသည့် သဘာဝ၏နိယာမတရားတို့ကို မည်သည့်ဖန်ဆင်းရှင် တန်ခိုးကြွဒ္ဓိပါဒ်ရှင်ကမျှ ကြိုးကိုင်ထိန်းချုပ်နိုင်စွမ်း မရှိပါပေ။

သဘာဝ၏ သိသာလွယ်သော စိတ်ပိုင်းဆိုင်ရာ နိယာမတစ်ရပ်ကို ပမာပြဆိုရသော်-

လူတစ်ဦးသည် တစ်စုံတစ်ဦးအပေါ် မကောင်းသောစိတ်ဖြင့် ပျက်စီးရာပျက်စီးကြောင်း ကြံစည်ပြောဆို လှုပ်ရှားနေချိန်ဝယ် သူ၏နှလုံးအိမ်၌ ပူလောင်ဆူပွက်သောဝေဒနာကိုလည်း တပြိုင်တည်းခံစားနေရမည်သာဖြစ်သည်။ ယင်းဝေဒနာခံစားရခြင်းသည် မည်သည့်တန်ခိုးရှင်ကမျှ ပြစ်ဒဏ်ခတ်ခြင်းကြောင့် မဟုတ်ပေ။ သဘာဝတရားသာ ဖြစ်ပေသည်။

ထိုသူသည်ပင် တစ်စုံတစ်ဦးအပေါ် ကောင်းမြတ်သော စေတနာဖြင့် ကူညီဖေးမမှုတစ်ခုခု ပြုလိုက်သည်ဆိုပါစို့။ ယင်းသို့ ကူညီဖေးမ နေချိန်နှင့် ကူညီဖေးမမှု အောင်မြင်ပြီးမြောက်သည့်အချိန်ဝယ် သူ၏နှလုံး အိမ်၌ ဖြစ်ပေါ်လာသော ကြည်နူးဝမ်းမြောက် ပီတိဖြစ်မှုသည်လည်း မည်သည့်ဖန်ဆင်းရှင်ဘုရားသခင်ကမျှ ကောင်းချီးပေးအပ်မှုကြောင့် ဖြစ်ပေါ်လာသည့် အကျိုးတရားမဟုတ်ချေ။ သဘာဝတရားသာလျှင် ဖြစ်ပေသည်။

လောကီလူ့ဘောင်အမြင်အရမူ တစ်စုံတစ်ယောက်သည် လူသတ်မှုကျူးလွန်လိုက်ပြီဆိုပါက ဦးစွာနစ်နာသူမှာ အသတ်ခံရသူ ဖြစ်သည်။ ထိုသူသေဆုံးသွားသဖြင့်သာ သတ်သူ၌အပြစ်ဖြစ်ရသည်ဟု အပေါ်ယံရုပ်တွေးကြပေလိမ့်မည်။ အမှန်ကား-

သတ်သူ၌အပြစ်ရခြင်းမှာ အသတ်ခံရသူသေဆုံးသွား၍ မဟုတ်ချေ။ သတ်သူအား လူသတ်မှုကျူးလွန်လောက်အောင် လှုံ့ဆော်ပေးသော

စေတနာကြောင့်သာ ဖြစ်ပေသည်။ ယင်းလူသတ်မှုသည် သက်သေမရှိ၊ ရာသက်ပန် တရားခံမပေါ်၍ လူသတ်သမားမှာ လောကီထုံးတမ်း ဥပဒေအရ အပြစ်ဒဏ်မကျခံရသော်ငြားလည်း သဘာဝ၏နိယာမတရားအရ တုံ့ပြန်ကျရောက်လာမည့် ပြစ်ဒဏ်ကိုကား မလွဲမသွေခံစားရမည်သာ ဖြစ်ပေသည်။ လူတို့သတ်မှတ်ထားသော သက်သေခံဥပဒေတို့နှင့် ညီညွတ်သည့် သက်သေတစ်စုံတစ်ရာမရှိသော်လည်း သဘာဝအလျောက် ထင်ရှားတိကျစွာ ထွက်ဆိုမည့်သက်သေက ရှိနေသောကြောင့်ပင်ဖြစ်သည်။

ထိုသက်သေကား အခြားမဟုတ်ချေ။ ယင်းလူသတ်သမား၏ စိတ်အစဉ်ပင်ဖြစ်တော့သည်။ ထိုလူသတ်သမား၏စိတ်အစဉ်တွင် လူတစ်ဦးအား သတ်ဖြတ်လောက်အောင် ဆိုးဝါးရုန့်ရင်းကြမ်းတမ်းသော စေတနာ၏တန်ခိုးကား မပျောက်မပျက်တည်ရှိနေပေပြီ။ ယင်းဆိုးယုတ်သည့်စိတ်တန်ခိုးသည် အစွမ်းပြနိုင်သည့်အချိန်တန်သည်နှင့် လူသတ်သမားအား တူညီသောဆိုးကျိုးကိုပေးရန် အစဉ်စောင့်ဆိုင်းလျက်ရှိ ပေသည်။

ထို့ကြောင့် အချို့သူများယူဆသလို လူသားတို့၏အပြစ်များကို ဖန်ဆင်းရှင်က ၎င်း၏မှတ်ပုံတင်စာအုပ်၌ စာရင်းရေးသွင်းနေစရာ မလိုပေ။ သိကြားမင်းက ခွေးရေပုရပိုက်နှင့် လိုက်မှတ်နေခြင်းမဟုတ်သလို ယမမင်းကလည်း စာရင်းပြုစုမထားပေ။ သိကြားမင်းတို့ ယမမင်းတို့ဆိုသည်မှာ လည်းသက်ရှိသတ္တဝါများပင် ဖြစ်သည့်အလျောက် ၎င်းတို့၏စိတ်အစဉ်တွင်ဖြစ်ပေါ်ခဲ့သည့် စေတနာတရား၏ ကောင်းကျိုး-ဆိုးပြစ်ကို ခံစားစံစားနေရသူများသာ ဖြစ်ကြပေသည်။ အကယ်စင်စစ် သတ္တဝါတို့၏ ကံကြမ္မာကို ဖန်တီးပေးနေသူမှာ သတ္တဝါတို့၏ရုပ်ခန္ဓာနှင့် တွဲလျက်ရှိနေသော၊ သတ္တဝါတို့ပြုသမျှ အမှုကိစ္စအဝဝကို မှတ်တမ်းတင်ပေးနေသော စိတ်အစဉ်ပင်ဖြစ်ပေသည်။

သတ္တဝါတို့၏ စိတ်သည်မမြဲပေ။ လက်ဖျစ်တစ်တီးတွင်ပင် ကုဋေနှင့်ချီ၍ ပြောင်းလဲနေသည်။ သို့သော် ယင်းစိတ်တို့၌ ဖြစ်ပေါ်နေခဲ့သော စေတနာတို့ကိုကား ပျက်ခါနီးစိတ်ဟောင်းတို့က ဖြစ်ခါနီးစိတ်သစ်တို့အား လက်ဆင့်ကမ်း အမွေပေးခဲ့စမြဲဖြစ်သည်။ ထို့ကြောင့် စိတ်သည် အစဉ်ဖြစ်ပျက် ပြောင်းလဲနေသော်လည်း ယင်းစိတ်အစဉ်တွင် ပေါ်ပေါက်ခဲ့သည့် စေတနာတို့၏ တန်ခိုးသတ္တိတို့မှာ မပျောက်မပျက် ဆက်လက်တည်ရှိနေမြဲဖြစ်သည်။

ပမာဆိုရသော် ပုဂံခေတ်က မြန်မာနိုင်ငံတွင် မြန်မာ့လူ့အဖွဲ့အစည်း နေထိုင်ခဲ့သလို ယခုခေတ်တွင်လည်း မြန်မာ့လူ့အဖွဲ့အစည်းပင် နေထိုင်လျက် ရှိသည်သာ ဖြစ်သည်။ သို့သော် ယခုခေတ်မြန်မာများသည် ပုဂံခေတ်က မြန်မာများ မဟုတ်တော့ချေ။ သို့လင့်ကစား ပုဂံခေတ်ကမြန်မာတို့ ပြုခဲ့သမျှ ကောင်းကျိုး-ဆိုးပြစ်တို့ကိုကား ယခုခေတ်မြန်မာတို့အနေနှင့် အလိုရှိသည် ဖြစ်စေ-အလိုမရှိသည်ဖြစ်စေ အမွေဆက်ခံကြရစမြဲ ဖြစ်သည်။

ထို့အတူပင် သက်ရှိတို့၏စိတ်အစဉ်သည် အတိတ်ကာလကပင် ရှိခဲ့သလို မျက်မှောက်ကာလမှာလည်း မိမိတို့ရုပ်ခန္ဓာနှင့်အတူ တည်ရှိနေပေသည်။ သို့သော် အတိတ်ကာလက စိတ်အစဉ်တွင်ပြုခဲ့သမျှ ကောင်းကျိုးဆိုးပြစ်တို့ကိုကား မျက်မှောက်ကာလ၏ စိတ်အစဉ်ဝယ် အလိုရှိသည်ဖြစ်စေ၊ အလိုမရှိသည်ဖြစ်စေ အမွေဆက်ခံရစမြဲပင် ဖြစ်တော့သည်။ ထို့ကြောင့် အတိတ်ကပါလာသော မကောင်းမှု(ဝါ)အပြစ်တို့သည် မျက်မှောက်ကာလ၌ အကျိုးပေးရန် အခွင့်သာသည်နှင့် ကာယကံရှင်အား ဆိုးကျိုးပေးတတ်ကြသည်။

ဤနေရာတွင် မကောင်းဆိုးရွားသော စေတနာတို့က သက်ရှိတို့အား မကောင်းဆိုးရွားသောအကျိုးကို ဖြစ်ထွန်းစေခြင်းနှင့် စပ်လျဉ်း၍ အနည်းငယ်ရှင်းလင်းတင်ပြရန် လိုအပ်လာပေသည်။

ဘဝဟူသည် အချိန်ကာလတိုင်းတွင် တွေ့ကြုံရင်ဆိုင်ရသည့် အခြေအနေများအပေါ် 'ရွေးချယ်ဆုံးဖြတ်မှုကလေး' များစွာဖြင့် တည်ဆောက်ထားခြင်း ဖြစ်ပေသည်။ ဘဝတွင် ကြုံတွေ့ရသော အခြေအနေအရပ်ရပ်၊ ပြဿနာအသွယ်သွယ်ကို မှန်ကန်သော ရွေးချယ်ဆုံးဖြတ်မှုတို့ဖြင့် ရင်ဆိုင်ဖြေရှင်းနိုင်ရန် အလွန်အရေးကြီးလှပေသည်။

အဆုံးအဖြတ် တစ်ချက်မှားသည်နှင့် ဘဝတစ်ခုလုံးကို ထိခိုက်စေနိုင်သည့် ကိစ္စများစွာရှိပေရာ ပြဿနာကြီးငယ်မဟူ မှန်ကန်စွာရွေးချယ်ဆုံးဖြတ်နိုင်စွမ်းရှိရန် အဓိကအရေးကြီးဆုံးကိစ္စမှာ ရွေးချယ်ဆုံးဖြတ်မည့်သူ၏ စိတ်အစဉ်သည် ရှင်းသန့်ကြည်လင်နေစေရန် အထူးလိုအပ်ခြင်းပင် ဖြစ်သည်။

လောဘ၊ ဒေါသ၊ မောဟ ကင်းနိုင်သမျှ ကင်းအောင် မိမိကိုယ်ကို စောင့်ထိန်းလျက် ကောင်းမှုကိုသာ ပြုတတ်သူတို့၏ စိတ်အစဉ်နှင့် လောဘ၊ ဒေါသ၊ မောဟတရားတို့ အစဉ်ဖုံးလွှမ်းကာ မကောင်းမှုကိုသာ ပြုတတ်သူတို့၏ စိတ်အစဉ်သည် လွန်စွာကွဲပြား ခြားနားလှပေသည်။ ကောင်းမှု

ပြုတတ်သူ၏ စိတ်အစဉ်သည် သန့်စင်ကြည်လင်သလောက် မကောင်းမှု ပြုတတ်သူ၏ စိတ်အစဉ်မှာကား အမြဲတစေ ရှုပ်ထွေးနောက်ကျိလျက် ရှိသည်။ အပျော်အပါး အသောက်အစားတို့နှင့် ခေတ္တအားဖြင့် အာရုံလွှဲ ထားနိုင်သော်လည်း အတွင်းစိတ်အစဉ်မှာမူ ညစ်ညူးမှုဖြင့် အတိပြီးလျက် ရှိပေသည်။

ထိုသို့ စိတ်အစဉ်ဝယ် ရှုပ်ထွေးနောက်ကျိနေသူများသည် ၎င်းတို့၏ဘဝတွင် ရင်ဆိုင်ကြုံတွေ့လာရသည့် ပြဿနာများကို ဖြေရှင်း သည့်အခါ အမှားမှားအယွင်းယွင်း ရွေးချယ်ဆုံးဖြတ်မိတတ်ကြသည်။ မိမိအတွက် အကျိုးပျက်စေမည့်၊ ဘေးအန္တရာယ် ကျရောက်စေမည့် နည်းလမ်းကိုသာ လွဲမှားစွာရွေးချယ်မိတတ်ကြသည်။ မိမိ၏ စိတ်အစဉ်ဝယ် တန်ခိုးထွားခဲ့သည့် စိတ်စေတနာဆိုးတို့ အားကောင်းလျှင်ကောင်းသလို အစွမ်းပြနိုင်သည့် အခြေအနေပေးသည်နှင့် ထိုသူအဖို့ ကြီးစွာသော ဆုံးရှုံးမှု များနှင့်သာ ရင်ဆိုင်ရရှာတော့သည်။ ယင်းဆုံးရှုံးမှုများသည် ထိုသူ၏ အတိတ်ကာလက စိတ်အစဉ်ဝယ်ဖြစ်ပေါ်ခဲ့သော စေတနာဆိုးများ၏ ရလဒ်ပင် ဖြစ်ပေသည်။

သို့ဖြစ်ပေရာ သဘာဝလောက၏ ဓမ္မနိယာမအရဆိုလျှင် သတ္တဝါ တို့အား ကောင်းကျိုးဆိုးပြစ် ပြဋ္ဌာန်းပေးနိုင်သည့် ဖန်ဆင်းရှင်ထာဝရဘုရား မရှိသလို အပြစ်ရှိ-မရှိ စစ်ဆေး စီရင်ချက်ချမှတ်ပေးသည့် ယမမင်းဆိုသူမျိုး လည်း အမှန်တကယ်မရှိပေ၊ ရှိရန်လည်း မလိုအပ်ချေ၊ သတ္တဝါမှန်သရွေ့ မိမိတို့ကျူးလွန်ခဲ့သော အပြစ်တို့အတွက် မိမိသာလျှင်သက်သေ၊ မိမိ သာလျှင်တရားသူကြီးဖြစ်ကာ မိမိနှင့်ထိုက်တန်သော ပြစ်ဒဏ်ကိုလည်း မိမိဘာသာမိမိ စီရင်ကြရသည်မှာ ဓမ္မတာပင်ဖြစ်သည်။

သို့သော် သတ္တဝါတို့၏ ကိုယ်ရည်ကိုယ်သွေး အဆင့်အတန်း၊ ပတ်ဝန်းကျင် လူ့အဖွဲ့အစည်းအတွင်း ကာလကြာရှည်စွာ အမြစ်တွယ် နေခဲ့သည့်အစွဲအလမ်း၊ အချိန်ကာလ၊ ဒေသ၊ အခြေအနေအရပ်ရပ်ပေါ် မူတည်၍ နာယူသူတို့အား သစ္စာတရားကို ပိုင်းခြားသိမြင်ရန် အမြန်ဆုံးနှင့် အထိရောက်ဆုံးနည်းလမ်းအား ရွေးချယ်ဆုံးမတတ်သော ဗုဒ္ဓမြတ်စွာသည် သူ၏ သုတ္တန်ဒေသနာအချို့တွင် ယမမင်းကို နိမိတ်ပုံတစ်ခုအဖြစ် ပါဝင် စေခဲ့ဖူးသည်။ ဤသည်ကို ကြိုးချည်မှတ်ကာ လောကတွင် သတ္တဝါတို့အား အပြစ်ကို စစ်ဆေးစီရင်နိုင်စွမ်းရှိသည့် တရားသူကြီးလို ယမမင်းမျိုး အစစ် အမှန်လောကတွင် တကယ်ရှိသည်ဟုကား မယူဆသင့်ချေ။ သတ္တဝါ

အပေါင်းအား သံသရာဝဋ်ဆင်းရဲအပေါင်းမှ ကင်းလွတ်ရာတရားကို သိမြင်စေလိုခြင်းဟူသည့် မူလရည်မှန်းချက်ခရီး ပေါက်ရောက်စေရေးကို ရှေးရှု၍ ဥပမာအလင်္ကာမြောက်စွာ ဟောကြားတော်မူတတ်သော ဗုဒ္ဓမြတ်စွာ၏ ဆိုလိုရင်းကို လေ့လာသူတို့ရိပ်စားမိရန် အရေးကြီးလှပေသည်။

သို့ဖြစ်ပေရာ လောဘ၊ ဒေါသ၊ မောဟတရားတို့ မကင်းစင်သေးသမျှ သတ္တဝါတိုင်း၌ အပြစ်ရှိသည်ဆိုခြင်းကိုမူ အငြင်းပွားဖွယ်မရှိချေ၊ သို့သော် ယင်းအပြစ်တို့သည် ဘုရားသခင် ပြဋ္ဌာန်းသော ဥပဒေ ပညတ်ချက်တို့ကို ကျူးလွန်ဖောက်ဖျက်မိ၍ကား လုံးဝမဟုတ်ပါချေ၊ အပြစ်ဟူသည် သတ္တဝါတို့၏စိတ်အစဉ်ဝယ် ပေါ်ပေါက်ခဲ့သော ဆိုးယုတ်သည့်စေတနာတို့၏ရလဒ်ပင် ဖြစ်တော့သည်။ အချို့အယူဝါဒများက ခံယူထားသလို အပြစ်ဟူသည် ကမ္ဘာဦးက ထာဝရဘုရား ဖန်ဆင်းပေးလိုက်သည့် ဧဒင်ဥယျာဉ်မှ ဖုန်းမောင်နှံက ထာဝရဘုရား၏ ပညတ်ချက်တို့ကို ဖောက်ဖျက်မိရာမှ စတင်ဖြစ်ပေါ်လာပြီး ယင်းအပြစ်ကို လူမျိုးနွယ်တစ်ခုလုံး သားစဉ်မြေးဆက် ခံစားသွားရမည်ဟူသော အယူအဆသည်လည်း ယုတ္တိမတန်တော့ချေ။ ယင်းအယူအဆသည် မျိုးရိုးလိုက်တတ်သော ရုပ်ပိုင်းဆိုင်ရာ 'ဗီဇနိယာမ' နှင့် ကိုယ့်ကြမ္မာကိုယ်ဖန်တီးနိုင်သည့် စိတ်ပိုင်းဆိုင်ရာ 'စိတ္တနိယာမ' တို့ကို ရောထွေးစိတ်ကူးခဲ့သော အယူဝါဒတစ်ရပ်သာ ဖြစ်သည်။

ထို့ကြောင့် ကျွန်ုပ်တို့ ပြုမိခဲ့သမျှအပြစ်တို့မှ ကင်းလွတ်ငြိမ်းရန်မှာ ဖန်ဆင်းရှင်ထာဝရဘုရားနှင့်တကွ တန်ခိုးရှင်တို့အား ကိုးကွယ်တိုးလျှိုးတောင်းပန်ခြင်းသည် အချည်းနှီးသောလုပ်ရပ်များသာ ဖြစ်သည်။ ထို့အတူ မြင့်မြတ်လှပါသည်ဆိုသော မြစ်ကြီးများအတွင်း ရေချိုးဆင်းသူများလည်း ရှိပေရာ သူတို့၏ရုပ်ခန္ဓာတွင် တွယ်ကပ်နေသောကြေးညှော်များ ကွာကျကောင်း ကွာကျသွားနိုင်ပေလိမ့်မည်။ စိတ်ဖြင့် ဦးဆောင်ကျူးလွန်ခဲ့၍ စိတ်အစဉ်တွင် ငြိစွန်းနေသည့် စေတနာဆိုးတို့ကိုကား ခွာချ၍မရနိုင်ချေ။ မိမိ၏ စိတ်အစဉ်တွင်ရှိနေသော အပြစ်များကုန်ခန်းသွားရန်အလို့ငှာ မိမိကိုယ်ကို ညှဉ်းဆဲခြင်း၊ အပျော်အပါးအသောက်အစား ကာမဂုဏ်အာရုံများဖြင့် လွှမ်းခြုံခြင်းတို့ဖြင့်လည်း မစွမ်းသာပေ။

ဤသို့ဆိုလျှင် သတ္တဝါတို့ပြုခဲ့သမျှ မကောင်းမှုတို့ကြောင့် ဖြစ်ထွန်းလာသည့် အပြစ်တို့၏ဒဏ်ကို သတ္တဝါအပေါင်း ခေါင်းငုံ့ခံကြရန်မှတစ်ပါး အခြားမည်သို့မျှ မတတ်စွမ်းနိုင်တော့ပြီလောဟု မေးဖွယ်ရှိပေသည်၊ ဤသို့ကားမဟုတ်ချေ။

ဗုဒ္ဓဝါဒသည် **ကံကြမ္မာဝါဒ** *(Fatalism)* မဟုတ်သလို ဗုဒ္ဓဝါဒီများသည်လည်း အတိတ်ကံပြုသမျှနှုကြရမည်ဟု တထစ်ချစွဲမှတ်ယူရန်မဟုတ်ပေ။

သတ္တဝါတို့သည် အပြစ်ကိုဖန်တီးခဲ့သူများဖြစ်သလို ယင်းအပြစ်တို့မှကင်းလွတ်ငြိမ်းအောင် ဆောင်ကြဉ်းနိုင်သူများမှာလည်း ယင်း သတ္တဝါများကိုယ်တိုင်ပင်ဖြစ်သည်။

သက်ရှိသတ္တဝါများ ဖြစ်ကြကုန်သော ကျွန်ုပ်တို့သည် ကျွန်ုပ်တို့ကျူးလွန်ခဲ့မိသမျှ အပြစ်တို့မှလွတ်ငြိမ်းလိုပါလျှင် ယင်းအပြစ်တို့ကို ကျူးလွန်စဉ်ကဖြစ်ပေါ်ခဲ့သည့် စိတ်စေတနာဆိုးများထက် အရှိန်အဝါကြီးမား လှသည့် စိတ်စေတနာကောင်းများကို မွေးမြူကြရန်သာ ဖြစ်ပေသည်။ ထိုသို့ စိတ်စေတနာကောင်းများ မွေးမြူနိုင်ရန်မှာလည်း မိမိတို့၏စိတ်အစဉ်ကို ညစ်ညူးအောင် အရောင်ဆိုးပေးမည့် လောဘ၊ ဒေါသ၊ မောဟဆိုင်ရာ စိတ်ဆိုးစိတ်ယုတ်များ ပေါ်ပေါက်မလာအောင် သတိတရားလက်ကိုင်ထားလျက် ဖယ်ရှားသန့်စင်ပစ်ကြရပေမည်။ စိတ်ဆိုး စိတ်ယုတ်များကို ဖယ်ရှား သန့်စင်ပစ်နိုင်သည်နှင့်အမျှ ကျွန်ုပ်တို့၏ စိတ်အစဉ်သည် သန့်စင်ကြည်လင်လာပြီး စိတ်ကောင်း စိတ်မြတ်များက အစားထိုးနေရာယူလာကြပေလိမ့်မည်။

စိတ်ကောင်း စိတ်မြတ်များ တန်ခိုးထွားလာသည်နှင့်အမျှ စိတ်ဆိုးစိတ်ယုတ်တို့သည်လည်း အရှိန်အဝါ မှေးမှိန်သွားပေမည်။ ဤနည်းအားဖြင့် ကျွန်ုပ်တို့ အတိတ်ကပြုခဲ့သမျှ စေတနာဆိုးတို့၏ တန်ခိုးသတ္တိကို သူ့ထက်သာလွန်အားကောင်းသော ပစ္စုပ္ပန်စေတနာကောင်းတို့၏ တန်ခိုးသတ္တိက လွှမ်းမိုးချေဖျက်ကာ ကျွန်ုပ်တို့ကျူးလွန်ခဲ့သမျှအပြစ်တို့မှ ကင်းလွတ်ငြိမ်းနိုင်ပေသည်။

သို့သော် ဘဝခရီးတစ်လျှောက် မမြင်မစမ်း လျှောက်လှမ်းခဲ့ကြရကုန်သော ကျွန်ုပ်တို့၏စိတ်အစဉ်ဝယ် ဖြစ်ပေါ်ခဲ့သည့်စေတနာတို့သည် အကောင်းထက်အဆိုးကသာ များခဲ့ပေသည်။ ထို့ကြောင့် အရိယာသူတော်စင်ကြီးများသော်မှ မျက်မှောက်ကာလတွင် အပြစ်ဟူ၍မြူမျှ မတင်အောင် စောင့်စည်းထားနိုင်ခဲ့၊ စိတ်စေတနာကောင်းများ မွေးမြူထားနိုင်ခဲ့ကြသော်လည်း အတိတ်ကာလများစွာက ထုထည်ကြီးမားစွာ ရှိနေခဲ့သည့် စိတ်စေတနာဆိုးတို့၏ မကုန်ခန်းနိုင်သေးသော အရှိန်အဝါ၏ဒဏ်ကို နောက်ဆုံးအချိန်၌ပင် ခံစားသွားခဲ့ကြရဖူးပေသည်။

သို့ဖြစ်ရာ အပြစ်တို့မှ တတ်နိုင်သရွေ့ကင်းလွတ်လိုသော၊ အပြစ်များကိုလည်း မဖြစ်ထွန်းစေလိုသောသူတို့အနေဖြင့် မိမိတို့၏ စိတ်အစဉ်တွင် ဆိုးယုတ်သည့်စေတနာများ ပေါ်ပေါက်မလာအောင် မိမိစိတ်ကိုမိမိ သတိတရားဖြင့် စောင့်ကြည့်ထိန်းကွပ်ပေးရန် အထူးလိုအပ်လှပေသည်။

ဤသို့ မိမိတို့၏စိတ်အစဉ်ဝယ် လောဘ၊ ဒေါသ၊ မောဟဆိုင်ရာ စိတ်ဆိုး၊ စိတ်ယုတ်များ ပေါ်ပေါက်မလာအောင် မိမိစိတ်ကိုမိမိ အသိတရားဖြင့် ထိန်းကွပ်ခြင်းသည် ဗုဒ္ဓမြတ်စွာဟောကြားခဲ့သည့် သစ္စာဉာဏ်ရရာ အကြောင်းခုနစ်ပါး (ဗောဇ္ဈင်ခုနစ်ပါး) အနက်မှ ပဓာနအကျဆုံးဖြစ်သည့် သတိသမ္ဗောဇ္ဈင်ကို ပွားများရာလည်း ရောက်ပေသည်။

သတိသမ္ဗောဇ္ဈင်ကို ဆောင်ကြဉ်းအားထုတ် ပွားများခြင်းဖြင့် ကျန်ဗောဇ္ဈင်ခြောက်ပါးကလည်း အလိုအလျောက်လိုက်ပါ ပြည့်စုံလာပေလိမ့်မည်။ ဤနည်းအားဖြင့် ကျွန်ုပ်တို့သည် မိမိတို့ပြုခဲ့မိသမျှ အပြစ်အပေါင်းမှ ကင်းလွတ်ချမ်းသာခွင့် ရရှိနိုင်ရုံသာမက အပြစ်ဖြစ်ရာ အကြောင်းတရားမှန်သမျှတို့မှ ထာဝရကင်းဝေးရာ သစ္စာတရားကိုသိမြင်ပိုင်ဆိုင်သည်အထိ ဘဝ၏အမြင့်မားဆုံးပန်းတိုင်ကိုပင် လှမ်းကိုင်နိုင်မည်ဖြစ်ပေတော့သည်။ ။

(၇-၇-၉၁)

ဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ အောက်တိုဘာလ။

# လောက၏အစကို ရှာဖွေခြင်း

ကျွန်ုပ်တို့ မှီတင်းနေထိုင်ရာ ဤလောကကြီးသည် မည်သို့စတင် ပေါ်ပေါက်လာခဲ့ပါသနည်း၊ မည်သို့သောအကြောင်းအားဖြင့် ချုပ်ငြိမ်း လိမ့်ဦးမည်နည်း။

ဤအမေးပုစ္ဆာများသည် လူသားတို့အတွက် အသစ်အဆန်း မဟုတ်တော့ပေ။ လူဟု သတ်မှတ်နိုင်လောက်သော အသိဉာဏ်အဆင့် အတန်းကို ပိုင်ဆိုင်လာခဲ့သည့်ကာလမှစ၍ လူ့သမိုင်းတစ်လျှောက် တွေးဆ အဖြေရှာခဲ့ကြသော အမေးပုစ္ဆာများပင် ဖြစ်သည်။

ခေတ်အဆက်ဆက်တွင် အယူဝါဒအမျိုးမျိုးက အဖြေအမျိုးမျိုး ပေးခဲ့ကြသည်။ ဗုဒ္ဓဝါဒမှအပ အခြားအခြားသော ဘာသာအယူဝါဒ အတော်များများသည် ယင်းအမေးပုစ္ဆာများအား ဖြေဆိုခြင်းအပေါ် အခြေခံ၍ တည်ဆောက်ထားခဲ့ကြောင်း တွေ့ရှိရပေလိမ့်မည်။

လူသားတို့သည် မိမိတို့ဉာဏ်မမီသော ပြဿနာများအတွက် အဖြေကို ဘာသာတရားတွင် သွားရောက်ရှာဖွေလေ့ရှိကြသည်။ ထို့ကြောင့် လည်း '*သိပ္ပံပညာ၏အဆုံးတွင် ဘာသာတရားသည်စတင်၏*' ဟူသော အဆို ပေါ်ပေါက်ခဲ့ခြင်းဖြစ်ပေလိမ့်မည်။

ကမ္ဘာ့ရှေးအကျဆုံးနှင့် ယခုထက်တိုင် သက်ဝင်လှုပ်ရှားနေဆဲ ဘာသာ အယူဝါဒတစ်ခုဖြစ်သည့် ဂျူးဘာသာ၏ ထောရ်ကျမ်းစာမှ ပထမ ဦးဆုံးကျမ်းငယ်တစ်ခုဖြစ်သော ကမ္ဘာဦးကျမ်းတွင် လေကကြီးနှင့်တကွ သက်ရှိသက်မဲ့အားလုံးကို ယေဟောဝါဘုရားက ဖန်ဆင်းခဲ့ကြောင်း အတိ အလင်း ဖော်ပြထားခဲ့လေသည်။

ဂျူးဘာသာကိုအရင်းခံ၍ ဖြာထွက်လာခဲ့သော ခရစ်ယာန် ဘာသာနှင့်အစ္စလာမ်ဘာသာတို့ကလည်း ယင်းအယူအဆကိုပင် လက်ဆင့်ကမ်း ခံယူထားခဲ့ကြ၏။ ဟိန္ဒူဘာသာကလည်း လောကကြီး၏ အစသည် မဟာဗြဟ္မာကြီး၏ ဖန်ဆင်းမှုပင်ဖြစ်သည်ဟု ဆိုထားခဲ့၏။

ဘာသာစကား အသုံးအနှုန်းပေါ်လိုက်၍ ယေဟောဝါ၊ ဂေါ့ဒ်၊

အလ္လာ၊ မဟာဗြဟ္မာကြီး၊ ထာဝရဘုရားသခင်ဟု အမျိုးမျိုးမှည့်ခေါ်နေကြသော်လည်း အနှစ်သာရအားဖြင့်မူ လောက၏ဖန်ဆင်းရှင် တစ်ဆူတည်းသော ထာဝရဘုရားသခင်ကိုသာ ရည်ညွှန်းခဲ့ကြလေသည်။ လောကသည် ထာဝရဘုရားသခင်၏ အလိုတော်အရ ဖန်ဆင်းမှုဖြင့်စတင်ခဲ့ပြီး သူ၏ ဖျက်သိမ်းခြင်းဖြင့်သာ ပျက်စီးချုပ်ငြိမ်း အဆုံးသတ်လိမ့်မည်ဟု ထိုဘာသာတရားအားလုံးက လက်ခံယုံကြည်ထားကြလေသည်။

ကျွန်ုပ်တို့ ယုံကြည်ဆည်းကပ် ကိုးကွယ်ကြကုန်သော ရှင်တော်မြတ်ဗုဒ္ဓက လောက၏အစ၊ လောက၏အဆုံးတို့နှင့် စပ်လျဉ်း၍ မည်သို့မြွက်ကြားတော်မူခဲ့ပါသနည်း။

မြတ်ဗုဒ္ဓက '*ငါသည် လောက၏အစဟု သိအပ်သောတရားကိုလည်းသိ၏။ ထိုထက်လွန်မြတ်သော တရားကိုလည်းသိ၏။ ထိုသို့သိသော်လည်း မှားသောအားဖြင့် မသုံးသပ်၊ မှားသောအားဖြင့် မသုံးသပ်ခြင်းကြောင့် ငါသည် မိမိ၌ ကိလေသာငြိမ်းခြင်းကို ကိုယ်တိုင်ကိုယ်ကျသိ၏။ ယင်းသို့သိသော ငါဘုရားသည် ဆင်းရဲခြင်းသို့ မရောက်နိုင် တော့ပေ*' (ဒီဃနိကာယ်၊ ပါထိကသုတ်) ဟု ဟောကြားခဲ့သည်။

ထိုသို့ ဟောကြားရာတွင် 'လောက၏အစဟု သိအပ်သောတရားကိုလည်းသိ၏' ဟု ဆိုလိုက်ခြင်းသည် 'လောကတွင်အစရှိ၏' ဟု ဆိုလိုခြင်း မဟုတ်ကြောင်း သတိပြုရန်လိုပါသည်။ ထိုစဉ်က လောက၌အစရှိ၏ဟုသာ ယူဆစွဲလမ်းနေသော အတ္တဝါဒီပရိဗိုဇ်တစ်ဦး နားလည်လွယ်စေရန် လောက၏အစဟု သိအပ်သောတရားဟု ဆိုခဲ့ခြင်းဖြစ်သည်။

လောက၏အစနှင့် ပတ်သက်၍လည်းကောင်း၊ အဆုံးနှင့်ပတ်သက်၍လည်းကောင်း မည်သို့စ၍ မည်သို့ဆုံးမည်ဆိုသည့် မေးခွန်းကို ဗုဒ္ဓသည် ဖြေဆိုရန် ငြင်းပယ်ခဲ့ဖူး၏။ အဘယ်ကြောင့်ဆိုသော် ယင်းမေးခွန်းများသည် ဗုဒ္ဓ၏အနတ္တဒေသနာကို သဘောမပေါက်သေးသူများ အတွက်သာဖြစ်သောကြောင့်ပါပေ။

လောက၏ဖြစ်စဉ်အပေါ် မှန်ကန်စွာသုံးသပ်ခြင်းအားဖြင့် လောကသည် အနှစ်သာရကင်းမဲ့၏ဟူသည့် အနတ္တတရားကို သဘောပေါက်နားလည်ပါက လောက၏အစဟု သိအပ်သောတရားထက် သာလွန်မြင့်မြတ်သော ဆင်းရဲဒုက္ခအပေါင်းမှ ငြိမ်းအေးရာတရားကို ရရှိလိမ့်မည်ဟု ဆိုလိုခြင်းဖြစ်ပေသည်။

ထို့အပြင် ဗုဒ္ဓက လောကကို မဟာဗြဟ္မာကြီး (ခေါ်) ထာဝရဘုရား

သခင်က ဖန်ဆင်းခြင်းဖြင့် စတင်သည်ဟူသော မှားယွင်းသည့် အယူအဆမည်သို့ ပေါ်ပေါက်လာကြောင်းကိုလည်း မြွက်ကြားခဲ့လေသည်။

*ဤကမ္ဘာလောကကြီးသည် ပျက်စီးပြီး၍ ကာလကြာမြင့်သော အခါ တစ်ဖန်ပြန်၍ ဖြစ်တည်လတ်သော် အာဘဿရ ဗြဟ္မာဘုံမှ သတ္တဝါ တစ်ဦးသည် သတ္တဝါဆိတ်သုန်းနေသော ဗြဟ္မာဗိမာန်တစ်ခု၌ ဖြစ်ပေါ်လေ၏။ ထိုဗြဟ္မာသည် ဈာန်စိတ်ဖြင့်ပြီးလျက် နှစ်သိမ့်ခြင်းပီတိလျှင် အစာရှိ၏။ မိမိကိုယ်ရောင်ဖြင့် လင်းလျက် ကောင်းကင်၌ ကျက်စား၏။ တင့်တယ်သော နေရာရှိ၍ ကာလကြာမြင့်စွာတည်၏။*

*ထိုဗြဟ္မာသည် ကာလကြာမြင့်စွာ တစ်ဦးတည်းနေရသောအခါ၌ ငြီးငွေ့လာပြီး အခြားသောသတ္တဝါတို့သည်လည်း ဤဘုံသို့ ရောက်လာကြပါမူ ကောင်းလေစွဟု တောင့်တ၏၊ ယင်းသို့ တောင့်တပြီး မကြာမီပင် အခြားသတ္တဝါတို့သည်လည်း ကံအားလျော်စွာ ထိုဘုံသို့ရောက်လာ ကြသည်။ ထိုအခါ ပထမဗြဟ္မာကြီးအား 'ဤသူတို့သည် ငါဖန်ဆင်း၍ ဖြစ်ပေါ်လာကြရကုန်၏' ဟု အကြံဖြစ်၏။ နောက်မှ ဖြစ်ပေါ်လာသော သတ္တဝါတို့ကလည်း 'ဤသူသည် ငါတို့၏ ဖန်ဆင်းရှင်ဖြစ်၏' ဟု ယုံကြည်သွားကြလေသည်။ အကြောင်းမှာ ပထမဗြဟ္မာကြီးသည် သူတို့ထက်ပို၍ အသက်ရှည်သည့်အပြင် ရုပ်အဆင်း တန်ခိုးအရှိန်အဝါ အားဖြင့်လည်း သာလွန်သောကြောင့် ဖြစ်ပေသည်။*

*တစ်ဖန် ဗြဟ္မာဘုံသို့ နောက်ရောက်သော သတ္တဝါတို့အနက်မှ တစ်ဦးသည် ဗြဟ္မာဘုံမှစုတေ၍ လူ့ဘုံသို့ရောက်လာ၏။ သူသည် ရသေ့ရဟန်းဝတ်၍ တရားအားထုတ်ရာမှ ဈာန်အဘိညာဉ်ကို ရရှိသဖြင့် ဗြဟ္မာဘုံ၌ မိမိဖြစ်ခဲ့ရပုံကို ပြန်ပြောင်း၍ ဆင်ခြင်အောက်မေ့လေ၏။ ထိုအခါ မိမိတို့မရောက်မီက ရှိနေခဲ့သော ဗြဟ္မာကြီးမှာ ယခုတိုင်ပင် ရှိနေသေးသည်ကို မြင်ရသဖြင့် ထိုဗြဟ္မာကြီးသည် မပျက်မစီး အမြဲတည်နေသူဖြစ်ပြီး မိမိတို့မှာမူ အမြဲမတည်သူများ ဖြစ်သည်ဟု ယုံကြည်ယူဆလေတော့သည်။ ဤသို့ဖြင့် လောက၏အစသည် ဖန်ဆင်းရှင် ဗြဟ္မာဖြစ်သည်ဟူသော ပြောဆိုပညတ်ခြင်းသည် ဖြစ်ပေါ်လာပေ၏။* (ဒီဃနိကာယ်၊ ပါထိကသုတ်) ဟု ဟောကြားခဲ့လေသည်။

တစ်ဖန် 'လောကသည် အကြောင်းမဲ့သက်သက် ဖြစ်ပေါ်လာခဲ့သည်' ဟူသည့် အယူအဆသည်လည်း မှားယွင်းကြောင်းကို ဗုဒ္ဓက-

*သိမှတ်မှုသညာ ကင်းမဲ့သဖြင့် အသညသတ္တအမည်ရှိ ဗြဟ္မာများ*

*နိုကြ၏။ ထိုဗြဟ္မာတို့သည် သညာဖြစ်ပေါ်လာသည်နှင့်တစ်ပြိုင်နက် ထိုဗြဟ္မာဘုံမှ စုတေကြ၏။ ယင်းသို့ စုတေသော သတ္တဝါတစ်ဦးသည် လူ့ဘုံ သို့ရောက်ပြီး ရသေ့ရဟန်းဝတ်၍ တရားအားထုတ်ရာ ဈာန်အဘိညာဉ် ရရှိ၍ မိမိဘဝဖြစ်ပေါ်လာပုံကို ဆင်ခြင်အောက်မေ့လေသည်။ ထိုအခါ သူက 'အတ္တသည်လည်းကောင်း၊ လောကသည်လည်းကောင်း အကြောင်းမဲ့ ဖြစ်ပေါ်၏၊ အဘယ့်ကြောင့်ဆိုသော် ငါသည် ရှေ့ကမရှိခဲ့ဘဲ ယခုမှ ထင်ရှား ရှိလာသောကြောင့်ဖြစ်သည်' ဟု ပြောဆိုလေ၏။ ဤသို့လျှင် လောကသည် အကြောင်းမဲ့ ဖြစ်ပေါ်လာသည်ဟူသော အယူဝါဒသည် ပေါ်ပေါက်လာ မည်၏* ဟု ဟောကြားခဲ့ပါသည်။

သို့ဆိုလျှင် လောက၏အစ၊ လောက၏အဆုံးတို့နှင့် ပတ်သက်၍ ဗုဒ္ဓ၏အယူအဆကား ဘယ်သို့နည်း။ ယင်းအမေးပုစ္ဆာများသည် အနတ္တဝါဒီ ဗုဒ္ဓဘာသာဝင်တို့အတွက် မလိုအပ်သော အမေးပုစ္ဆာများသာ ဖြစ်ပေသည်။

လောကကို ထာဝရဘုရားသခင်က ဖန်ဆင်းခဲ့သည်ဟူသော အယူ အဆသည်လည်းကောင်း၊ လောကသည် အကြောင်းမဲ့ဖြစ်ပေါ်လာသည် ဟူသော အယူအဆသည်လည်းကောင်း အတ္တဝါဒရပ်တည်မှုအတွက် အခြေခံအုတ်မြစ်များသာ ဖြစ်ပေသည်။

အတ္တဝါဒကို ယေဘုယျအကြမ်းဖျင်းအားဖြင့် ဝိညာဏဝါဒ (ဝါ) နာမ်ဝါဒနှင့်ရုပ်ဝါဒဟူ၍ နှစ်မျိုးခွဲခြားနိုင်သည်။ ဝိညာဏဝါဒ (ဝါ) နာမ်ဝါဒ ဆိုသည်မှာ ထာဝရမဖောက်မပြန်၊ အဆုံးအစမရှိတည်နေပြီး ယင်းဝိညာဉ် တော်၏တန်ခိုးဖြင့် လောကကြီးဖြစ်တည်လာရသည်။ ယင်းဝိညာဉ်တော် သည်သာ သက်ရှိသက်မဲ့အရာအားလုံး၏ အမြဲတေဖြစ်သည်၊ အနှစ်သာရ ဖြစ်သည်၊ အတ္တဖြစ်သည်ဟု ယူဆသောဝါဒဖြစ်၏။

ရုပ်ဝါဒမှာမူ လောက၏အစသည် ရုပ်ဖြစ်သည်။ ရုပ်သည်သာ အစဉ်မပြောင်းလဲ မဖောက်ပြန်၊ တည်တံ့ခိုင်မြဲသော အနှစ်သာရဖြစ်သည်၊ နာမ်ဟူသည် ရုပ်၏အမြင့်မားဆုံး စွမ်းအင်တစ်ရပ်သာဖြစ်သည်၊ ရုပ်သည်သာ အတ္တဖြစ်သည်ဟု ယူဆသောဝါဒဖြစ်၏။

ယင်းဝါဒနှစ်ရပ်သည် လောက၏အစသည် နာမ်ဖြစ်သည်၊ ရုပ်ဖြစ် သည်ဟု အငြင်းပွားနေကြသော်လည်း ယင်းတို့၏ တူညီသောယူဆချက် မှာကား လောကတွင် အစဉ်မဖောက်ပြန်၊ မပြောင်းလဲဘဲ အမြဲတည်တံ့ခိုင်မာ နေသော အမြဲတေအနှစ်သာရရှိသည်၊ တစ်နည်းဆိုသော် အတ္တရှိသည်ဟု ယူဆထားခြင်းပင် ဖြစ်သည်။ ထို့ကြောင့် သူတို့၏အတ္တဝါဒ ခိုင်မာနိုင်ရန်

အတွက် လောကတွင်အစရှိသည်၊ အဆုံးရှိသည်ဟူသော ယူဆချက်ကို ထူထောင်ခဲ့ရခြင်းပင် ဖြစ်သည်။

အနတ္တဝါဒီ ဗုဒ္ဓကမူ ဤလောကကြီးတွင် မည်သို့မျှ ထုခွဲဖျက်ဆီး၍ မရသော အစဉ်မဖောက်မပြန် မပြောင်းမလဲတည်ရှိနေသည့် အမာခံအနှစ်သာရဟူသည် မရှိကြောင်း၊ တစ်နည်းဆိုသော် လောက၏အမာခံအနှစ်သာရသည် နာမ်လည်းမဟုတ်၊ ရုပ်လည်းမဟုတ်ကြောင်း၊ လောကတွင် အတ္တဟူသည် မရှိကြောင်း ကြေညာခဲ့ပြီးဖြစ်၏။ လောကကြီးသည် အနှစ်သာရမရှိဘဲ အစဉ်မတည်မြဲ၊ ဖောက်ပြန်ပြောင်းလဲနေသော ဖြစ်ပျက်မှုအစဉ်ကြီးတစ်ရပ်ဟုသာ ဗုဒ္ဓကရှုမြင်ခဲ့သည်။ ဗုဒ္ဓ၏အလိုအရ သက်ရှိသတ္တဝါများပါဝင်သည့် သတ္တလောကနှင့် ယင်းတို့မှီခိုပေါက်ဖွားရာ ရုပ်ပတ်ဝန်းကျင်ဖြစ်သော ဩကာသလောကတို့သည် အမြဲဖောက်ပြန်ပြောင်းလဲနေသော သင်္ခါရလောက၏ အဖွဲ့ဝင်များသာလျှင် ဖြစ်သည်။

ဤအချက်ကို မျက်မှောက်ခေတ် သိပ္ပံပညာရှင်များနှင့် နက္ခတ္တဗေဒပညာရှင်များကလည်း လက်ခံလာခဲ့ကြရပြီ ဖြစ်သည်။

သူတို့၏ လေ့လာတွေ့ရှိချက်များအရ ကျွန်ုပ်တို့ မှီတင်းနေထိုင်ရာ ဤကမ္ဘာမြေအပါအဝင် ဂြိုဟ်ကြီးကိုးလုံး၊ အရံဂြိုဟ်(၄၃)လုံးဖြင့် ဖွဲ့စည်းထားသော နေအဖွဲ့အစည်းကဲ့သို့သော နေအဖွဲ့အစည်းပေါင်း သိန်းသန်းကုဋေကုဋာချီ၍ မဟာစကြဝဠာ သမုဒ္ဒရာကြီးအတွင်းဝယ် လွင့်မျောလျက်ရှိနေကြသည်။ ယင်းသို့လွင့်မျောနေသော နေအဖွဲ့အစည်းပေါင်း သိန်းချီစုစည်းထားသည့်အစုတစ်စုကို ဂယ်လက်ဆီဟုခေါ်သည်။ ယင်းဂယ်လက်ဆီတစ်ခုတွင် ကြယ်သန်းပေါင်း တစ်သိန်းအထိ ပါဝင်နိုင်သည်။ ကြယ်များဖြင့် ပြွတ်သိပ်နေရာ အဝေးမှကြည့်လျှင် တစ်လုံးချင်းခွဲမရနိုင်ဘဲ ဖြူဖွေးနေသော အခိုးအငွေ့ကဲ့သို့ လည်းကောင်း၊ နို့ရည်ဆမ်းထားသော လမ်းကြောင်းကဲ့သို့ လည်းကောင်း တွေ့မြင်ရသောကြောင့် နဂါးငွေ့တန်းဟုလည်း ခေါ်ကြ သည်။ ယင်းနဂါးငွေ့တန်း ကုဋေပေါင်းများစွာသည် မဟာစကြဝဠာ သမုဒ္ဒရာကြီးအတွင်းဝယ် လွင့်မျောလျက်ရှိနေကြသည်။ ကျွန်ုပ်တို့၏ သူရိယနေမင်းကြီးသည်လည်း ကြယ်တစ်လုံးပင်ဖြစ်ပေရာ မဟာစကြဝဠာ သမုဒ္ဒရာကြီးနှင့်နှိုင်းစာလျှင် မြူမှုန်တစ်ခုမျှသာဖြစ်သည်။

ဤသို့ကျယ်ပြောလှသော မဟာစကြဝဠာ သမုဒ္ဒရာကြီးထဲတွင် ကြယ်တာရာ ပေါက်ကွဲမှုများလည်း ဖြစ်ပေါ်လျက်ရှိနေကြသည်။ ယင်းကြယ်တာရာ ပေါက်ကွဲမှုများသည်ပင် နေအဖွဲ့အစည်းတစ်ခု၏ အစလည်း

ဖြစ်သည်။ ယင်းသို့ပေါက်ကွဲမှု ဖြစ်ပွားရခြင်းမှာ စကြဝဠာအတွင်း ဓာတ်သဘာဝများ ဖောက်ပြန်ပြောင်းလဲမှုကြောင့် သော်လည်းကောင်း၊ ဂြိုဟ်များ တစ်ခုနှင့်တစ်ခု တိုက်ခိုက်မိ၍ သော်လည်းကောင်း၊ ယင်းဂြိုဟ်များ၏ အတွင်းဓာတ်သဘာဝ ထကြွယိုယွင်းခြင်းကြောင့် သော်လည်းကောင်း ဖြစ်ပွားလာရခြင်းဖြစ်သည်။ ယင်းပေါက်ကွဲမှုကြောင့် ယင်းကြယ်တာရာမှ ဒြပ်ဝတ္ထုအားလုံးသည် အာကာသဟင်းလင်းပြင်တွင် လွင့်စင်ထွက်သွားကာ ဟိုက်ဒြိုဂျင် ဓာတ်ငွေ့မှုန်များအဖြစ် ပြောင်းလဲသွားတော့သည်။ ယင်းဓာတ်ငွေ့မှုန်များ စုစည်းမိလာသောအခါ ဟိုက်ဒြိုဂျင်ဓာတ်ငွေ့ တိမ်ဆိုင်ကြီး ဖြစ်လာခဲ့ပြန်သည်။ ယင်းဟိုက်ဒြိုဂျင်ဓာတ်ငွေ့ တိမ်ဆိုင်ကြီးမှသည် ဟိုက်ဒြိုဂျင်ဓာတ်ငွေ့လုံးကြီး ဖြစ်လာပြီးနောက် ကာလတစ်ခုကြာမြင့်လာသောအခါ ကြယ်တာရာသစ်တစ်လုံးအဖြစ် ပြောင်းလဲပေါ်ပေါက်လာခဲ့သည်။ ယင်းကြယ်တာရာကိုဗဟိုပြု၍ ယင်းမှကွဲထွက်လာသော ဂြိုဟ်ရံများကလည်း ယင်းကြယ်တာရာ၏ ဆွဲငင်အားစက်ကွင်းအတွင်း ဝန်းရံလှည့်ပတ်တည်ရှိနေခြင်းဖြင့် နေအဖွဲ့အစည်းသစ်တစ်ခုအဖြစ် တည်ရှိလာတော့သည်။

ယင်းဖြစ်ရပ်မျိုးများစွာသည် မဟာစကြဝဠာ သမုဒ္ဒရာအနှံ့ ဖြစ်ပွားနေကြခြင်းဖြစ်သည်။

ပေါက်ကွဲသည့် ကြယ်တာရာကပေါက်ကွဲ၊ ဓာတ်ငွေ့ တိမ်ဆိုင်ကြီးများ ဖြစ်သည်ကဖြစ်၊ ကြယ်တာရာအသစ်အဖြစ် ပေါ်ထွန်းသည်က ပေါ်ထွန်းနှင့် အစဉ်သဖြင့် ဖြစ်ခြင်း၊ တည်ခြင်း၊ ပျက်ခြင်း သဘောတို့ကိုသာ ဆောင်လျက်ရှိနေသည်ကို တွေ့ရှိရမည်ဖြစ်သည်။

ဤတွေ့ရှိချက်များသည် စကြဝဠာအနန္တဟူသည့် ဗုဒ္ဓ၏စကားနှင့် သဗ္ဗေသင်္ခါရာအနိစ္စါ ဆိုသည့် ဗုဒ္ဓ၏တရားတို့ကို မှန်ကန်ကြောင်း သက်သေခံလျက်ရှိနေ၏။

အမှန်ကား ကျွန်ုပ်တို့၏ကမ္ဘာမြေပါဝင်သည့် နေအဖွဲ့အစည်းသည်လည်း လွန်ခဲ့သောနှစ်သန်းပေါင်း ၁၅,၀၀၀ ခန့်က ဖြစ်ပေါ်ခဲ့သော ကြယ်တာရာပေါက်ကွဲမှုတစ်ခု၏ ရလဒ်ပင်ဖြစ်သည်။ ထို့ကြောင့်ပင် အီလီနွိုက်(စ်)တက္ကသိုလ်မှ နက္ခတ္တရူပဗေဒပညာရှင် လာရီစမားက '*ကျွန်ုပ်တို့ အားလုံးသည် ကြယ်ပေါက်ကွဲခြင်းများ၏ မြေးမြစ်များဖြစ် ကြသည်*' ဟု တင်စားပြောဆိုခဲ့ဖူးသည်။

ကျွန်ုပ်တို့က လွန်ခဲ့သောနှစ်သန်းပေါင်း ၁၅,၀၀၀ ခန့်က

ပေါက်ကွဲမှုဟု ဆိုလိုက်သော်လည်း မဟာစကြဝဠာ သမုဒ္ဒရာကြီးအနေဖြင့်မူ ရေပွက်ပမာ ခဏတာကာလလေးမျှသာဖြစ်၏။ ကွန်ပ်တို့ခန္ဓာကိုယ် အတွင်းရှိ ဆဲလ်ကလေးများသည် အချိန်တိုင်းတွင် အဟောင်းများပျက်စီး နေပြီး အသစ်များကအစားထိုး ပေါ်ပေါက်နေသလိုပင် မဟာစကြဝဠာ သမုဒ္ဒရာကြီးထဲတွင်လည်း အချိန်တိုင်းတွင် နေအဖွဲ့အစည်းဟောင်းများ ပေါက်ကွဲ 'ပျက်စီး' နေကာ နေအဖွဲ့အစည်းသစ်များကလည်း 'ဖြစ်ပေါ်' လျက်ရှိနေပေသည်။

ကြယ်ဟောင်းတစ်လုံး၏ အဆုံးသတ်မှုသည် ကြယ်သစ်တစ်လုံး ဖြစ်ပေါ်ရေးအတွက် ကနဦးအစ ဖြစ်နေသည်။ ကြယ်သစ်တစ်လုံး ဖြစ်ပေါ်တည်ရှိမှုသည်လည်း ကြယ်ဟောင်းတစ်လုံး ပျက်စီးပေါက်ကွဲခြင်းအတွက် အစဟု ခေါ်ဆိုနိုင်သည်။ တစ်ချိန်တည်းတွင် ဖြစ်တည်ခြင်းနှင့် ပျက်သုဉ်းခြင်းတို့ ဖြစ်ပေါ်နေသော မဟာစကြဝဠာသမုဒ္ဒရာသည် အချိန်ကာလ ဆိုသည့်ပညတ်ချက်မှ ကင်းလွတ်နေလေတော့သည်။

စင်စစ်အားဖြင့် လောကကြီးသည် ဖြစ်ခြင်းနှင့်ပျက်ခြင်းဟူသော ဘယ်ဘက်နှင့် ညာဘက်အကြား မှန်မှန်လှုပ်ရှားနေသော နာရီချိန်သီးနှင့်သာတူ၏။ နာရီလက်တံများက နာရီ၊ မိနစ်၊ စက္ကန့်များကို ညွှန်ပြ နေလင့်ကစား နာရီချိန်သီးအဖို့မူ ဘယ်နှင့်ညာအကြား စည်းချက်မှန်မှန် လှုပ်ရှားနေခြင်းမှအပ ဘာမျှထူးခြားမှုမရှိပါပေ။

လူသားတို့သည် နာရီဒိုင်ခွက်ကိုသာ ကြည့်မိကြပြီး နာရီချိန်သီးကို ဂရုမမူမိကြသောကြောင့်သာ အချိန်ကာလဆိုသည့် ပညတ်ချက်ဘောင် အတွင်း ကျရောက်နေခြင်းဖြစ်သည်။ ဖြစ်ခြင်းနှင့်ပျက်ခြင်းအကြား စည်းချက်မှန်မှန် လှုပ်ရှားနေသော လောကကြီးအဖို့ အချိန်ကာလဆိုသည့် ပညတ်ချက်မှ ကင်းလွတ်နေပေရာ အစနှင့်အဆုံးဆိုသည့် ပညတ်စကား များမှာလည်း လောကကြီးတွင် အဓိပ္ပာယ်ရှိတော့မည် မဟုတ်ပါပေ။

ဤသို့ဆိုလျှင် လောက၏အစသည် အဘယ်နည်း၊ လောက၏ အဆုံးသည် အဘယ်နည်းဆိုသော အမေးပုစ္ဆာတို့သည် အဓိပ္ပာယ်ရှိသော အမေးပုစ္ဆာများ ဟုတ်မှန်ပါဦးမည်လော။ ရှင်တော်မြတ်ဗုဒ္ဓသည် သူ့ထံ လာရောက် လျှောက်ထားမေးမြန်းသော အမေးပုစ္ဆာများအနက်မှ အဓိပ္ပာယ် မဲ့နေသည့်မေးခွန်းများကို အဓိပ္ပာယ်ရှိအောင် ပြုပြင်ဖြေရှင်းပေးခဲ့ဖူး၏။

တစ်ခါက ရဟန်းတစ်ပါးသည် ဗုဒ္ဓအား 'မဟာဘုတ်လေးပါးသည် အဘယ်အရပ်၌ အကြွင်းမဲ့ ချုပ်ငြိမ်းပါသနည်း' ဟု လျှောက်ထား

မေးမြန်းခဲ့ရာ ဗုဒ္ဓက '*မဟာဘုတ်လေးပါးသည် ဘယ်အရပ်၌ အကြွင်းမဲ့ ချုပ်ပါသနည်းဟုကား ပြဿနာကိုမမေးအပ်၊ ဘယ်အရပ်၌ မဟာဘုတ် လေးပါးသည် မတည်သနည်း၊ ဘယ်အရပ်၌ အရှည်အတို၊ အငယ်အကြီး၊ အကောင်းအဆိုးတို့သည် မရှိပါသနည်း၊ ဘယ်အရပ်၌ နာမ်ရုပ်သည် အကြွင်းမဲ့ချုပ်ပါသနည်းဟူသော မေးမြန်းအပ်ပေသည်*' ဟု အဓိပ္ပာယ်မဲ့ နေသောမေးခွန်းကို အဓိပ္ပာယ်ရှိအောင် ပြုပြင်ပေးခဲ့သည်။

ထို့နောက် ဗုဒ္ဓက '*မျက်စိဖြင့်မမြင်နိုင်၊ ဥပါဒ် ဋ္ဌီ ဘင် အပိုင်း အခြား လည်းမရှိဘဲ ထက်ဝန်းကျင်မှ သက်ဝင်ရာ ဆိပ်ကမ်းရှိသော၊ ဉာဏ်အထူး ဖြင့်သာသိအပ်သော နိဗ္ဗာန်သည်ရှိ၏။ ဤနိဗ္ဗာန်၌ မဟာဘုတ်လေးပါးသည် မတည်ကုန်၊ အရှည်အတို၊ အငယ်အကြီး၊ အကောင်းအဆိုး တို့သည်လည်း မရှိကုန်၊ နာမ်ရုပ်တို့သည်လည်း အကြွင်းမဲ့ချုပ်ကုန်၏*' (ဒီဃနိကာယ်၊ ကေဝဋ္ဋသုတ်) ဟု ပြဿနာကို ဖြေရှင်းပေးခဲ့ဖူးသည်။

လောက၏အစသည် အဘယ်နည်း၊ လောက၏အဆုံးသည် အဘယ်နည်းဟူသော မေးခွန်း၊ ပုစ္ဆာများမှာလည်း အစဉ်ဖောက်ပြန် ပြောင်းလဲကာ အနှစ်သာရဟူ၍ ဘာမျှမရှိသောလောက၏ အနတ္တသဘောကို နားမလည်သူများ၏ ပုစ္ဆာမှားများသာဖြစ်သည်။ တစ်နည်းဆိုသော် အနတ္တ သဘောကို မသိမြင်သဖြင့် အတ္တ၏အစကို ရှာခဲ့ကြခြင်းဟုလည်း ဆိုနိုင် ပေသည်။ အတ္တ၏အစကိုရှာခြင်းဟူသော ပုစ္ဆာအမှားအတွက် ထာဝရဘုရား သခင်က ဖန်ဆင်းသည်ဟု လည်းကောင်း၊ အကြောင်းမဲ့ ပေါ်ပေါက်သည်ဟု လည်းကောင်း အဖြေမှားများရရှိခဲ့ခြင်းမှာ မထူးဆန်းချေ။ သို့ဖြစ်ပေရာ-

အနတ္တဝါဒီ ဗုဒ္ဓဘာသာဝင်တို့အနေနှင့်ကား လောက၏အစနှင့် အဆုံးကို ရှာဖွေကြံစည်နေတော့မည်မဟုတ်ဘဲ ဓာတ်ကြီးလေးပါး မတည် ရှိသော၊ အရှည်အတို အကြီးအငယ် အကောင်းအဆိုး မရှိကုန်သော၊ နာမ်ရုပ်တို့ အကြွင်းမဲ့ချုပ်ငြိမ်းကုန်သော မဂ်ဖိုလ်နိဗ္ဗာန်ရောက်ကြောင်း တရား မြတ်ကို ကြံစည်အားထုတ်ခြင်းသည်သာ အဓိပ္ပာယ်ပြည့်ဝသောအလုပ်ဟု အစဉ်ခံယူထားကြရမည်ဖြစ်ကြောင်း တင်ပြလိုက်ရပါတော့သည်။ ။

(၁၆-၃-၉၁)

ဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ မေလ။

# အပြုအဖျက် ဤနှစ်ချက်ကို . . .

နေသာသောနေ့တစ်နေ့က ရန်ကုန်မြို့ပေါ်ရှိ တန်ခိုးကြီး စေတီတော်တစ်ဆူအား သွားရောက်ဖူးမြော်ခဲ့သည်။ မိုးသားတိမ်လိပ် ကင်းစင်ကာ ကြည်လင်တောက်ပသော နေရောင်ခြည်အောက်တွင် ငွါးငွါး စွင့်စွင့်ရွှေရောင်ဝင့်နေသော စေတီတော်ကြီးကား ကြည်ညို၍မဝနိုင် လောက်အောင် သပ္ပာယ်လှပေသည်။ မြတ်ဗုဒ္ဓ၏ ဂုဏ်တော်အနန္တကို ကိုယ်စားပြု၍ ရွှေတောင်ရွှေထုကြီးပမာ တည်နေဟန်ကလည်း ဘုရားဖူး လာသူများအား သဒ္ဓါတရား ယိုဖိတ်ပွားစေတော့သည်။ သည်ရွှေတောင် ရွှေထုကြီးနှင့်အတူ ဗုဒ္ဓမြတ်စွာ၏ သာသနာတော်သည်လည်း နှစ်ပေါင်း များစွာ ကျောက်စာတိုင်ကဲ့သို့ သန့်ရှင်းစွာတည်တံ့ခိုင်မာ နေလိမ့်ဦးမည်ဟု မျှော်လင့်မိပေသည်။

စေတီတော်အား လက်ယာရစ်ပတ်၍ ဖူးမြော်ကြည်ညိုရင်း လျှောက်လှမ်းလာခဲ့ရာ ရင်ပြင်တော် တစ်နေရာအရောက်တွင် ဆုတောင်း သလိုလို၊ မန္တန်ရွတ်သလိုလို ထူးခြားသောလေယူလေသိမ်းဖြင့် ရွတ်ဖတ် သရဇ္ဈာယ်သံများနှင့် တရုတ်ဆွဲလဲသံတချွင်ချွင်ကို ကြားလိုက်ရသဖြင့် အသံ လာရာဘက်ဆီသို့ လှမ်းကြည့်လိုက်မိသည်။ တွေ့လိုက်ရသည့် မြင်ကွင်းက စာရေးသူအား အံ့သြတုန်လှုပ်သွားစေခဲ့သည်။

မြတ်ဗုဒ္ဓ၏ဓာတ်တော်တို့ ကိန်းဝပ်အပူဇော်ခံရာ ဤဌာနတွင် ရတနာမြတ်သုံးပါးအနက် တစ်ပါးတွင်မျှအကျုံးမဝင်သူများ၏ ရုပ်တုကြီး များကို အဆောင်အယောင် အခမ်းအနားဖြင့် ပန်း၊ ဆွမ်း၊ ရေချမ်း၊ ငှက်ပျောပွဲ၊ အုန်းပွဲ၊ အမွှေးနံ့သာများ ဆက်ကပ်ပူဇော်ကာ ဆုတောင်းဆုယူ လုပ်နေကြခြင်းကြောင့်ပင် ဖြစ်သည်။

ဗုဒ္ဓရှင်တော်မြတ်ဘုရားက လောကဥ္စေတီတည်၍ ကိုးကွယ် ထိုက်သော ပုဂ္ဂိုလ်လေးဦးရှိကြောင်း၊ ယင်းတို့မှာ (၁) ဗုဒ္ဓမြတ်စွာဘုရား၊ (၂) ပစ္စေကဗုဒ္ဓါ၊ (၃) အရိယာဖြစ်ပြီးသော ဗုဒ္ဓမြတ်စွာ၏ရဟန်းတော် သာဝကနှင့် (၄) စကြာမင်းတို့ ဖြစ်ကြောင်း ဟောကြားတော်မူခဲ့ပေသည်။ (ထူပါရဟာသုတ်၊ စတုက္ကနိပါတ်၊ အင်္ဂုတ္တရနိကာယ်။) ယခုမူ ဗုဒ္ဓမြတ်စွာ ဘုရားအားရည်စူး၍ တည်ထားကိုးကွယ်သော စေတီတော်ရင်ပြင်ပေါ်တွင်

ဘိုးတော်၊ ဘတော်၊ မယ်တော်၊ အစ်မတော် အမည်ခံ ဝိဇ္ဇာမိုရ်ရှင့် နတ်များက ဘုရားနှင့်စင်ပြိုင် အကိုးကွယ်ခံနေကြသည်မှာ အမြင်မတော်၊ ဆင်တော်နှင့် ခလောက်ဆိုသကဲ့သို့ ဖြစ်နေချေတော့သည်။

သူတို့အား ယုံကြည်ကိုးကွယ်သူအချို့က ပြောကြသည်။ ဤပုဂ္ဂိုလ်ကြီးများသည် ယခုပင် ဝိပဿနာလမ်းကိုလိုက်၍ ကျင့်ကြံအားထုတ်လိုက်ပါက မဂ်ဉာဏ် ဖိုလ်ဉာဏ်ကို လျင်မြန်စွာရပြီး နိဗ္ဗာန်အားမျက်မှောက်ပြုနိုင်ကြသူများဖြစ်သည်။ သို့သော် အဝိဇ္ဇာလွှမ်း၍ မသိနားမလည် မိုက်မဲကြကုန်သော သတ္တဝါအပေါင်းကို သနားသက်ညှာလှသဖြင့် ထိုက်သင့်သူတို့အား ကယ်တင်စောင်မရင်း သာသနာပြုနေကြသူများ ဖြစ်သည်။ သတ္တဝါတို့အပေါ် မိဘ၊ ဆရာသမားသဖွယ် စောင်မကြည့်ရှုနေသူများဖြစ်၍ အနန္တောအနန္တဂိုဏ်းဝင် ကျေးဇူးရှင်များဖြစ်ကြသည်။ ထို့ကြောင့် သူတို့အား ကိုးကွယ် ဆည်းကပ်ထိုက်သည်ဟု ဆိုကြသည်။

ဤနေရာတွင် သတိချပ်ရန်မှာ ရတနာမြတ်သုံးပါးနှင့် အနန္တော အနန္တငါးပါးတို့၏ ကွဲပြားခြားနားမှု ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်တို့အနေနှင့် ကိုးကွယ်ရာဟူ၍ ဆည်းကပ်ထိုက်သည်မှာ ဘုရား၊ တရား၊ သံဃာတည်းဟူသော ရတနာမြတ်သုံးပါးသာလျှင်ဖြစ်သည်။ နောက်လူတို့က မိဘနှင့် ဆရာကို ပေါင်းထည့်ကာ အနန္တောအနန္တငါးပါးအဖြစ် သတ်မှတ်လိုက်သော်လည်း ရတနာသုံးပါးနှင့်တန်းတူထား ကိုးကွယ်ရန်မဟုတ်ပေ။

မိဘနှင့်ဆရာသမားတို့အား ကျေးဇူးရှင်များအဖြစ် သတ်မှတ်ကာ ဗုဒ္ဓဟောကြားတော်မူခဲ့သည့် သားသမီးဝတ်၊ တပည့်ဝတ်တို့နှင့်အညီ အရိုအသေပေး၊ အလုပ်အကျွေးပြုခြင်းဖြင့် ကျေးဇူးဆပ်ရန်သာဖြစ်သည်။ ရတနာမြတ်သုံးပါးနှင့် တန်းတူထား၍ ကိုးကွယ်ယုံကြည် ဆည်းကပ်ရန်ကား မဟုတ်ချေ။ ထို့ကြောင့် ၎င်းတို့ပြောသလို သတ္တဝါများအပေါ် အမှန်တကယ် ကယ်တင် စောင့်ရှောက်နေသည်ပဲ ထားဦးတော့၊ စစ်မှန်သော ထေရဝါဒဗုဒ္ဓဘာသာဝင် တစ်ဦးအနေဖြင့်ကား ရတနာမြတ်သုံးပါးနှင့် တန်းတူထား၍ ကိုးကွယ်ဆည်းကပ်ရန်မလိုကြောင်း ထင်ရှားလှပေသည်။

တစ်ရံရောအခါက ဗာရာဏသီပြည်တွင် ဗြဟ္မဒတ်မင်းစိုးစံစဉ် ဝိဇ္ဇာမိုရ်တစ်ဦးသည် ညဥ့်သန်းခေါင်ယံအချိန်၌ မိဖုရားကြီးအဆောင်တော်သို့ တန်ခိုးဣဒ္ဓိပါဒ်ဖြင့်ဝင်ရောက်ကာ ကာမဂုဏ်ကျူးလွန်ခဲ့သည်။ ထိုကိစ္စကို မင်းကြီးသိရှိသွားသဖြင့် ၎င်းအားလိုက်လံဖမ်းဆီးစေခဲ့ရာ ဝိဇ္ဇာမိုရ်သည် ရဟန်းအသွင်ဆောင်၍ သုသာန်အတွင်း၌ ညာခြေတစ်ဖက်

တည်းနှင့်ရပ်ကာ မန္တန်ရွတ်ဖတ်သရဇ္ဈာယ်ရင်း နေကိုရှိခိုးဟန်ပြုနေလေသည်။ ထိုရဟန်းတုအား မင်းချင်းများက လိုက်လံဖမ်းဆီးရာ ဝိဇ္ဇာဓိုရ်တန်ခိုးဖြင့် ထွက်ပြေးလွတ်မြောက်သွားတော့သည်။ ထိုအချိန်မှစ၍ ရဟန်းစစ်နှင့် ရဟန်းတုမခွဲခြားတတ်သော ပြဟ္မဒတ်မင်းသည် ရဟန်း မှန်သမျှ မင်းပြစ်မင်းဒဏ်သင့်စေသဖြင့် ရဟန်းစစ်များပါ ထွက်ပြေး တိမ်းရှောင်ခဲ့ရရာ ပြည်သူအများ ကိုးကွယ်ရာမဲ့ဘဝ ရောက်ခဲ့ရဖူးသည်။ (ဝိဇ္ဇာဓရဇာတ်၊ ဆက္ကနိပါတ်၊ ဇာတကဝတ္ထု။)

ဤသည်ကား ဝိဇ္ဇာဓိုရ်ဆိုတိုင်း ကိုးကွယ်ဆည်းကပ်လိုသူများ အတွက် သတိချပ်စရာသာဓကတစ်ရပ်ပင်ဖြစ်သည်။ ထို့အပြင် ဝိဇ္ဇာဓိုရ်က ရဟန်းအသွင်ဆောင်ကာ လူတွေအံ့သြအောင်လုပ်ပြီး ထွက်ပြေးသွားပုံ မှာလည်း ယခုခေတ်တွင် ရဟန်းဟုအမည်ခံကာ ရဟန်းကိစ္စမလုပ်ဘဲ ဝိဇ္ဇာဓရလမ်းလိုက်နေသူများနှင့် နှိုင်းယှဉ်သုံးသပ်ဖွယ်ရာ ကိစ္စတစ်ရပ်ဖြစ် ပေသည်။ ယင်းသို့ ဘုရားအရေတော်ခြုံပြီး ဘုရားလမ်းစဉ်နှင့် ဆန့်ကျင် လုပ်ကိုင်နေသူများကြောင့် ရဟန်းစစ် ရဟန်းမှန်များအပေါ်တွင်ပါ ကြည်ညို သဒ္ဓါ ပျက်စေနိုင်ပါသည်။

အချို့ကလည်း ယင်းဝိဇ္ဇာဓိုရ်ဆိုသူများသည် သတ္တဝါအပေါင်းကို ကယ်တင်ရင်း နောင်ပွင့်မည့် အရှင်အရိမေတ္တေယျ မြတ်စွာဘုရားကို ဖူးမြော်ရန် စောင့်ဆိုင်းနေကြသည်ဟုဆိုသည်။ ယင်းသို့ ကာလရှည်ကြာစွာ စောင့်ဆိုင်းနိုင်ရန်အတွက် ၎င်းတို့၏သက်တမ်းကို ရှည်သည်ထက် ရှည်အောင် ကျင့်ကြံအားထုတ် နေကြရသည်ဟုလည်း ဆိုကြပြန်သည်။ ဤသည်မှာလည်း ပညာဉာဏ်ရှိသူတို့ လက်ခံနိုင်စရာ အကြောင်းမရှိသော ဆင်ခြေတစ်ရပ်သာ ဖြစ်ချေသည်။ ဗုဒ္ဓရှင်တော်မြတ် ဘုရားက 'ဤကမ္ဘာတွင် ပွင့်ကြကုန်သော ဘုရားငါးဆူတို့တွင် တစ်ဆူနှင့်တစ်ဆူအကြားမှာ ဤမဟာ ပထဝီမြေကြီးသည် တစ်ယူဇနာခန့်၊ တစ်ယူဇနာခန့်တိုးတက်၏။ ဝေပုလ္လ တောင်သည် တစ်ယူဇနာ၊ တစ်ယူဇနာခန့် မြေထဲမြုပ်ဝင်လေ၏' ဟု ဟော ကြားတော်မူခဲ့ဖူးပါသည်။ (ဝေပုလ္လသုတ်၊ အနမတဂ္ဂ သံယုတ်။) တစ်ယူဇနာ တွင် ရှစ်မိုင်ခန့်ရှိရာ ဘုရားတစ်ဆူနှင့် တစ်ဆူအကြား စောင့်ဆိုင်းရမည့် ကာလကို ကွန်ုပ်တို့ခန့်မှန်းတွက်ချက် သိရှိနိုင်ပါသည်။

ဗုဒ္ဓမြတ်စွာ၏အလိုအရမူ မတည်မြဲသော၊ ဆင်းရဲသော၊ အစိုးမရသော ဤလောကမှ တစ်စက္ကန့်စော၍ လွတ်မြောက်နိုင်လျှင်ပင် တစ်စက္ကန့်စော၍ ချမ်းသာသုခရပြီဟု မှတ်ယူရမည်သာဖြစ်သည်။ မိမိတို့

မျက်မှောက်၌ပင် ဆင်းရဲခြင်းအပေါင်းမှ လွတ်မြောက်ရာ တရားစစ် တရားမှန်တို့ ရှင်သန်ထွန်းကားနေပါလျက် မလိုက်နာမကျင့်ကြံသေးဘဲ နောက်ဘုရားအပွင့်ကို စောင့်ဆိုင်းမည်ဆိုခြင်းမှာ ဉာဏ်ပညာနည်းသော လုပ်ရပ်သာ ဖြစ်ပေလိမ့်မည်။ ဂေါတမဗုဒ္ဓမြတ်စွာကို ဖူးမြော်လိုသဖြင့် ကာလကြာရှည် စောင့်ဆိုင်းခဲ့သော ဈာန်ရရသေ့ကြီး ကာဠဒေဝီလပင်လျှင် ဗုဒ္ဓအလောင်းလျာ သိဒ္ဓတ္ထမင်းသားလေးကိုသာ ဖူးတွေ့ခဲ့ရသည်။ ဗုဒ္ဓအဖြစ် ပွင့်တော်မူချိန်တွင်မူ ကံတရား၏အလိုကို မလွန်ဆန်နိုင်ရှာဘဲ ရသေ့ဘဝမှ စုတေသွားခဲ့ရသဖြင့် ဗုဒ္ဓသာသနာတော်နှင့် အလွဲကြီးလွဲခဲ့ရဖူးပါသည်။

ယခုသောက်လျှင် ယခုပင်ရောဂါပျောက်နိုင်သည့် ဆေးတော်ကြီးကို လက်ဝယ်ပိုင်ပိုင် ရရှိထားပါလျက်နှင့် မမွေးသေးသည့်ဆေးဆရာကို စောင့်မျှော်နေမည်ဆိုပါက ဆရာမလာမီ ရောဂါကျွမ်းသွားနိုင်ပေသည်။ စစ်မှန်သော 'ဓမ္မ' ဟူသည် မည်သည့် ဗုဒ္ဓမြတ်စွာကပင်ဟောဟော တစ်ခု တည်းသာဖြစ်သည်။ ဂင်္ဂါဝါဠုသဲစုမက ပွင့်တော်မူခဲ့ကြကုန်သော၊ ပွင့်ဆဲ ဖြစ်သော၊ ပွင့်လတ္တံ့သော ဗုဒ္ဓမှန်သမျှသည် ဤဓမ္မကိုသာ လမ်းညွှန်ကြမည် ဖြစ်သည်။ မြတ်ဗုဒ္ဓ၏ သာသနာတော်အတွင်းဝယ် စစ်မှန်သော ဓမ္မဒေသနာ တော်တို့ တည်ရှိနေပါလျက် မဂ်ဖိုလ်နိဗ္ဗာန်ကို မရည်သန်ဘဲ မတည်မြဲသော လောကီတန်ခိုး ဣဒ္ဓိပါဒ်များနှင့်သာ ပျော်မွေ့နေသူများကား ကျေးဇူးရှင် လယ်တီဆရာတော်ဘုရားကြီး ရေးသားခဲ့သလို 'ခွင့်သာခိုက်ကမှ မလိုက်ချင်လျှင် အမိုက်နင့်ပြင် ရှိသေးလေလိမ့်လား' ဆိုသကဲ့သို့ ဖြစ်နေ ပေလိမ့်မည်။ အမှန်အားဖြင့်မူ ထိုထိုသောပုဂ္ဂိုလ်များသည် မိမိတို့၏ ခန္ဓာငါးပါး ရုပ်နာမ်တရားတို့ကို တွယ်တာကပ်ငြိကာ မိမိတို့သက်တမ်း ရှည်သည်ထက်ရှည်ရေး၊ တန်ခိုးဣဒ္ဓိပါဒ်တွေ တိုးသည်ထက် တိုးရေး အတွက် လူအများကို လောကီစည်းစိမ် ဥစ္စာများနှင့်မျှားကာ ၄င်းတို့လိုရာသုံး နေကြခြင်းသာ ဖြစ်တော့သည်။ ၄င်းတို့၏ ကိုယ်ကျိုးစီးပွားအတွက် 'ယတြာ ကိန်းခန်းများနှင့်အညီ ဘယ်နေရာကိုသွား၊ ဘာဘုရားကိုတည်၊ ပုတီးဘယ် နှစ်ပတ်စိပ်' စသည်ဖြင့် ညွှန်ကြားခိုင်းစေနေခြင်းကိုပင် လူအချို့က သာသနာ ပြုသည်ဟု ယူဆနေကြခြင်းဖြစ်သည်။ အတ္တစွဲကို မချွတ်နိုင်ကြသဖြင့် မြတ်ဗုဒ္ဓ၏ အနတ္တဒေသနာကိုပစ်ပယ်ကာ သံသရာတွင်ဆက်လက် ကျင်လည်ရေးအတွက် ကြိုးပမ်းနေသူများ၏ သာသနာပြုလုပ်ငန်းသည် အတ္တသာသနာပြုလုပ်ငန်းသာ ဖြစ်ပေလိမ့်မည်။

အရိမေတ္တေယျ မြတ်စွာဘုရား ပွင့်တော်မူမည့်ကာလအထိ မိမိတို့

အသက်ခန္ဓာ တည်တံ့အောင်ကြိုးပမ်းရင်း ဝေနေယျသတ္တဝါတို့အား ကယ်တင်စောင်မသွားမည်ဆိုသော အယူအဆသည် မဟာယာနဗုဒ္ဓဘာသာဝင်တို့၏ ဘုရားအလောင်း ဗောဓိသတ္တကိုးကွယ်ရေးဝါဒမှ ဆင်းသက်လာခြင်းသာ ဖြစ်ပေသည်။ ယင်းဝါဒအလိုအရ အနောက်ဘက်အရပ်ရှိ သုခဝတီဘုံနန်းတွင် အမိတာဘာ (အမိတ = အတိုင်းအဆမရှိ၊ အနန္တ + အာဘာ = အလင်းရောင်) အမည်ရှိ ထာဝရဘုရားသခင် စံမြန်းနေတော်မူသည်။ ယင်းအမိတာဘာဘုရားသည် ပါရမီဖြည့်ကျင့်ပြီးမှ ဖြစ်လာသောဘုရားမျိုးမဟုတ်ဘဲ ကနဦးအစကပင် သူ့အလိုလိုဘုရားအဖြစ်ကို ရရှိထားသူဖြစ်၍ အာဒိဗုဒ္ဓဟုလည်း ခေါ်တွင်ပေသည်။ အမိတာဘာဘုရားနှင့် ကြင်ရာတော် ပါဏ္ဍရာဘုရားမတို့မှ အဝလောကိတေသွရ (အဝလောကိတ = ကြည့်ရှုသူ + ဣသွရ = အစိုးရသူ ) အမည်ရှိ ဘုရားအလောင်းကို ဖွားမြင်သည်။ အဝလောကိတေသွရသည် ဘုရားအဖြစ်ကိုရရန် ပါရမီအပေါင်းကို ဖြည့်ကျင့်ပြီးသူဖြစ်သည်။ သူ့အနေနှင့် မဂ်ဖိုလ်နိဗ္ဗာန်ကို ယခုပင် စံဝင်လိုက စံဝင်နိုင်သော်လည်း သတ္တဝါအပေါင်းအား ကယ်တင်ချွေချွတ်လိုသေးသည်။ လောကသားတို့အား သနားသက်ညှာသောအားဖြင့် လောက၌ သတ္တဝါတစ်ဦးတစ်လေမျှ မကျန်အောင် နိဗ္ဗာန်သို့ပို့ဆောင်ပြီးမှသာ နိဗ္ဗာန်သို့စံဝင်ရန် သန္နိဋ္ဌာန်ချထားသည်ဟုဆိုသည်။

မဟာယာနဗုဒ္ဓဘာသာဝင်တို့သည် အဝလောကိတေသွရကိုပင် သက္ကကလောကေသရ၊ သီဟနာဒ၊ လောကနာထ (မြန်မာတို့အခေါ် လောကနတ်) ခသပ္ပဏ၊ ဟလာဟလ စသည်ဖြင့် အမည်အမျိုးမျိုးပေး၍ ရုပ်သွင်အမျိုးမျိုးထုလုပ်ကာ ပူဇော်ကိုးကွယ်ခဲ့ကြသည်။ ၎င်းကိုပင် ဣတ္ထိလိင် (အမ) အဖြစ် အသွင်ပြောင်းကာ ပညာပါရမီတာနတ်သမီး၊ တာရာဒေဝီ စသည်ဖြင့် အမည်သညာမျိုးစုံ၊ ပုံမျိုးစုံ ထုလုပ်ကိုးကွယ်ခဲ့ရာ ယခုလေးငါးနှစ်အတွင်း မြန်မာဗုဒ္ဓဘာသာဝင်တို့အကြား ရေပန်းစားလာခဲ့သော ကွမ်ယင်မယ်တော်သည်လည်း အပါအဝင်ဖြစ်တော့သည်။ မဟာယာနဗုဒ္ဓဘာသာဝင်တို့၏ အဝလောကိတေသွရ ဘုရားလောင်းတစ်ဖြစ်လဲ ကွမ်ယင်မယ်တော်ကြီးမှာ ယခုအခါ ထေရဝါဒဗုဒ္ဓဘာသာ ဆိုင်ရာ စေတီတော်တချို့၏ ရင်ပြင်တော်ပေါ်တွင် အပူဇော်ခံရန် ရောက်ရှိ စံမြန်းတော်မူနေလေပြီ။

ဤနေရာတွင် အလျဉ်းသင့်၍ဖော်ပြလိုသည်မှာ ထေရဝါဒနှင့် မဟာယာနတို့၏ နိဗ္ဗာန်အယူအဆချင်း ကွဲပြားခြားနားပုံဖြစ်သည်။

မဟာယာနနိဗ္ဗာန်မှာ အမိတာဘာဘုရား (ခေါ်) အစဉ်ထာဝရ တည်ရှိနေသည့် ပရမတ်ဘုရား စံမြန်းနေထိုင်ရာ သုခဝတီကောင်းကင်ဘုံဖြစ်သည်။ သတ္တဝါတို့သည် နိဗ္ဗာန်မရောက်မီကာလတွင် မိမိကိုယ်ကိုအစိုးမရကြသော်လည်း နိဗ္ဗာန်ရောက်သည်နှင့် မိမိကိုယ်ကို အစဉ်ထာဝရအစိုးရသွားပြီး မဖောက်မပြန် အစဉ်ထာဝရ တည်ရှိနေသောဘဝအဖြစ်သို့ ကူးပြောင်းရောက်ရှိသွားသည်ဟု မဟာယာနတို့က ယူဆထားကြသည်။

ထေရဝါဒအလိုအရ နိဗ္ဗာန်အပါအဝင် ခပ်သိမ်းသောတရားတို့သည် အစိုးမရ (အနတ္တ) ဟု ယုံကြည် လက်ခံထားသော်လည်း မဟာယာနတို့ကမူ နိဗ္ဗာန်ဟူသည် အစိုးမရသောဘဝမှ အစိုးရသောဘဝသို့ ကူးပြောင်းသွားခြင်းဟု ယုံကြည်လက်ခံထားကြပါသည်။ တစ်နည်းဆိုသော် အနတ္တမှသည် အတ္တသို့ကူးပြောင်းသွားခြင်းသည်သာ နိဗ္ဗာန်ဟုယူဆခြင်းဖြစ်ပါသည်။

ဘဝအပေါ်တွင် တွယ်တာတပ်မက်ခြင်းမကင်းသော အဝိဇ္ဇာဖုံးလွှမ်းမှုကြောင့် နိဗ္ဗာန်ကိုမျက်မှောက်ပြုလျှင် ဘဝပြတ်ပြီဆိုသည့် ဗုဒ္ဓဝါဒအစစ်အမှန်ကိုပစ်ပယ်ကာ ဗြာဟ္မဏတို့၏အတ္တဝါဒကို ဗုဒ္ဓဘာသာဆိုင်းဘုတ်အောက်သို့ ဆွဲသွင်းလိုက်ခြင်းပင် ဖြစ်တော့သည်။ ဗြာဟ္မဏဝါဒအလိုအရ ဤလောကကြီးသည် ဣဿရ (ခေါ်) ထာဝရဘုရားသခင်၏ ဖန်ဆင်းမှုကြောင့် ပေါ်ပေါက်လာရခြင်းဖြစ်သည်။ တစ်လောကလုံးသည် ဘုရားသခင်၏ ဝိညာဉ်တော်ဖြင့် တည်ဆောက်ထားခြင်းဖြစ်သည်။ သတ္တဝါတိုင်း၏ခန္ဓာကိုယ်ထဲတွင် မည်သို့မျှဖျောက်ဖျက်၍မရသော ဝိညာဉ်လိပ်ပြာကောင်လေးရှိသည်။ ဘဝတွေ မည်သို့ပြောင်းပြောင်း၊ ခန္ဓာတွေ ဘယ်လိုလဲလဲ ထာဝရမပြောင်းမလဲ တည်ရှိနေသည်ကတော့ ထိုဝိညာဉ် ကောင်လေးပင်ဖြစ်သည်။

ယင်းသည်ပင် သတ္တဝါတို့၏ 'အမတေအနှစ်သာရ' လည်းဖြစ်၊ အစိုးလည်းရသောကြောင့် 'အတ္တ' ဟုလည်းမည်ပေသည်။ ယင်းအတ္တကလေးသည် ထာဝရဘုရားသခင်၏ 'အတမန်' ခေါ် 'မဟာအတ္တကြီး' မှ ခွဲထုတ် ဖန်ဆင်းပေးလိုက်သော အစိတ်အပိုင်းတစ်ခုလည်းဖြစ်သည်။

သံသရာတစ်လျှောက် မိမိတို့၏အတ္တတွင် တွယ်ကပ်လာသော ကိလေသာအညစ်အကြေးများ ကင်းစင်သန့်ရှင်းသွားအောင် ကြိုးပမ်းအားထုတ်လိုက်ခြင်းဖြင့် ယင်းအတ္တသည် ထာဝရဘုရားသခင်၏ မဟာအတ္တကြီးနှင့် ပေါင်းစည်းမိသွားပြီး ထာဝရငြိမ်းချမ်းသောသုခဘုံတွင် စံမြန်း

ရလိမ့်မည်ဟု ခံယူထားကြပါသည်။ ထို့ကြောင့် အမည်သညာအသုံးအနှုန်း ကွဲပြားသော်လည်း မဟာယာနဗုဒ္ဓဝါဒနှင့် ဗြာဟ္မဏဝါဒတို့၏ ရည်ရွယ်ချက်ပန်းတိုင်မှာ 'ပြီးပြည့်စုံသောအတ္တ' ဖြစ်မြောက်ရေးပင်ဖြစ်ရာ အနှစ်သာရအားဖြင့် ထပ်တူညီလျက်ရှိကြောင်း တွေ့ရှိရမည်ဖြစ်သည်။

ဗြာဟ္မဏဝါဒသည် ဗုဒ္ဓဝါဒအတွင်းသို့ အသွင်မျိုးစုံဖြင့် စိမ့်ဝင်ထိုးဖောက်လာခဲ့ရာ ထေရဝါဒဗုဒ္ဓဘာသာဝင်အချို့၌ပင် ဗြာဟ္မဏဝါဒ အငွေ့အသက်မကင်းသော ယုံကြည်ကိုးကွယ်မှုများ ရှိနေပေသည်။ ယင်းတို့ အနက်မြတ်ဗုဒ္ဓ၏ဓမ္မအမွေတော် ပိဋကတ်သုံးပုံကို မပျောက်ပျက်အောင် စောင့်ထိန်းပေးနေပါသည်ဆိုသည့် သူရဿတီမယ်တော် ကိုးကွယ်မှုသည် ထင်ရှားသော ပြယုဂ်တစ်ခုပင် ဖြစ်တော့သည်။

အမှန်အားဖြင့် သူရဿတီကိုးကွယ်မှုသည် ဣဿရ (ခေါ်) လောက၏ဖန်ဆင်းရှင် ထာဝရဘုရားသခင်ရှိသည်ဆိုသော အယူအဆကို နောက်ခံပြု၍ ပေါက်ဖွားလာသော ယုံကြည်မှုတစ်ရပ်သာဖြစ်သည်။ ဗြာဟ္မဏဝါဒအလိုအရ ထာဝရဘုရားသခင်သည် ဤလောကကို ဖန်ဆင်းခဲ့ရာတွင် လုပ်ငန်းသဘာဝပေါ်မူတည်၍ တာဝန်ခွဲဝေအပ်နှင်းနိုင်ရန် မိမိကိုယ်ကို သုံးကိုယ်ခွဲလိုက်သည်။ တစ်ကိုယ်က လောကကြီးကို ပြည့်စုံစွာ ဖန်ဆင်းရန်တာဝန်ယူရပြီး သူ့အမည်ကို **ဗြဟ္မာ** ဟု ခေါ်တွင်စေသည်။ နောက်တစ်ကိုယ်က ဖန်ဆင်းပြီးသော ဤလောကကို ထိန်းသိမ်းစောင့်ရှောက်ရန် တာဝန်ယူရပြီး သူ့ကို **ဗိဿနိုး** ဟု အမည်တွင်စေပြန်သည်။ နောက်ဆုံးတစ်ကိုယ်ကမူ ဤလောကကြီးအား ဖျက်သိမ်းပျက်စီးစေလိုသည့်အခါ အဖျက်လုပ်ငန်းများကို ဆောင်ရွက်ရန်တာဝန်ယူရပြီး သူ့အား **သီဝ** (သျှိဗ)ဟု ခေါ်တွင်စေခဲ့ပါသည်။ ဤထာဝရဘုရား ဣဿရ၏ ကိုယ်ပွားသုံးဆူသောနတ်ဘုရားတို့မှာ လိင်အားဖြင့် ပုရိသလိင် (အဖို) များအဖြစ် သတ်မှတ်ကြပါသည်။

လောက၏သဘာဝအရ ကောင်းကင်ရှိလျှင် မြေကြီးရှိရမည်၊ အလင်းရှိလျှင် အမှောင်ရှိရမည်၊ အဖိုရှိလျှင် အမလည်းရှိရပေမည်။ ထို့ကြောင့် ယင်းသုံးဆူသော နတ်ဘုရားတို့တွင်လည်း ကြင်ရာတော်နတ်သမီးကြီးများလည်း ရှိရမည်ဖြစ်ရာ ဗြဟ္မာ၏ကြင်ရာတော်ကား သူရဿတီ၊ ဗိဿနိုး၏ကြင်ရာတော်ကား လက်ချမီး၊ သီဝ၏ကြင်ရာတော်ကား စန္ဒီ (ကာလီ) ဟူ၍ ဒွိယံဒွိယံ ကြင်ဖက်သက်နှံများ ပေါ်ပေါက်လာရတော့သည်။ အဝလောကိတေဿရ ဘုရားလောင်းအား ကိုးကွယ်ကြသည့် မဟာယာန

ဗုဒ္ဓဘာသာဝင်တို့၏ အာဒိဗုဒ္ဓ (ခေါ်) အမိတာဘာထာဝရဘုရားတွင် ကြင်ရာတော်နတ်ဘုရားမ ပါဏ္ဍရာရှိသည်ဟူသောအယူအဆသည် ပြာဟ္မဏဝါဒ၏ နတ်ဘုရားစုံတွဲအယူအဆမှ ဆင်းသက်လာရခြင်းပင် ဖြစ်ပါသည်။ ထို့အပြင် ရှေးအခါကပြာဟ္မဏဝါဒီတို့သည် သူတို့၏အတ္တဝါဒကို ဆန့်ကျင်ခဲ့သည့် ဂေါတမဗုဒ္ဓမြတ်စွာဘုရားအား ချိုးနှိမ်၊ နှိမ့်ချလိုသဖြင့် ဗိဿနိုးနတ်မင်း၏ ကိုယ်ပွား လူဝင်စားတစ်ဦးဖြစ်သည်ဟု ပြောဆိုရေးသားခဲ့ကြသေးသည်။

ပြာဟ္မဏဝါဒ လွှမ်းမိုးဖျက်ဆီးမှုကို ခံထားရသော မဟာယာနဗုဒ္ဓဘာသာဝင်တို့ကလည်း ဂေါတမဗုဒ္ဓအား အမိတာဘာ ထာဝရဘုရားသခင်က လူသားတို့ကိုချွေချွတ်ရန် စေလွှတ်ခြင်းခံရသူတစ်ဦးအဖြစ် တစ်ဆင့်နှိမ့်ချခဲ့ကြပြန်သည်။ မဟာယာနဗုဒ္ဓဘာသာဝင်တို့သည် အဝလောကိတေဿရဘုရားအလောင်းရုပ်တုနှင့် ဂေါတမဗုဒ္ဓရုပ်ပွားတော်တို့အား လက်ဝဲ၊ လက်ယာရံစေ၍ အလယ်တွင် အမိတာဘာဘုရားဆင်းတုကို အထွတ်အမြတ်ထား ကိုးကွယ်ခဲ့ကြသည်။

ပြာဟ္မဏဝါဒအရ သူရဿတီသည် ပညာဉာဏ်ကိုလည်းကောင်း၊ လက်ချမီးသည် စီးပွားဥစ္စာကိုလည်းကောင်း၊ စန္ဒီ (ကာလီ)သည် ရက်စက်ကြမ်းကြုတ်မှုကိုလည်းကောင်း ကိုယ်စားပြုသည်ဟု ယေဘုယျအားဖြင့် ယုံကြည် လက်ခံထားကြပါသည်။ ထေရဝါဒဗုဒ္ဓဘာသာဝင် မြန်မာတိုင်းရင်းသားအချို့က သူရဿတီကို ပိဋကတ်သုံးပုံစောင့်သည့် မယ်တော်နတ်သမီးကြီးအဖြစ် ပူဇော်ကိုးကွယ်နေကြသော်လည်း သူအမှန်တကယ်စောင့်ရှောက်နေသည်မှာ ပြာဟ္မဏတို့၏ အတ္တဝါဒဆိုင်ရာ ဝေဒလေးကျမ်းသာလျှင်ဖြစ်သည်။ ဆာရီဝတ် ဟိန္ဒူနတ်သမီးကို မြန်မာတို့က စည်းပုံဆောင်း၊ ထိုင်မသိမ်းအင်္ကျီ ပြောင်ထမိဝတ်ပေးကာ မြန်မာမှုပြုလိုက်ရာမှ ပိဋကတ်သုံးပုံစောင့် မယ်တော်ကြီးအဖြစ် ထေရဝါဒဗုဒ္ဓဘာသာဝင်လောကတွင် ဝင်ရောက် နေရာယူလာခြင်းပင်ဖြစ်သည်။ ဗုဒ္ဓမြတ်စွာ၏ အနတ္တဝါဒဆိုင်ရာ ပိဋကတ်သုံးပုံနှင့် ပြာဟ္မဏတို့၏ အတ္တဝါဒဆိုင်ရာ ဝေဒလေးကျမ်းတို့ လုံးဝကွဲပြားခြားနားနေသလို ထေရဝါဒဗုဒ္ဓဘာသာနှင့် သူရဿတီ ကိုးကွယ်မှုမှာလည်း ပြဒါးတစ်လမ်း သံတစ်လမ်းသာလျှင် ဖြစ်ပေသည်။

အကယ်၍ သူရဿတီ၊ လက်ချမီး၊ စန္ဒီတို့အား ယုံကြည်လက်ခံသည်ဆိုပါက သူတို့၏ခင်ပွန်းများဖြစ်ကြကုန်သော ပြဟ္မာ၊ ဗိဿနိုးနှင့် သီဝဆိုသည့် နတ်ဘုရားကြီးများ အမှန်တကယ်ရှိသည်ဟု ယုံကြည်လက်ခံ

လိုက်ခြင်းပင် ဖြစ်တော့သည်။ ဤသို့ဆိုလျှင် ယင်းတို့သုံးပါးပေါင်းတစ်ဆူ ဖြစ်တော်မူထသော ဣဿရ (ခေါ်) ထာဝရဘုရားသခင် (ခေါ်) မဟာ အတ္တကြီးကို လက်ခံလိုက်ရာရောက်ပေတော့မည်။ ဤသည်ပင်လျှင် လောက တွင် အစဉ်ထာဝရ မဖောက်မပြန်ဘဲ အစိုးရနေသော အမတေ အနှစ်သာရ (ဝါ) အတ္တကြီးတစ်ခု တည်ရှိနေသည်ဟု လက်ခံလိုက်ခြင်း ဖြစ်ပေသည်။

ထို့အတူပင် ဘုရားမပွင့်မီကာလအတွင်း သတ္တဝါအပေါင်းအား ကယ်တင် ချွေချွတ်နေပါသည်ဆိုသော ဝိဇ္ဇာမိုရ်များနှင့် အဝလောကိ တေဿရ ဘုရားလောင်းတစ်ဖြစ်လဲ လောကနတ်၊ တာရာဒေဝီ၊ ပညာပါရမီ တာနတ်သမီး၊ ကွမ်ယင်မယ်တော်အစရှိသည့် နတ်ဘုရားများကို ယုံကြည် လက်ခံသူသည် သူတို့၏အရင်းခံဖြစ်သော မဟာယာနဗုဒ္ဓဘာသာ၏ အာဒိဗုဒ္ဓ (ခေါ်) အမိတာဘာ (ခေါ်) ထာဝရဘုရားသခင်ကို ယုံကြည် လက်ခံရာ ရောက်သွားမည်ဖြစ်ပါသည်။ အမိတာဘာဘုရားသည် ဗြာဟ္မဏတို့၏ ဣဿရကို အမည်ပြောင်းထားခြင်းပင်ဖြစ်ရာ ဤလောက၌ အတ္တ ရှိသည်ဟု လက်ခံလိုက်ခြင်းပင် ဖြစ်ပေသည်။

ဗုဒ္ဓမြတ်စွာဘုရားသခင် ကိုယ်တော်မြတ်ကြီးက လောက၌ ခပ်သိမ်းသော တရားတို့သည် အစိုးမရ၊ အနတ္တသာတည်းဟု သူ၏ဓမ္မတွင် အတိအလင်း ထုတ်ဖော်ကြေညာထားပြီးဖြစ်သည်။ ဤသည်ကိုဆန့်ကျင်ကာ လောက၌ အစိုးရသောတရား (ဝါ) အတ္တရှိသည်ဟု လက်ခံလိုက်ခြင်းသည် ဗုဒ္ဓဓမ္မကို ဆန့်ကျင်ပစ်ပယ်လိုက်ခြင်းပင် ဖြစ်တော့သည်။ ဤနည်းအားဖြင့် ထိုသူသည် ဗုဒ္ဓမြတ်စွာ၏ ဓမ္မဒေသနာ တရားတော်တို့သည်သာ ကိုးကွယ် အားထားရာဟူ၍ ယုံကြည်ဆည်းကပ်ပါ၏ (ဓမ္မံ သရဏံ ဂစ္ဆာမိ) ဆိုသော သရဏဂုံတစ်ပါး ကျိုးပျက်သွားလေပြီ။ ဗုဒ္ဓ၏ဓမ္မကို ငြင်းပယ်သူသည် ဗုဒ္ဓနှင့် တကွ ဗုဒ္ဓ၏နောက်လိုက် တပည့်သံဃာတို့ကိုပါ ငြင်းပယ်ရာလည်း ရောက် သည်ဖြစ်ရာ ကျန်သရဏဂုံနှစ်ပါးလည်း အလိုလိုကျိုးပျက် သွားမည်သာ ဖြစ်သည်။ ထိုသူအဖို့ မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် ရရန်ဝေးစွ၊ ဗုဒ္ဓဘာသာဝင် ဟုပင် အမည်မခံထိုက်တော့ပေ။ ၎င်း၏ကိုယ်စိတ်နှလုံးအတွင်း တည်ရှိသော အဖ္ဗုတ္တသာသနာ ပျက်စီးသွားချေပြီ။

ဤမျှဆိုလျှင် မြတ်ဗုဒ္ဓအား ရည်စူးတည်ထားကိုးကွယ်သည့် စေတီ အချို့တွင် တဆောင်တယောင်၊ တခမ်းတနား ဗုဒ္ဓနှင့်စင်ပြိုင် ကိုးကွယ်ပူဇော် ခံနေကြသော ဘိုးတော်၊ ဘတော်၊ မယ်တော်၊ အစ်မတော်အမည်ခံ ထိုထို သော ပုဂ္ဂိုလ်ကြီးတို့သည် စစ်မှန်သောဗုဒ္ဓသာသနာ စည်ပင်ဖွံ့ဖြိုးအောင်

အကျိုးဆောင်နေကြသည့် သာသနာပြု ပုဂ္ဂိုလ်ကြီးများလော၊ သို့တည်း မဟုတ် ဗုဒ္ဓသာသနာတော်အတွင်း ထွေးရောယှက်တင် ဝင်ရောက်ကာ အတ္တဝါဒ အမြစ်တွယ်အောင် ကြံဆောင်ရင်း ဗုဒ္ဓမြတ်စွာ၏ သာသနာတော်အား ဖျက်ဆီးနေကြသူများလောဆိုသည်ကို သိသာလောက်ပေပြီ။

လောကတွင် ရန်သူအမျိုးမျိုးရှိရာ မိတ်ဆွေဟန်ပြု၍ ပူးကပ်ဝင်ရောက် ဖျက်ဆီးတတ်သော ရန်သူမျိုးသည် ကြောက်မက်ဖွယ် အကောင်းဆုံးဖြစ်သည်။ စစ်မှန်သော ဗုဒ္ဓဝါဒအဆုံးအမများကိုသာ သန့်ရှင်းစွာခံယူလိုက်နာကျင့်သုံးခဲ့သည့် ထေရဝါဒဗုဒ္ဓဘာသာအတွင်းသို့လည်း ထေရဝါဒအရေခြုံထားသော အတ္တဝါဒသည် မိတ်ဆွေဟန်ပြုလျက် ချဉ်းကပ်စိမ့်ဝင်လျက် ရှိနေပေသည်။ ထိုသို့ ချဉ်းကပ်စိမ့်ဝင်လာသော အတ္တဝါဒရောဂါပိုးကို အချိန်မီ သုတ်သင်ဖယ်ရှား မပစ်နိုင်ခဲ့ပါက ထေရဝါဒဗုဒ္ဓသာသနာတော်ကြီး ဗုန်းဗုန်းလဲ ပြိုကွဲပျက်စီးသွားမည်ကို စိုးရိမ်ရပေသည်။

ယခုအခါ ထေရဝါဒဗုဒ္ဓဘာသာဆိုင်ရာ သာသနိကအဆောက်အအုံတချို့တွင် ဝင်ရောက်နေရာယူလာကြသည့် ဘိုးတော်၊ ဘတော်၊ မယ်တော်၊ အစ်မတော်များကို ဤအတိုင်းလက်ပိုက်ကြည့်နေပါက နောင် အနှစ်ငါးဆယ်အတွင်း သူတို့၏အပေါင်းအဖော် အဆွေခင်ပွန်းများ၊ ဆရာ့ဆရာကြီးများဖြစ်ကြကုန်သော အမိတာဘာ၊ ဗြဟ္မာ၊ ဗိဿနိုး၊ သီဝ အစရှိသည့် နတ်ဘုရားကြီးများပါ တက်ရောက်စံမြန်း၍ အပူဇော်အကိုးကွယ်မခံကြပါဟု မည်သူကအာမခံနိုင်ပါမည်နည်း။ ၎င်းတို့အလယ်တွင် ဂေါတမဗုဒ္ဓရုပ်ပွားတော်သည် အမိတာဘာဘုရား၏ စေလွှတ်ခြင်းခံရသူ၊ သို့တည်းမဟုတ် ဗိဿနိုးနတ်ဘုရား၏ ကိုယ်ပွား လူဝင်စားတစ်ဦးအဖြစ်နှင့် မျက်နှာငယ်ရရှာပေတော့မည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာ၏ သာသနာတော်အား အစွန်းအထင်းမခံ ရှင်သန်ထွန်းတောက်စေလိုသူတိုင်းသည် အသွင် အမျိုးမျိုးဖြင့် ထိုးဖောက်စိမ့်ဝင်လာကြသော အတ္တဝါဒဆိုင်ရာ ယုံကြည်ကိုးကွယ်ပြုမူကျင့်ကြံမှုမှန်သမျှကို စွမ်းအားရှိသမျှ ဆန့်ကျင်ဖယ်ရှားပစ်ကြရပေမည်။ ဤသည်ပင်လျှင် မြတ်ဗုဒ္ဓ၏ စစ်မှန်သောသာသနာတော် စည်ပင်ဖွံ့ထွားကာ အဓွန့်ရှည်စွာ တည်တံ့ခိုင်မြဲရေးအတွက် တတ်စွမ်းသမျှ သာသနာပြုခြင်း မည်ပါကြောင်း တင်ပြလိုက်ရပေတော့သည်။ ။

(၁၇-၈-၉၀)

ဓမ္မရံသီ၊ ၁၉၉၁ခုနှစ်၊ ဖေဖော်ဝါရီလ။

# မြတ်နိုးဖွယ်ရာဝေဖန်ပါ

*ယခုခေတ်ကြီးမှာ နေရာတကာ ဝေဖန်ရေးဆရာတွေ သိပ်ပေါတယ်။ ဒါပေမယ့် ဝေဖန်မှုတစ်ခုသာရှိပြီး ယုံကြည်မှု သဒ္ဓါတရားမပါလျှင် မိစ္ဆာသဘောတရားတွေ ကိန်းဝနေတတ်တယ်။*

*ယုံကြည်မှု သဒ္ဓါတရားလည်း အားကောင်းတယ်၊ ချင့်ချိန် ဝေဖန်မှု အသိဉာဏ်ပညာလည်း ကြွယ်ဝတယ်။ အဲဒီလို သဒ္ဓါ ပညာ နှစ်ပြားမျှတဲ့ ပုဂ္ဂိုလ်မျိုးဖြစ်ဖို့ အရေးကြီးပါတယ်။*

*(ဘဒ္ဒန္တ ဓမောဒုဓ ဆရာတော်)*

မိတ်ဆွေတစ်ဦး၏ ကောင်းမှုကြောင့် အထက်ပါမှတ်သားနာယူဖွယ် ဩဝါဒထူးကို ဖတ်ရှုခဲ့ရသည်။ ဆရာတော်ဘုရားကြီး၏အဆုံးမကို ရှေ့ဆုံးစာမျက်နှာတွင် ထင်ထင်ရှားရှား ဖော်ပြပေးခဲ့သည့် မြတ်မင်္ဂလာဘာသာရေးစာစောင် အယ်ဒီတာအဖွဲ့အားလည်း အထူးတလည်ကျေးဇူးတင်မိသည်။

မိတ်ဆွေဖြစ်သူက ယင်းစာမျက်နှာကို ဖတ်ပြီးလျှင်ပြီးချင်း အပြေးရောက်လာခဲ့ပြီး ဤဩဝါဒကထာသည် စာရေးသူတို့လို ဆောင်းပါးရှင်များအတွက်လည်း အထူးမှတ်သားနာယူဖွယ် ကောင်းသည်ဟု ယူဆကြောင်းပြောလာသည်။ ဆရာတော်၏ဩဝါဒကို ဖတ်ပြီးသည့်နောက် စာရေးသူက မိတ်ဆွေကို ကျေးဇူးစကားဆိုမိသည်။ ဖော်ပြပါအဆိုအဆုံးအမကိုလည်း အကြွင်းမဲ့ထောက်ခံခဲ့သည်။

မှန်ပါသည်။ ဆရာတော်ကြီး မိန့်ကြားသလို မျက်မှောက်ကာလတွင် စာပေနယ်ပယ်အသီးသီး၌ ဝေဖန်ရေးဆောင်းပါးရှင်တို့ အမြောက်အမြား ပေါ်ထွက်လာခဲ့သည်။ အထူးသဖြင့် ၁၉၉၀ပြည့်လွန်နှစ်များတွင် ဝေဖန်ရေးဟု ကင်ပွန်းတပ်နိုင်သော ဘာသာရေးဆိုင်ရာ ပြုပြင်တိုးတက်ရေးဆောင်းပါးကောင်းများ အရှိန်အဟုန်ဖြင့်ထွက်ပေါ်လာခဲ့သည်။ သာသနာတော်ကြီးတွင် ကပ်တွယ်ငြိနေသော အညစ်အကြေး၊ ကြေးညှော်များကို တတ်စွမ်းသည့်ဘက်မှ ဝိုင်းဝန်းတိုက်ချွတ် ဆေးကြောခဲ့ကြသည်မှာ အားရစရာ ကောင်းလှပေသည်။ သို့သော် ယင်းလုပ်ရပ်တို့ကပင် မိမိတို့၏ သမာအာဇီဝမကျသော ကြီးပွားတိုးတက်ရာ လမ်းကြောင်းအတွက်

အတားအဆီး ခလုတ်တံသင်းဖြစ်ခဲ့ရသူတချို့က မုဒိတာမပွားနိုင်ကြသည်ကိုလည်း အထင်အရှားတွေ့မြင်ခဲ့ရသည်။

မည်သို့ဆိုစေ - ဘာသာသာသနာ အကျိုးအတွက် ဗုဒ္ဓမြတ်စွာ အဆုံးအမနှင့်အညီ တတ်စွမ်းသမျှ စွန့်လွှတ်သယ်ပိုးကြမည်ဟူသည့် မြင့်မြတ်သော အသိစိတ်ဓာတ်ဖြင့် ထွက်ပေါ်လာခဲ့သည့် ဝေဖန်ရေး ဆောင်းပါးများ၏ ရေစီးကြောင်းသည်ကား အဖျက်အမှောင့်သမားတို့ကို ကျော်လွန်လျက် အရှိန်အဟုန်ကောင်းစွာ စီးဆင်းနေပေပြီ။

ထို့ကြောင့်လည်း ဆရာတော်အရှင်ခမာဝုစေ ပညာရှိသတိဖြစ်ခဲ ဆိုသကဲ့သို့ မယိမ်းယိုင် မတိမ်းစောင်းရလေအောင် ဗုဒ္ဓသာသနာဆိုင်ရာ ဝေဖန်ရေး ဆောင်းပါးရှင်များအား သတိပေးမှာကြားခြင်းပင် ဖြစ်သည်ဟု စာရေးသူ အလေးအနက်ယုံကြည် ခံစားမိပါသည်။ ဆရာတော်ဘုရားက လိုရင်းကို တိုတိုရှင်းရှင်း မိန့်ကြားခဲ့သည်ဖြစ်ပေရာ အသိတရားနုနယ်သူ လူငယ်လူရွယ်အချို့အတွက် အကောက်အယူ လွဲချော်သွားမည်ကိုကား စာရေးသူ စိုးရိမ်မိသည်။ သို့ကြောင့်လည်း ဤစာကိုရေးဖြစ်သွားခြင်း ဖြစ်ပါသည်။

ဆရာတော်က ဝေဖန်ပိုင်းခြားကြရာတွင် သဒ္ဓါရှိဖို့လည်းလိုအပ်ကြောင်း အလေးအနက်ထား မှာကြားခဲ့သည်မှာ ဗုဒ္ဓမြတ်စွာအဆုံးအမနှင့် ထပ်တူထပ်မျှပင်ဖြစ်သည်။ သဒ္ဓါတရားမပါသော ဝေဖန်ရေးသည် မိစ္ဆာအယူကို ဖြစ်စေနိုင်သည်ဆိုသည့်အချက်ကို စာရေးသူ အကြွင်းမဲ့ထောက်ခံပါသည်။ သို့သော် သဒ္ဓါတရားဆိုသည့် အသုံးအနှုန်းအပေါ် ဗုဒ္ဓအလိုတော်ကျ မှန်မှန်ကန်ကန် နားလည်ကြဖို့ လွန်စွာအရေးကြီးလှပေသည်။

သဒ္ဓါဟုဆိုလိုက်သည်နှင့် လူအတော်များများက ယုံကြည်မှုဟုသာ ချက်ချင်း အလွယ်တကူနားလည်တတ်ကြသည်။ ယုံကြည်သည်ကတော့ ဟုတ်ပါပြီ၊ ဘာကိုယုံကြည်ခြင်းကို ဆိုလိုပါသနည်း ဟုဆိုလျှင်ကား အဖြေ အမျိုးမျိုး ပေးတတ်ကြသည်။ အများစုမှာ ဘုရား၊ တရား၊ သံဃာအပေါ် အကြွင်းမဲ့ယုံကြည်ခြင်းပေါ့ဟု ဆိုတတ်ကြသည်။ အဖြေကားမမှားပါ။ သို့ရာတွင် ယေဘုယျကျလွန်းအားကြီးနေပေရာ ယင်းသို့အဖြေပေးသူများ ထဲတွင်ပင် နားလည်မှုချင်း ကွာခြားနေတတ်သည်။

စာရေးသူတို့ ဗုဒ္ဓဘာသာဝင်များ ကွဲကွဲပြားပြားသိထားသင့်သည်မှာ ဗုဒ္ဓသာသနာတော်နှင့်ညီသော ယုံကြည်မှုသည် အသိဉာဏ်နှင့် ယှဉ်သော ယုံကြည်မှုကိုသာ ဆိုလိုခြင်းဖြစ်သည်ဆိုသော အချက်ပင်ဖြစ်သည်။

အချို့သော သာသနာပ ဘာသာတရားများတွင် အသိဉာဏ်နှင့် ယှဉ်သော ယုံကြည်မှုမျိုးကို အကြွင်းမဲ့ပိတ်ပင်ထားရာ ဘာသာရေး ခေါင်းဆောင်တို့၏ အဆိုအမိန့်ကို မှန်သည်မှားသည် အကဲဖြတ်ခွင့်မရှိကြပေ။ အကြွင်းမဲ့ မျက်စိစုံမှိတ်၍ အကန်းယုံ,ယုံကြရသည်။ အနည်းငယ် ဝေဖန်ထုတ်ဖော် ပြောကြားမိသူများကိုပင် မိစ္ဆာဒိဋ္ဌိများအဖြစ်စွပ်စွဲကာ ကြီးလေးသော ဘာသာရေး ပြစ်ဒဏ်များ ချမှတ်တတ်ကြသည်။

ဗုဒ္ဓသာသနာတော်တွင်ကား ထိုသို့မဟုတ်ချေ။ ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူခဲ့သည့် ဓမ္မဒေသနာတော်တို့၏ ထူးခြားချက်ဖြစ်သော ဓမ္မဂုဏ်တော်ခြောက်ပါးတို့၏ အနက်အဓိပ္ပာယ်ကို လေ့လာကြည့်ပါက တွေ့မြင်နိုင်ပါသည်။ "လာလော့၊ ရှုလော့၊ ကိုယ်တိုင်လိုက်နာ ကျင့်သုံးကြည့်၊ ဝေဖန်ပိုင်းခြား စိတ်ဖြာကြည့်ကြလော့" ဟု ဝေဖန်ရေးကို အစဉ်သဖြင့် လက်ကမ်းကြိုနေသည်ကား ဗုဒ္ဓဓမ္မ၏ ပြိုင်ဘက်ကင်းသော ထူးခြားချက်ကြီးပင် ဖြစ်တော့သည်။

ဗုဒ္ဓမြတ်စွာသည် သူဟောကြားတော်မူခဲ့သည့် ဓမ္မတရားတော်တို့အပေါ် ဤရွေ့ဤမျှရဲရဲဝံ့ဝံ့ ဝေဖန်ဆန်းစစ်ခံဝံ့သည်မှာ အဘယ်ကြောင့်နည်းဟု ကျွန်ုပ်တို့တွေးဆသင့်ပေသည်။

အကြောင်းရှိပါသည်။ ဗုဒ္ဓမြတ်စွာဟောကြားသမျှ တရားဒေသနာတော်တို့သည် သူ၏ကိုယ်ပိုင် ထင်မြင်ယူဆချက်များမဟုတ်ဘဲ လောက၏ ဖြစ်စဉ်သဘာဝ (ဝါ) သဘာဝဓမ္မ၊ တစ်နည်းဆိုသော် အမှန်တရားကို အရှိအရှိအတိုင်း ထုတ်ဖော်တင်ပြခဲ့ခြင်းကြောင့်ပင် ဖြစ်ပေသည်။

သို့ကြောင့် ဗုဒ္ဓမြတ်စွာသည် သူ၏ ဆုံးမခြင်းပြာဋိဟာ၏ အာနိသင်ကို အကြွင်းမဲ့ယုံကြည်စိတ်ချခဲ့သည်။ လောက၏အမှန်တရားကို ရှာဖွေနေသူ၊ အမှန်တရား၏အစွမ်းသတ္တိကို ယုံကြည်သူ၊ အမှန်တရားကို ချစ်မြတ်နိုးသူသာဖြစ်ပါစေ၊ ဗုဒ္ဓမြတ်စွာ၏ ဆုံးမခြင်းပြာဋိဟာကို လွန်ဆန်နိုင်သူဟူ၍ လောက၌မရှိချေ။

လောက၏ဓမ္မတာဖြစ်စဉ်ကို အရှိအတိုင်းတင်ပြထားသော တရားဒေသနာသာဖြစ်ပေရာ လက်တွေ့စမ်းသပ်ကြည့်ရမှ ယုံကြည်လိုသူတို့အတွက် ဗုဒ္ဓဓမ္မသည် လွန်စွာသင့်လျော် လိုက်ဖက်ညီနေခဲ့၊ ညီနေဆဲ၊ ညီနေဦးမည်သာဖြစ်သည်။ ထို့ကြောင့်လည်း ဗုဒ္ဓမြတ်စွာသည် သူ၏ သာသနာကို ပြုစုပျိုးထောင်ဖြန့်ဝေခဲ့ရာ၌ အချို့သောသာသနာပ ဘာသာတရားတို့ကဲ့သို့ မစားရဝခမန်း စိတ်ကူးယဉ်စကားလုံးများဖြင့် မက်လုံးပေး

ဆွဲဆောင်ခြင်း၊ ကြောက်မက်ဖွယ်ရာ ငရဲခန်းများဖြင့် ခြိမ်းခြောက်ခြင်း မပြုခဲ့ချေ။ ဗုဒ္ဓမြတ်စွာ၏ အလိုတော်နှင့်အညီ သာသနာပြုလာခဲ့ကြသော စစ်မှန်သည့် ဗုဒ္ဓသာသနာဝင် အစဉ်အဆက် ဗုဒ္ဓသာသနာ ထွန်းကား ပြန့်ပွားရေး ဆောင်ရွက်ကြရာတွင် တန်ခိုးပြာဋိဟာပြခြင်း၊ လောကီရေးရာ မက်လုံးများဖြစ်သည့် စားဝတ်နေရေးထောက်ပံ့ခြင်းတို့ဖြင့် ဆွဲဆောင် သိမ်းသွင်းမှု မရှိခဲ့ပေ။ ဓားစွမ်းပြ ခြိမ်းခြောက်ကာ မိမိတို့ဘာသာဝင်အဖြစ် မခံယူသူများအား ညှဉ်းပန်းနှိပ်စက် မျိုးဖြုတ်သတ်ဖြတ်သည့်နည်းဖြင့် သာသနာပြုခြင်းမျိုးလည်း အလျဉ်းမရှိခဲ့ပါချေ။

တစ်နည်းဆိုရသော် ဗုဒ္ဓမြတ်စွာနှင့်တကွ ဗုဒ္ဓ၏နောက်လိုက်တို့သည် 'ခွန်အားသည် အမှန်တရား' (*Might is Right*) ဟု မယုံကြည်ဘဲ 'အမှန်တရားသည်သာ ခွန်အား' (*Right is Might*) ဟု ယုံကြည်ခဲ့ကြသူများသာ ဖြစ်ပေသည်။ သို့ဖြစ်ရာ ဗုဒ္ဓသာသနာတော်တွင်ရှိသော သဒ္ဓါတရား (ဝါ) ယုံကြည်မှုဆိုသည်မှာ 'အမှန်တရားသည်သာ ခွန်အားဖြစ်သည်' ဟူသော ယုံကြည်မှုမျိုးသာဖြစ်ကြောင်း အလေးအနက် သတိချပ်သင့်ပေသည်။

လောကတွင် အမှန်တရားသည်ရှိ၏။ ယင်းအမှန်တရားကို ဟုတ်တိုင်းမှန်စွာ သိမြင်ခြင်းသည်သာ မိမိဘဝတစ်သက်တာ၏ အဆုံးစွန်သော အောင်မြင်မှုပန်းတိုင်ဖြစ်၏ဟူသော ယုံကြည်ချက်မျိုးသည်သာ စစ်မှန်သော သဒ္ဓါတရားဖြစ်ပေသည်။ အမှန်တရားကို မြတ်နိုးခြင်းဟုလည်း ဆိုနိုင်ပါသည်။ မိမိပတ်ဝန်းကျင်သည် အမှန်တရားကို ကျောခိုင်းကောင်း ကျောခိုင်းနေပါလိမ့်မည်။ အမှန်တရား ဆိတ်သုဉ်းနေသည့် ပတ်ဝန်းကျင် ကြောင့် မှန်ရာကိုပြော၊ မှန်ရာကိုလုပ်လိုသူတို့အဖို့ လတ်တလော ပင်ပန်း ဆင်းရဲမှုတို့နှင့် ကြုံတွေ့ကောင်း ကြုံတွေ့နိုင်ပါသည်။ သို့ရာတွင် မိမိက အမှန်တရားကိုသာ လက်ကိုင်ထားလျက် ဘဝခရီးကြမ်းကို ကျော်ဖြတ် လျှောက်လှမ်းမည်ဆိုပါက တစ်နေ့သောအခါတွင် အမှန်တရား၏တန်ခိုး သတ္တိကြောင့် မိမိအောင်ပွဲခံနိုင်ရမည်ဟူသော ယုံကြည်ချက်မျိုး ရှိထားဖို့ လိုပေသည်။

ဗုဒ္ဓသာသနာတော်၏ အဆုံးစွန်သောပန်းတိုင်သည် သစ္စာတရားကို ဟုတ်တိုင်းမှန်စွာ သိမြင်ရေးဖြစ်သည်။ လွယ်လွယ်ဆိုရသော် အမှန်တရား ကို သိမြင်ရေးပင်ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူလိုက်သည်နှင့် တပြိုင်နက် မိမိတို့သည် အမှန်တရားသည်သာ ခွန်အားသတ္တိဖြစ်ကြောင်း

ယုံကြည်လက်ခံလျက် အမှန်တရားကိုသိမြင်ရေးအတွက် တတ်စွမ်းသမျှ ကြိုးပမ်းအားထုတ်ပါတော့မည်ဟု သန္နိဋ္ဌာန်ချမှတ်လိုက်ခြင်းပင်ဖြစ်သည်။ အမှန်တရားသည် ဓမ္မပင်ဖြစ်ပေရာ 'ဓမ္မံ သရဏံ ဂစ္ဆာမိ' ဆိုသည့် သရဏဂုံ တစ်ပါးနှင့် ပြည့်စုံသွားပေပြီ။

အမှန်တရားကို ယုံကြည်မြတ်နိုးသူအနေနှင့် ယင်းအမှန်တရားကို ဖော်ထုတ်တင်ပြသွားသည့် ပုဂ္ဂိုလ်အပေါ် ယုံမှားသံသယဖြစ်စရာ လမ်းမရှိတော့ချေ။ ထို့ကြောင့် 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' တည်းဟူသော သရဏဂုံနှင့်လည်း ပြည့်စုံသွားလေပြီ။ အမှန်တရားနှင့် ယင်းအမှန်တရားကို ထုတ်ဖော်တင်ပြသူရှိခဲ့သလို ယင်းအမှန်တရားကို သိမြင်ရေးလမ်းစဉ်တို့အား ခေတ်အဆက်ဆက် ဆောင်ကြဉ်းလာခဲ့သည့် စစ်မှန်သောသံဃာတော်တို့ အပေါ်၌လည်း ယုံမှားသံသယ ဖြစ်ဖွယ်မရှိတော့ချေ။ ထို့ကြောင့် 'သံဃံ သရဏံ ဂစ္ဆာမိ' ဆိုသည့် သရဏဂုံနှင့်လည်း ပြည့်စုံသွား တော့သည်။

ထို့ကြောင့် စစ်မှန်သော သရဏဂုံတည်ခြင်းသည် အမှန်တရားကို မြတ်နိုးယုံကြည်ခြင်းတည်းဟူသော သဒ္ဓါတရားအပေါ်တွင် မဏ္ဍိုင်ပြုနေကြောင်း သိသာထင်ရှားလှပေသည်။ နှုတ်ဖျားက သရဏဂုံသုံးပါးကို မည်မျှပင် တွင်တွင်ကြီးရွတ်နေစေကာမူ အမှန်တရားကိုယုံကြည်စိတ်၊ အမှန်တရားကိုသာ အားကိုးအားထားပြုသောစိတ်၊ အမှန်တရားကို ရှာဖွေသိမြင်လိုသောစိတ်တို့နှင့် မပြည့်စုံပါက သဒ္ဓါတရားနှင့်ပြည့်စုံခြင်း မရှိနိုင်ချေ။ ယင်းသို့ သဒ္ဓါတရားကင်းမဲ့နေမည်ဆိုပါက ဆရာတော် အရှင်ခမာဝုစ မိန့်ကြားသကဲ့သို့ မိစ္ဆာဒိဋ္ဌိ ဇကန်မုချဖြစ်နေပါလိမ့်မည်။

'ဝေဖန်ရေး၏အထက်တွင် ဘာမျှမရှိ' ဆိုသော ပညာရှိတို့၏ စကားကို စာရေးသူ ကြားဖူးဖတ်ဖူးပါသည်။ သို့သော် ယင်းဝေဖန်ရေးသည် ဆရာတော်ဘုရားကြီး မိန့်ကြားသလို သဒ္ဓါတရားနှင့်ပြည့်စုံသော ဝေဖန်ရေးကိုသာဆိုလိုသည်ဟု စာရေးသူ အလေးအနက်ယုံကြည်ပါသည်။ ဝေဖန်ရေးဟူသည် အမှန်တရားကိုရှာဖွေသော နည်းလမ်းတစ်ရပ်သာ ဖြစ်သည်။ တစ်ပါးသူအား ပြစ်တင်ရှုတ်ချပြောဆိုခြင်းသည် ဝေဖန်ရေး မမည်ချေ။ ပုဂ္ဂိုလ်ရေး ဦးတည်ချက်ထား၍ ကဲ့ရဲ့ရှုတ်ချခြင်းသည် မိုးပေါ်မော့၍ တံတွေးထွေးခြင်းနှင့်သာ တူလှပေရာ အထူးရှောင်ရှား သင့်သည်။ အချို့မှာ ယဉ်ကျေးဖွယ်ရာ စကားများ တွင်တွင်သုံးထားစေကာမူ သဒ္ဓါတရားတည်းဟူသော အမှန်တရားကိုမြတ်နိုးစိတ်အား အခြေမခံဘဲ ပုဂ္ဂိုလ်ရေးထိုးနှက်တိုက်ခိုက်လိုစိတ်ကိုသာ အခြေခံထားပေရာ ထိုသူတို့၏ဝေဖန်ရေးသည်

စေတနာမမှန်သော ဝေဖန်ရေးအတုအယောင်သာ ဖြစ်ကြောင်း စာဖတ်ပရိသတ်က ကောင်းစွာသိကြပါသည်။

ထို့ကြောင့် ဝေဖန်ရေးဆောင်းပါးရှင်တိုင်း သတိချပ်သင့်သည်မှာ ဝေဖန်ရေးစာတစ်ပုဒ် ရေးတော့မည်ဆိုသည်နှင့် မိမိကိုယ်ကိုပြန်လည် စစ်မေးသင့်သည်။ ငါသည် ဤစာကိုရေးရာ၌ သဒ္ဓါတရား၏ တိုက်တွန်း စေ့ဆော်ချက် ပါဝင်ပါ၏လော ဆိုသည့်အချက်ကို အပြန်ပြန်အလှန်လှန် ဆန်းစစ်သင့်သည်။ မိမိရေးလိုက်သောစာသည် အမှန်တရားထွန်းကားရေး အတွက် တစ်ဖက်တစ်လမ်းမှ အကျိုးပြုနိုင်သည်ဟုယုံကြည်မှ ရေးသင့် သည်။ ထိုသို့မဟုတ်မူဘဲ ထင်ပေါ်လိုစိတ်၊ သူတစ်ဖက်သားကို အပြစ်တင် အနိုင်ယူလိုစိတ်၏ စေ့ဆော်မှုကြောင့် ရေးမည်ဆိုပါက စေတနာမသန့်သလို စာကလည်း သန့်လိမ့်မည်မဟုတ်ချေ။

တစ်ဖက်တွင်လည်း အမှန်တရားကိုမြတ်နိုးခြင်းဟူသည့် ဗုဒ္ဓ အလိုတော်ကျသဒ္ဓါတရားနှင့် ပြည့်စုံသောဝေဖန်ရေးမျိုးကို လက်လှမ်း ကြိုဆိုသင့်ပါသည်။ ဗုဒ္ဓသာသနာတော်တွင် ဝေဖန်ရေးသည် ကြောက်စရာ မဟုတ်ချေ။ မြတ်နိုးစရာသာ ဖြစ်ပေသည်။ အမှန်တရားကို မြတ်နိုးစွာရှာဖွေ နေသူ ဗုဒ္ဓဘာသာဝင်အချင်းချင်း တစ်ဦး၏အမှားကို တစ်ဦးကထောက်ပြ ခြင်းသည် အလွန်ကောင်းမြတ်သော လုပ်ငန်းတစ်ရပ်သာ ဖြစ်ပါသည်။ မိမိအမှားကို ဝေဖန်ထောက်ပြသူထက် သာလွန်ကောင်းမြတ်သော မိတ်ဆွေ မျိုး လောကတွင်မရှိဆိုသည့်အချက်ကို အမှန်တရားမြတ်နိုးသူတိုင်း သိရှိ နားလည်ထားကြပါသည်။

ဤမျှဆိုလျှင် ဗုဒ္ဓအလိုတော်ကျသဒ္ဓါတရား၊ ဆရာတော် အရှင် ခမာဝုစ မိန့်ကြားခဲ့သော ဩဝါဒလာသဒ္ဓါတရားဆိုသည်မှာ အမှန်တရားကို ယုံကြည်မြတ်နိုးခြင်းကိုသာ ဆိုလိုကြောင်း သဘောပေါက်လောက်ပေပြီ။ ဗုဒ္ဓဘာသာဝင် အမျိုးကောင်းသား အမျိုးကောင်းသမီးတို့ အနေနှင့်လည်း ဗုဒ္ဓမြတ်စွာ၏ အဆိုအဆုံးအမနှင့်အညီ အမှန်တရားမြတ်နိုးသောစိတ်ကို အခြေပြုလျက် ကြံစည်ကြ၊ ပြောဆိုကြ၊ လုပ်ကိုင်ကြခြင်းဖြင့် သစ္စာတရား ထွန်းကားသော မြင့်မြတ်ကောင်းမွန်သည့် လူ့ဘောင်လောကသစ်ကို ထူထောင်နိုင်ကြပါစေဟု ဆန္ဒပြုရင်း ဤစာစုကို နိဂုံးချုပ်အပ်ပါသတည်း။

(၃၀-၇-၉၄)

ဓမ္မရံသီ၊ ၁၉၉၄ခုနှစ်၊ အောက်တိုဘာလ။

FUTURE PUBLISHING HOUSE

ဘာသာရေး အမည်ခံ
အတုအယောင် ၊ အလိမ်အလည့်များကို
ကိုယ်ပိုင် အသိဉာဏ်ဖြင့် ဆန်းစစ် ဖယ်ရှားကာ
ထေရဝါဒ ဗုဒ္ဓသာသနာတော်၏ စစ်မှန်သော အဆုံးအမအား
တိတိပပ ဂဃနဏ သိမြင်နားလည်ပြီး
ပစ္စုပ္ပန်ပိုင် ဘဝ၏ အမြတ်ဆုံး ချမ်းသာကို မျက်မှောက်ပြုလိုသူတိုင်း
လက်စွဲပြုရမည့် စာအုပ် ။

